


နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ် (ရန်ကုန်)

တက္ကသီလမဟာဓမ္မာစရိယ M.A (Buddhism) ဘွဲ့ယူကျမ်းစာ

# ရှမ်းတိုင်းရင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ

အရှင်သုခမိန္ဒ (တန့်ယန်း)



ဓမ္မဒါန

# ရှမ်းတိုင်းရင်းသားများ၏

# ယုံကြည်ကိုးကွယ်မှုနှင့်

# ဓလေ့ထုံးစံများ

ကွန်ပျူတာစာစီ

အရှင်ပညာသာမိ (တန့်ယန်း)

စာတည်း

အရှင်ဇာနေယျ (ကျောက်မဲ)

အတွင်းအပြင်ဒီဇိုင်း

အရှင်သုခမိန္ဒ (တန့်ယန်း)

မီးမီး (စတားအင်ပါယာ၊ ရန်ကုန်)

ကာလာခွဲ၊ အတွင်းစာရိုက်

စတားအင်ပါယာ (ရန်ကုန်)

ထုတ်ဝေသူ

ဦးထွန်းမြအောင် (ဒုတိယညွှန်ကြားရေးမှူးချုပ်)

မှတ်ပုံတင်အမှတ် - ၀၃၈၄၅

သာသနာတော်ထွန်းကားပြန့်ပွားရေးဦးစီးဌာန

သာသနာရေးဝန်ကြီးဌာန၊ ကမ္ဘာအေး၊ ရန်ကုန်

အုပ်ရေ

၁၀၀၀

တန်ဖိုး

ဓမ္မဒါန

ထုတ်ဝေသည့်ကာလ

ဒီဇင်ဘာ၊ ၂၀၀၈

နိုင်ငံတော် ပရိယတ္တိသာသနာ့တက္ကသိုလ်(ရန်ကုန်)
သာသနတက္ကသိုလမဟာဓမ္မာစရိယ M.A (Buddhism)
ဘွဲ့အတွက် တင်သွင်းသောကျမ်း

# ရှမ်းတိုင်းရင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့် မလေ့ထုံးစံများ

ကျမ်းပြုသူ - အရှင်သုခမိန္ဒ
ခုံအမှတ် - ကျမ်း၊ ဘိ-၅၂ (၁၃၆၀-၆၁)
၂၀၀၂ ခုနှစ်၊ ဇူလိုင်လ

နိုင်ငံတော် သံဃမဟာနာယကအဖွဲ့
နိုင်ငံတော် ပရိယတ္တိသာသနာ့တက္ကသိုလ်(ရန်ကုန်)
သာသနတက္ကသီလမဟာဓမ္မာစရိယ M.A (Buddhism)
ဘွဲ့အတွက် တင်သွင်းသောကျမ်း

# ရှမ်းတိုင်းရင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ

ကြီးကြပ်သူ - ဦးဥတ္တမ
- ဦးကိုလေး (ဇေယျာမောင်)

ကျမ်းတင်သွင်းသူ - ကျမ်း၊ ဘိ-၅၂ / အရှင်သုခမိန္ဒ
အဘိဓမ္မမဟာဌာန
နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်ရန်ကုန်

၂၀၀၂ ခုနှစ်၊ ဇူလိုင်လ

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# နိုင်ငံတော် သံဃမဟာနာယကအဖွဲ့
# နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ် (ရန်ကုန်)
# အဘိဓမ္မပိဋကမဟာဌာန

## စာစစ်အဖွဲ့၏ အတည်ပြုချက်

၁၃၆၄-၆၅-ခု (၂၀၀၃) ခု ၊ ပညာသင်နှစ် သာသနတက္ကသိလ မဟာဓမ္မာစရိယဘွဲ့အတွက် တင်သွင်းသော ခုံအမှတ် ကျမ်း ဘိ-၅၂ (၆၀) 'အရှင်သုခမိန္ဒ' ၏ "ရှမ်းတိုင်းရင်းသားများ၏ယုံကြည် ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ" ကျမ်းကို စာစစ်အဖွဲ့က ဖတ်ရှုစစ်ဆေးပြီး အတည်ပြုလိုက်ပါသည်။

ကြီးကြပ်သူ (ဦးဥတ္တမ)

အတွင်းစာစစ် (ဦးဂန္ဓမာလာ)

ပြင်ပစာစစ် (ဦးစိုင်းအောင်ထွန်း)

သဘာပတိ
နာယကချုပ်ဆရာတော်
နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသုလ် (ရန်ကုန်)

ကူ

ဆက်ကပ်ပါရန်

ပါမောက္ခဆရာတော်

အဘိဓမ္မပိဋကမဟာဌာန

နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်

ကမ္ဘာအေး၊ ရန်ကုန်။

ရက်စွဲ။ ၁၊၈၊၂၀၀၁

အကြောင်းအရာ။ ။ ကျမ်းစာကွန်ပျူတာ စာစီရိုက်ခွင့်ပြုပါရန်လျှောက်ထားခြင်း။

အထက်ပါ အကြောင်းအရာနှင့် စပ်လျဉ်း၍ တပည့်တော် သုခမိန္ဒ(အရှင်) (အဘိဓမ္မပိဋကမဟာဌာန၊ ကျမ်းပြု)သည် တက္ကသိုလ်များ အုပ်ချုပ်ရေး ဗဟိုအဖွဲ့၏ ၊ ၊ နေ့စွဲပါ ရုံးစာ အမှတ် / အရ ၊ ၊ နေ့တွင် ဗုဒ္ဓဒေသနာ ပြန့်ပွားရေး ပညာဌာန၏ ကြီးကြပ်မှုကို ခံယူ၍ ရှမ်းတိုင်းရင်းသားများ၏ ယုံကြည် ကိုးကွယ်မှု နှင့် ဓလေ့ထုံးစံများ ခေါင်းစဉ်ဖြင့် ကျမ်းပြုစုရန် တာဝန်ပေးခြင်း ခံရပါသည်။ ယခုအခါ တပည့်တော်၏ ကျမ်းကို ကျမ်းကြီးကြပ်တာဝန်ခံ ဆရာတော် ဦးဥတ္တမ ဌာနမှူး၊ ဗုဒ္ဓဒေသနာတော်ပြန့်ပွားရေးပညာဌာနက အထပ်ထပ် ကြည့်ရှုစစ်ဆေးပြီး ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ တပည့်တော်၏ ကျမ်းကို ကွန်ပျူတာ စာစီစာရိုက်ခွင့် ပြုပါရန် ရိုသေစွာ လျှောက်ထားပါသည်ဘုရား။

ခွင့်ပြုပါသည်။

(ဦးဂန္ဓမာလာဘိဝံသ)

ပါမောက္ခဆရာတော်

အဘိဓမ္မပိဋကမဟာဌာန

န၊ ပ၊ သ ကမ္ဘာအေး၊ ရန်ကုန်။

ကျမ်းပြုသူ- သုခမိန္ဒ

ခုံအမှတ်- ဘိ၊ ၅၂ (၁၃၆၀-၆၁)

သို့

ဥက္ကဋ္ဌဆရာတော်
မဟာမဓမ္မာစရိယဘွဲ့ယူ ကျမ်းစာစိစစ်ရေးအဖွဲ့
နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်များအုပ်ချုပ်ရေးအဖွဲ့
ကမ္ဘာအေးကုန်းမြေ၊ ရန်ကုန်မြို့။

ရက်စွဲ။ ၁၃၆၈ ခု၊ သီတင်းကျွတ်လပြည့်ကျော် (၆) ရက်
(၁၂. ၁၀. ၂၀၀၆)

အကြောင်းအရာ။ ။ မဟာမဓမ္မာစရိယဘွဲ့ယူကျမ်းစာကို စာအုပ်အဖြစ် ပုံနှိပ်ထုတ်ဝေခွင့် ပြုပါရန် လျှောက်ထားခြင်း။

အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ ၂၀၀၂ ခု ဇူလိုင်လတွင် တင်သွင်းခဲ့သော ဘုရားတပည့်တော်သုခမိန္ဒ ကျမ်း၊ ဘိ၊ ၅၂ (၆၀) ၏ "ရှမ်းတိုင်းရင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ" ဟူသော မဟာမဓမ္မာစရိယဘွဲ့ယူကျမ်းစာအား စာအုပ်အဖြစ် ပုံနှိပ်ထုတ်ဝေခွင့် ပြုပါရန် ရိုသေစွာ လျှောက်ထားအပ်ပါသည်ဘုရား။

ဤကျမ်းစာကို အတွင်းစာစစ်နှင့် ပြင်ပစာစစ်တို့က (၂၆၊ ၆၊ ၂၀၀၃) ကြာသပတေးနေ့တွင် သေချာစွာစစ်ဆေးပြီး ၂၀၀၃ ခုနှစ်၊ နိုဝင်ဘာလ (၁၇) ရက်နေ့၌ စာအမှတ် ဝ၆၀/၈/နပသ (ဗဟို)/ ၂၀၀၃ ဖြင့် သာသနတက္ကသိလမဟာမဓမ္မာစရိယ **M.A (Buddhism)** ဘွဲ့ စာမေးပွဲကို အောင် မြင်ကြောင်း ကြေညာ၍ ၂၀၀၄ ခုနှစ်၊ ဒီဇင်ဘာလ (၂၆) ရက် တနင်္ဂနွေနေ့တွင် သာသန တက္ကသိလ မဟာမဓမ္မာစရိယ **M.A (Buddhism)** ဘွဲ့ကို ပေးပြီး ဖြစ်ပါသည်ဘုရား။

လျှောက်ထားသူ
သုခမိန္ဒ ကျမ်း-ဘိ၊ ၅၂ (၆၀)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
နိုင်ငံတော် သံဃမဟာနာယကအဖွဲ့
နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်
(ရန်ကုန်/မန္တလေး)
မဟာဓမ္မာစရိယကျမ်းစာ စိစစ်ရေးအဖွဲ့
ရန်ကုန်မြို့

ရက်စွဲ ၁၃၆၈ ခုနှစ်၊ တပေါင်းလဆုတ် ၁၃ ရက်
၂၀၀၇ ခုနှစ်၊ မတ်လ၊ ၁၅ ရက်

သို့

အရှင်သုခမိန္ဒ (ကျမ်း၊ ဘိ-၅၂ (၆၀)
လွယ်တိန်ခမ်းဘုရားကျောင်း
မူဆယ်မြို့၊ ရှမ်းပြည်မြောက်ပိုင်း

အကြောင်းအရာ။ ။ မဟာဓမ္မာစရိယဘွဲ့ယူကျမ်းစာ ရိုက်နှိပ်ဖြန့်ဝေရန် ခွင့်ပြုခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ (၂၂၊ ၁၂၊ ၂၀၀၁) နေ့က ကျင်းပပြုလုပ်သော "မဟာဓမ္မာစရိယ ဘွဲ့ယူကျမ်းစာ စိစစ်ရေးအဖွဲ့"၏ အစည်းအဝေးဆုံးဖြတ်ချက်အရ အရှင်၏ သာသနတက္ကသိုလမဟာဓမ္မာစရိယ ဘွဲ့ယူကျမ်းစာ ရှမ်းတိုင်းရင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများကို သက်ဆိုင်ရာ ကျမ်းကြီးကြပ်ရေးအဖွဲ့သို့ ပြန်လည်ပေးပို့ခဲ့ပါသည်။ ယင်းပြင်ဆင်ချက် ဖြည့်စွက်ချက်များကို ကျမ်းကြီးကြပ်ရေးအဖွဲ့၏ မှတ်ချက်များအတိုင်း ပြန်လည်ပြင်ဆင်၍ ရိုက်နှိပ်ဖြန့်ဝေရန် ဖြစ်ပါသည်။

၂။ ယခုအခါ ယင်းကျမ်းကြီးကြပ်ရေးအဖွဲ့က ပြင်ဆင် ဖြည့်စွက်ချက်

များကို အဖွဲ့သို့ ပြန်လည်ပေးပို့ခဲ့ပါသည်။ ယင်းပြင်ဆင်ချက်၊ ဖြည့်စွက်ချက်များကို ကျမ်းကြီးကြပ်ရေးအဖွဲ့၏ မှတ်တမ်းများအတိုင်း ပြန်လည်ပြင်ဆင်၍ ရိုက်နှိပ်ရန် ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ မဟာဓမ္မာဒရိယဘွဲ့ယူကျမ်းစာ စိစစ်ရေးအဖွဲ့၏ (၁/၂၀၀၁) အစည်းအဝေး ဆုံးဖြတ်ချက်များ ကျမ်းစာရိုက်နှိပ်ခြင်း၊ လုပ်ထုံးလုပ်နည်းများအတိုင်း ဆောက်ရွက်၍ ရိုက်နှိပ်ဖြန့်ဝေခွင့် ပြုလိုက်ပါသည်။

အစည်းအဝေးဆုံးဖြတ်ချက် (၂)

- အပိုဒ်ခွဲ(ဃ) ထုတ်ဝေခွင့်ပြုထားသော ကျမ်းစာအုပ်တွင် ကျမ်းပြု ပုဂ္ဂိုလ်၏ ဘွဲ့ရရှိသည့် ပညာသင်နှစ်၊ ဘွဲ့ယူကျမ်းစာ၊ တက္ကသိုလ် အမည်တို့ကို ဖော်ပြလျက် ထုတ်ဝေရန်။
- အပိုဒ်ခွဲ(င) ရိုက်နှိပ်ပြီးသော ကျမ်းစာအုပ်များကို အနည်းဆုံး အုပ်ရေ (၅၀) တက္ကသိုလ်သို့ လှူဒါန်းရန်။

(ဘဒ္ဒန္တကုမာရ)
အဂ္ဂမဟာပဏ္ဍိတ
ဥက္ကဋ္ဌဆရာတော်

မိတ္တူ

- ဥက္ကဆရာတော် တက္ကသိုလ်များ အုပ်ချုပ်ရေးဗဟိုအဖွဲ့၊ ရန်ကုန်မြို့။
- နာယကချုပ်ဆရာတော်၊ သာသနာ့တက္ကသိုလ်(ရန်ကုန်/မန္တလေး)။
- အဖွဲ့ဝင်များအားလုံးသို့ သိရှိတော်မူရန် ပေးပို့ပါသည်။

ကော်

## တျမ်းပြုသူ၏ ထေရုပ္ပတ္တိအကျဉ်း

| | |
|---|---|
| ၁။ ခမည်းတော်အမည် | ဦးလှရွှေ (သဒ္ဓမ္မဇောတိကဓဇ) |
| ၂။ မယ်တော်အမည် | ဒေါ်ညွန့် |
| ၃။ ဖွားမြင်သည့်နေ့ရက် | ၁၃၂၄၊ နယုန်လဆန်း (၁၃)ရက် |
| ၄။ ဖွားမြင်ရာဒေသ | အမှတ် (၄) ရပ်ကွက်၊ တန့်ယန်းမြို့ ရှမ်းပြည်နယ်မြောက်ပိုင်း |
| ၅။ ငယ်အမည် | စိုင်းသိန်းလွင် |
| ၆။ လောကီ အတန်းပညာ | ဒေသကောလိပ် ဒုတိယနှစ်(သင်္ချာ-သိပ္ပံ) |
| ၇။ ရဟန်းဖြစ်သည့်နေ့ | ၁၃၄၄ တန်ဆောင်မုန်းလပြည့် |
| ၈။ ရဟန်းဖြစ်ရာဌာန | တန့်ယန်းမြို့၊ ဓမ္မဂုဏ်ရည်ခဏ္ဍသိမ် |
| ၉။ ဥပဇ္ဈာယ်ဆရာ | တန့်ယန်းမြို့ အောင်မင်္ဂလာကျောင်း ဦးဇနိန္ဒ(မဟာသဒ္ဓမ္မဇောတိကဓဇ) |
| ၁၀။ စာဝါလိုက်ခဲ့သည့်ကျောင်း | ညောင်ရွှေမြို့ ရွှေဂူစာသင်တိုက်၊ နပသ (ရန်ကုန်) |
| ၁၁။ ပရိယတ္တိအရည်အချင်း | ပထမငယ်၊ ပထမလတ်၊ ပထမကြီး တက္ကသိလဓမ္မာစရိယ B.A(Buddhiam) တက္ကသိလမဟာဓမ္မာစရိယ M.A(Buddhiam).M.A (Sri Lanka) |
| ၁၂။ သာသနာ့တာဝန် | တောင်တန်းသာသနာပြု၊ နယ်လှည့်ဓမ္မကထိက၊ ကမ္မဋ္ဌာနာစရိယ ရှမ်းပြည်နယ်လုံးဆိုင်ရာ ပရိယတ္တိသဒ္ဓမ္မ ပါလစာပြန်ပွဲ အကျိုးတော်ဆောင်၊ |
| ၁၃။ သီတင်းသုံးရာဌာန | လွယ်တိန်ခမ်းကျောင်း မူဆယ်မြို့။ |

မာတိကာ

## အခန်း (၂)

| စဉ် | အကြောင်းအရာ | နှာ |
|---|---|---|

အခန်း(၄)

စဉ် အကြောင်းအရာ



## အခန်း (၅)

အခန်း(၆)

## ကျေးဇူးတင်လွှာ

ဤ"ရှမ်းတိုင်းရင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ"ကျမ်းစာကို ရေးသားရာ၌ ကျမ်းခေါင်းစဉ်ကို သတ်မှတ်ရွေးချယ်ပေးကြသော နိုင်ငံတော်ပရိယတ္တိ သာသနာ့တက္ကသိုလ်(ရန်ကုန်)မှ ပါမောက္ခချုပ်ဆရာတော်၊ ဒုတိယပါမောက္ခဆရာတော်၊ မော်ကွန်းထိန်းဆရာတော်၊ ဌာနအသီးသီးမှ ဌာနမှူးဆရာတော်များ၊ သင်ကြားစီမံဌာနဆိုင်ရာမှ ဆရာတော်များနှင့် လူပုဂ္ဂိုလ်ဆရာကြီးများအားလည်းကောင်း၊

ကျမ်းစာကို အလေးဂရုပြုလျက် အထူးကြပ်မတ် စိစစ်ပေးတော်မူသော ဗုဒ္ဓဒေသနာပြန့်ပွားရေးပညာဌာန၊ ဌာနမှူးဆရာတော် ဘဒ္ဒန္တ ဥတ္တမ အစိုးရဓမ္မာစရိယ၊ B.A (ဒဿနိကဗေဒ)အားလည်းကောင်း၊

ကျမ်းစာကို ရေးသားရာတွင် လိုအပ်သော ကျမ်းစာအုပ်များ၊ အချက်အလက်များကို ရှာဖွေစုဆောင်းပေးသော အရှင်ဓမ္မသာမိ(လဲချား) ဓမ္မာစရိယ၊ M,Phil (Sri Lanka)၊ အရှင်နန္ဒဝံသ (မိုးကုတ်) ဓမ္မာစရိယ M.A (Sri Lanka)၊ အရှင်ဇာနေယျ (ကျောက်မဲ)တက္ကသိလ မဟာဓမ္မာစရိယ M.A (Buddhism) (Thesis)၊ ဆရာကြီး ဦးစိုင်းအောင်ထွန်း (မြန်မာနိုင်ငံသမိုင်းအဖွဲ့ ဒု-ဥက္ကဋ္ဌ)နှင့် ဇနီး ဆရာမဒေါ်နန်းခမ်းနွမ် (အငြိမ်းစား ကျောင်းအုပ်ဆရာမကြီး၊ လသာ ၂)၊ မဟာမုနိ(ခေါ်) စိုင်းပွန်ခမ်း (ရှမ်းစာသုတေသီပညာရှင်)နှင့် ရန်ကုန်မြို့၊ ဗိုလ်တထောင်မြို့နယ်မှ ဦးအောင်မြင့်နှင့် ဇနီး ဆရာမဒေါ်နန်းငွေ "အောင်သပြေ ခြင်ဆေးခွေလုပ်ငန်း"တို့အားလည်းကောင်း၊

ကျမ်းစာမူကြမ်းကို ကူညီဖတ်ရှုစစ်ဆေးပေးတော်မူသော အရှင်ဇာဂရ (ကျောက်မဲ) တက္ကသိလဓမ္မာစရိယ B.A (Buddhism), M.A

(Sri Lanka) အားလည်းကောင်း၊ အရှင်ဇာနေယျ (ကျောက်မဲ) တက္က
သီလမဟာဓမ္မာစရိယ M.A (Buddhism) (Thesis) တို့အား
လည်းကောင်း၊

မိမိကိုယ်တိုင် စာစီစာရိုက်စဉ် ကွန်ပျူတာချို့ယွင်းချက်များကို
လာရောက်စစ်ဆေး ပြင်ဆင်ပေးတော်မူသော အရှင်ဣန္ဒောသာဘ
(ကျောက်မဲ) M.A (Sri Lanka)၊ အရှင်ဇနက (ခေါ်) စဝ်ဆုဝမ်း
(သိန္နီ) B.A (Sri Lanka) တို့အားလည်းကောင်း၊

ကျမ်းစာများကို မိတ္တူပြုလုပ်ရာတွင် စေတနာသဒ္ဓါတရား ရှေ့
ထား၍ ပါဝင်လှူဒါန်းပေးသော ရန်ကုန်မြို့ ကမာရွတ်နေ ခွန်ပွန်းတစ်
(ခေါ်) စိုင်းကျော်လှနှင့် ဇနီး နန်းမေကြူတို့အားလည်းကောင်း၊

မိမိအား ငယ်စဉ်တောင်ကျေး ကလေးဘဝမှစ၍ အစစအရာရာ
သွန်သင်ဆုံးမပေးလာခဲ့သော တန့်ယန်းမြို့ အမှတ် (၄) ရပ်ကွက်နေ
ဝိပဿနာ ကမ္မဋ္ဌာန်းဆရာကြီး ခမည်းတော် ဦးလှရွှေ(ခေါ်) စဝ်မောဝ်လုံ
(သဒ္ဓမ္မဇောတိကဓဇ)နှင့် မယ်တော်ဒေါ်ညွန့်၊ အစ်မတော် ဒေါ်နန်းကြည်
ကြည်သိန်း အပါအဝင် ယောက်ဖတော် စဝ်ဦးမောင်တို့အားလည်း
ကောင်း၊

ရှမ်းပြည်နယ်မြောက်ပိုင်း တန့်ယန်းမြို့ အစိုးရမူလတန်းကျောင်း
မှ အလယ်တန်းကျောင်းအထိ လောကီပညာရပ်များကို သင်ကြားပေးခဲ့
သော ဆရာဆရာမများ၊ မန္တလေးတိုင်း မေမြို့ အမှတ်(၄) စိန်မိုက်ကယ်
အထက်တန်းကျောင်းမှ လောကီပညာရပ်များကို သင်ကြားပေးခဲ့သော
ဆရာဆရာမများ၊ မန္တလေးမြို့ ဒေသကောလိပ် ပထမနှစ်အထိ လောကီ
ပညာရပ်များကို သင်ကြားပေးခဲ့သော ဆရာ ဆရာမများအားလုံးကိုလည်း
ကောင်း၊

လောကုတ္တရာစာပေများကို သင်ကြားပို့ချပေးခဲ့သော ရှမ်းပြည်

နယ်တောင်ပိုင်း၊ ညောင်ရွှေမြို့ သာသနဝိပုလရွှေဂူစာသင်တိုက်မှ ပဓာန နာယကဆရာတော်ဘုရားကြီး ဘဒ္ဒန္တဝိလာသာဘိဝံသ(အဂ္ဂမဟာပဏ္ဍိတ၊ နိုင်ငံတော်သြဝါဒါစရိယ)၊ တိုက်အုပ်ဆရာတော် ဘဒ္ဒန္တတိလောကာ ဘိဝံသ အစရှိသော စာချဆရာတော်များ၊ လှိုင်ကြစာသင်တိုက်မှ တိုက်အုပ်ဆရာတော်အစရှိသော စာချဆရာတော်များ၊ နိုင်ငံတော်ပရိ ယတ္တိသာသနာ့တက္ကသိုလ် (ရန်ကုန်)တွင် တက္ကသိုလ်ပညာရပ်များကို သင်ကြားပေးတော်မူသော ဌာနပေါင်းစုံမှ စာချဆရာတော်များ၊ သင်ကြား စီမံ ဆရာတော်များနှင့် လူပုဂ္ဂိုလ်ဆရာကြီးများအားလည်းကောင်း အထူး ကျေးဇူးတင်ရှိပါသည်။

ကျမ်းစာရေးသားရာတွင် ကိုယ်နှုတ်နှလုံးသုံးပါးဖြင့် ကူညီအား ပေးကြသော ညီတော်နောင်တော်များကိုလည်းကောင်း၊ ရောင်းရင်းများ ကိုလည်းကောင်း၊ မိတ်ဆွေသဟာယများကိုလည်းကောင်း ဤကျမ်းစာမှ နေ၍ အထူးကျေးဇူးတင်ရှိပါသည်။



ကျမ်းပြုစုသူ

# နိဒါန်း

သီတန်ချည်ကြိုးတို့ဖြင့် သီကုံးထားခြင်း မရှိသော ပန်းပွင့်တို့သည် လေတိုက်ခတ်သောအခါ ဖရိုဖရဲ ပြန့်ကျဲပျက်စီးခြင်းသို့ ရောက်ရလေသည်၊ ထို့အတူ လူမျိုးတစ်မျိုး၏ သမိုင်းကြောင်း၊ ယဉ်ကျေးမှု၊ ဓလေ့ထုံးစံ ကိုးကွယ်သည့်ဘာသာ စသည်တို့သည်လည်း သီတန်ချည်ကြိုးတည်းဟူသော စာပေအမှတ်အသားဖြင့် ရေးမှတ်မထားလျှင် ထိုလူမျိုး၏ သမိုင်း ယဉ်ကျေးမှု၊ ဓလေ့ထုံးစံ၊ ကိုးကွယ်သည့်ဘာသာ စသည်တို့သည် အခြားသော လူမျိုးတို့၏သမိုင်း၊ ယဉ်ကျေးမှု၊ ဓလေ့ထုံးစံ၊ ကိုးကွယ်သည့်ဘာသာ တည်းဟူသော လေအဟုန်ကြောင့် ဖရိုဖရဲ ပြန့်ကျဲပျက်စီးခြင်းသို့ ရောက်သွားပေမည်။

ဤ"ရှမ်းတိုင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့်ဓလေ့ထုံးစံများ" ကျမ်းစာသည် ပြည်ထောင်စုဖွား ရှမ်းတိုင်းရင်းသားများ၏ သမိုင်းကြောင်း လူမျိုးအကြောင်း၊ ယင်းတို့၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများတို့ကို စုစည်းတင်ပြထားခြင်းဖြစ်သည်။ ပြည်ထောင်စု မြန်မာနိုင်ငံတော်သည် ပြည်နယ်ခုနစ်ပြည်နယ်နှင့် တိုင်းခုနစ်တိုင်းတို့ဖြင့် ဖွဲ့စည်းထားသော တိုင်းပြည်ဖြစ်သည်။ ယင်းတို့အနက် ရှမ်းပြည်နယ်သည် အကျယ်ပြန့်ဆုံးဖြစ်သည်။ ပြည်နယ်ခုနစ်ခုတွင်လည်း ရှမ်းပြည်နယ်သည် ဗုဒ္ဓသာသနာတော် အထွန်းကားဆုံး ပြည်နယ်ဖြစ်သည်။ ခေတ်အဆက်ဆက်တို့ကို ကျော်ဖြတ်လာခဲ့ရသော်လည်း ရှမ်းတိုင်းရင်းသားများသည် မိမိတို့၏ ရိုးရာယဉ်ကျေးမှု ဓလေ့ထုံးစံများ၊ ကိုးကွယ်ဆည်းကပ်သည့် ဘာသာတရားများကို အစဉ်စောင့်ရှောက် ထိမ်းသိမ်းလာခဲ့ကြသည်။ ထိုသို့ စောင့်ရှောက်

ထိမ်းသိမ်းလာသဖြင့် ယနေ့တိုင် ရှမ်းလူမျိုးများသည် ဗုဒ္ဓဘာသာဝင်များ အဖြစ် ဆက်လက်ရပ်တည်လာခြင်း ဖြစ်သည်။

ဤကျမ်းကို အခန်း(၇)ခန်းဖြင့် ပိုင်းခြား၍ တင်ပြထားပါသည်။

အခန်း(၁)တွင် ရှမ်းဝေါဟာရ အဓိပ္ပါယ် ဖွင့်ဆိုချက်များ၊ ရှမ်းလူမျိုးတို့သည် မိမိကိုယ်ကို "တိုင်း" ဟုခေါ် ဆိုကြသဖြင့် ထို "တိုင်း" ဝေါဟာရ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်များ၊ ရှမ်းလူမျိုးတို့၏ အမည်အမျိုးမျိုး နှင့် နေထိုင်ရာ အရပ်ဒေသတို့ကို ဖော်ပြထားပါသည်။ ရှမ်းတို့၏ အမည် နာမများသည် မောဒေသကို စွဲ၍ "မောရှမ်း"၊ နမ့်လမ်မြစ်(ဝါ) မြစ်နက် ကို စွဲ၍ "တိုင်းလမ် (ခေါ်) ရှမ်းနက်"၊ နမ့်ခွန်(ဝါ)ဂုံမြစ် ကိုစွဲ၍ "တိုင်းခွန် (ခေါ်) ဂုံရှမ်း"၊ အင်းလေးကို အစွဲပြု၍ "တိုင်းနောင် (ခေါ်) အင်းရှမ်း" စသည်ဖြင့် အမည်ကွဲများ များစွာရှိခဲ့သော်လည်း ထိုရှမ်းများသည် လူမျိုး ခြားမဟုတ်၊ လူမျိုးတစ်မျိုးတည်းသာလျှင်ဖြစ်ကြသည်။ အမည်နာမများ မည်မျှပင်ကွဲပြားသော်လည်း ထိုရှမ်းများ၏ အရင်းမူလသည် တစ်နွယ် တည်းသာ ဖြစ်ကြသည်။ ထို့ကြောင့် ၎င်းရှမ်းတို့၏ အမည်ကွဲများနှင့် နေထိုင်ရာဒေသတို့ကို စုစည်း၍ စိတ်ဝင်စားဖွယ်အဖြစ် တင်ပြထားပါ သည်။

အခန်း(၂)တွင် ရှမ်းလူမျိုးတို့၏ သမိုင်းကြောင်းကို စုစည်းတင်ပြ ထားပါသည်။ ရှမ်းလူမျိုးနှင့် တရုတ်လူမျိုး၊ တိဘက်လူမျိုးတို့ သမိုင်း ကြောင်းများ ဆက်စပ်ပုံတို့ ပါဝင်ပါသည်။ လူမျိုးတစ်မျိုး၏ သမိုင်းသည် လွန်စွာအရေးကြီးလှပါသည်။ သမိုင်းမရှိသောလူမျိုးသည် ကမ္ဘာ့အလယ် တွင် မျက်နှာငယ်ကြရစမြဲဖြစ်သည်။ သမိုင်းသည် လူမျိုးတစ်မျိုး၏ မဟာ အင်အားဟုလည်း ဆိုနိုင်သည်။ သမိုင်းကြောင်းများကို ဖတ်ရှုသိမြင်မှသာ မိမိတို့၏ အမျိုးဂုဏ် ဇာတိဂုဏ်များကို ဂုဏ်ယူဝင့်ကြွားနိုင်ပေမည်။ သမိုင်း နောက်ကြောင်းဖြစ်ရပ်များကို သိမြင်ရပြီး သင်ခန်းစာများ၊ အသိပညာ

များ၊ အတုယူဖွယ်များ၊ ရှောင်ကြဉ်ဖွယ်များကို သိမြင်လာနိုင်သည်၊ သမိုင်းပေးသင်ခန်းစာသည် လွန်စွာတန်ဖိုးရှိပေသည်။ ထို့ကြောင့် ဤအခန်း(၂)တွင် ဘီစီ ၂၀၀၀ ကျော်မှစ၍ အေဒီ ၁၅ ရာစုအထိ ရှမ်းလူမျိုးတို့၏ သမိုင်းကြောင်းကို စုစည်းတင်ပြထားပါသည်။

အခန်း(၃)တွင် အေဒီ ၁၃ ရာစုမှ အေဒီ ၁၉ ရာစုအတွင်း ဖြစ်ပျက်လာခဲ့သော ရှမ်းလူမျိုးတို့၏ သမိုင်းများကို ဖော်ပြထားပါသည်၊ ဤအခန်းတွင် ရှမ်းလူမျိုးနှင့် တရုတ်လူမျိုး၊ မြန်မာလူမျိုး ဆက်စပ်ပုံ စသည့် သမိုင်းဖြစ်ရပ်များကို ဖော်ပြထားသည်။

အခန်း(၄)တွင်ကား နယ်ချဲ့အင်္ဂလိပ်များ ရှမ်းပြည်ကို စတင်သိမ်းပိုက်ပုံမှစ၍ ဒုတိယကမ္ဘာစစ်နှင့် ရှမ်းပြည်နယ် အကြောင်းများအပြင် အင်္ဂလိပ်ထံမှ လွတ်လပ်ရေးရနိုင်ရန်အတွက် ပြည်မတောင်တန်း ပူးပေါင်းရေးစာချုပ်ဖြစ်သည့် ပင်လုံစာချုပ် ချုပ်ဆိုပုံ၊ ရှမ်းလူမျိုးများသည် မြန်မာလူမျိုးတို့နှင့်အတူ အင်္ဂလိပ်အထံ လွတ်လပ်ရေး ရယူပုံတို့ကို ဆွေးနွေးတင်ပြထားပါသည်။

အခန်း(၅) တွင် ရှမ်းပြည်နယ်၏ ပထဝီအနေအထားများ၊ တည်နေရာ၊ အကျယ်အဝန်းနှင့် မြေမျက်နှာသွင်ပြင်များ၊ လမ်းပန်းဆက်သွယ်ရေးများ၊ ရှမ်းပြည်နယ်အတွင်းရှိ ရှမ်းလူမျိုးများ၊ ရှမ်းပြည်နယ်အတွင်း မှီတင်းနေထိုင်ကြသော တိုင်းရင်းသားလူမျိုးများ၊ ရှမ်းစကားအနွယ်များ စသည်တို့ကို ဗဟုသုတအဖြစ် စုစည်းတင်ပြထားပါသည်။

အခန်း(၆) တွင် ရှမ်းလူမျိုးတို့၏ ဗုဒ္ဓဘာသာကို ခေတ်အဆက်ဆက် ယုံကြည်ကိုးကွယ်လာပုံများကို ခြုံလုံသော သမိုင်းအထောက်အထားများဖြင့် စုစည်းတင်ပြထားပါသည်။ ဤအခန်းကို ဖတ်ရှုခြင်းအားဖြင့် ရှမ်းလူမျိုးများသည် မည်သည့်ခေတ်အချိန်ကာလတွင် ဗုဒ္ဓဘာသာကို စတင်ကိုးကွယ်ခဲ့သည့်အကြောင်းကို သိမြင်ရပေမည်။ ဗုဒ္ဓတရား

တော်သည် ရှမ်းလူမျိုးတို့၏ အသဲနှလုံးတွင် မည်မျှစွဲမြဲစွာ ယုံကြည်လက်ခံ နေကြသည်ကို သိမြင်ရပေမည်။

အခန်း(၇)တွင် ရှမ်းလူမျိုးတို့၏ ဓလေ့ထုံးစံများကို ဝေဝေဆာဆာ တင်ပြထားပါသည်။ ဤအခန်းကဏ္ဍကို ဖတ်ရှုခြင်းအားဖြင့် ရှမ်းလူမျိုးများ၏ အသွင်အပြင်များ၊ ပုံရိပ်လက္ခဏာများ၊ ၎င်းတို့၏ ယဉ်ကျေးမှုဓလေ့ထုံးတမ်းများကို သိမြင်နိုင်ပေမည်။ လူမျိုး တစ်မျိုးနှင့်တစ်မျိုး ယဉ်ကျေးမှုများ မတူညီနိုင်ကြချေ။ ထို့ကြောင့် မိမိ၏ ယဉ်ကျေးမှု ဓလေ့ထုံးစံများကို မသိရှိပါက ဆက်ဆံရေးတွင် အဆင်မပြေ ဖြစ်တတ်သည်။ သူ့ယဉ်ကျေးမှုကို မသိဘဲ ပြုမူမိလျှင် မယဉ်ကျေးသည့်အဖြစ်သို့ သက်ရောက်နိုင်ပေသည်။ ထို့ကြောင့် ရှမ်းလူမျိုးတို့၏ ယဉ်ကျေးမှု ဓလေ့ထုံးစံများ ဆွေမျိုးတော်စပ်ပုံများ စသည်တို့ကို ဤအခန်းတွင် ဖတ်ရှုလေ့လာနိုင်ပါသည်။

ဤ"ရှမ်းတိုင်းရင်းသားတို့၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ" ကျမ်းစာသည် ပြီးပြည့်စုံသည်ဟု မဆိုနိုင်ပါ။ သို့သော် ဗဟုသုတရှာမှီးသူအတွက်ကားများစွာ အထောက်အကူပြုမည်ဟု ယုံကြည်ပါသည်။ ဤကျမ်းစာမရေးမီ မိမိသည် သမိုင်းဘာသာကို လွန်စွာပျင်းစရာကောင်းသော ဘာသာရပ်ဟု ထင်မှတ်ခဲ့သည်။ ရက်၊ လ၊ ခုနှစ် တို့ကို မှတ်သားရသည်မှာလည်း လွန်စွာခဲယဉ်းသည်။ ထို့ကြောင့် သမိုင်းဘာသာရပ်ကို စိတ်မဝင်စားခဲ့ပေ။

သို့သော် ကံအားလျော်စွာ တက္ကသိလ မဟာဓမ္မာစရိယ M.A (Buddhism) ဘွဲ့အတွက် ဤကျမ်းခေါင်းစဉ် ရေးသားရန် တာဝန်ကျလာသည်နှင့်အမျှ သမိုင်းအကြောင်းကို စိတ်မဝင်စား၍ မဖြစ်တော့ပေ။ ရှမ်းနှင့် ပတ်သက်သော အကြောင်းအရာများကို ရှာဖွေစုဆောင်းခြင်း၊ ဘာသာပြန်ခြင်း၊ ရေးသားခြင်းများ ပြုလုပ်လာသောအခါ ရှမ်းလူမျိုးတို့၏

သမိုင်းကြောင်းရာများကို လွန်စွာစိတ်ဝင်စားလာခဲ့သည်။ ထို့အပြင် အခြားလူမျိုးတို့၏ သမိုင်းများ ကမ္ဘာ့သမိုင်းများကိုလည်း စိတ်ဝင်စားစရာများဖြင့် ပြည့်နှက်နေသည်ကို တွေ့လာသည်။ သမိုင်းဖြစ်ရပ်များ၏ အရေးကြီးပုံကိုလည်း သိမြင်လာပါသည်။ ထို့ကြောင့် ပြည်ထောင်စုဖွား ရှမ်းတိုင်းရင်းသားများ၏ အကြောင်းများကို မိမိရှာဖွေစုဆောင်းမိသမျှ ဤ "ရှမ်းတိုင်းရင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ" ကျမ်းစာတွင် တစ်စုတည်းဖြစ်အောင် ကြိုးစားရေးသားထားပါသည်။

သို့သော် သတိချွတ်ယွင်းသဖြင့် အမှားများ ပါကောင်းပါလိမ့်မည်။ အကယ်၍ အမှားများတွေ့ရှိခဲ့ပါက အသင့်အတင့် နှလုံးသွင်း၍ အမှန်သို့ပြင်ဆင် ဖတ်ရှုကြပါရန် စာဖတ်သူ ပညာရှိသူတော်ကောင်းတို့အား လေးစားစွာ မေတ္တာရပ်ခံပါသည်။

အရှင်သုခမိန္ဒ
ကျမ်းဘိ-၅၂ (၁၃၆၀-၆၁)

# ပဏာမ နှင့် ပဋိညာဉ်

(၁) သီလာဒိသမ္ဘာရာဒီဟိ၊ အတုလံ လောကနာယကံ။
ဗုဒ္ဓံ ဓမ္မဉ္စ သံဃဉ္စ၊ ဂုရုဉ္စ မေ နမာမဟံ။
(ပထမ မဟာရဝိပုလဂါထာ)

(၂) သဒ္ဒေသိယာ သမာစာရံ၊ သုဋ္ဌု ရက္ခန္တိ တံယထာ။
ကဿံ ဟိတာဝဟံ ဂန္ထံ၊ ဒေသိယာ' စာရ ဒီပကံ။
(ပထျာဝတ္တဂါထာ)

(၁) အဟံ-ခန္ဓာငါး၀ အတ္တာသမုတ် အကျွန်ုပ်သည်၊ သီလာဒိသမ္ဘာရာဒီဟိ- စတုပါရိသုဒ္ဓိစသည်အပြား ဘ၀များစွာ သံသရာက ဆည်းပူးခဲ့တောင်း ထိုအကြောင်းစသည်တို့ကြောင့်၊ အတုလံ-ဗြဟ္မာလူနတ် ဘုံသုံးရပ်တွင် နှိုင်းအပ်မဲ့ဘိ တူမရှိသော၊ လောကနာယကံ-လူသုံးပါးတို့၏ ရှေ့သွားခေါင်းဆောင် ဖြစ်တော်မူထသော၊ ဗုဒ္ဓဉ္စ-သစ္စာလေးပါး မြတ်တရားကို ပိုင်းခြားထင်ထင် သိမြင်တော်မူသော မြတ်စွာဘုရားကိုလည်းကောင်း၊ ဓမ္မဉ္စ-မဂ်လေး၀ ဖိုလ်လေးတန် နိဗ္ဗာန်ပရမတ်ဆယ်ရပ်သော တရားတော်မြတ်ကိုလည်းကောင်း၊ သံဃဉ္စ-သံသရာဘေး လာမည့်ရေးကို တွေးကာမျှော်ရှု အရိယာသံဃာဟု ဆိုအပ်သော ရှစ်ယောက်သော ပရမတ္ထ သံဃာတော်မြတ် အပေါင်းကိုလည်းကောင်း၊ နမာမိ-သဒ္ဓါဝေဖြိုး လက်စုံမိုး၍ မြတ်နိုးကော်ရော် ရှိခိုးကန်တော့ပါ၏ အရှင်ဘုရား။

မေ-ရုပ်နာမ်နှစ်ပါး တင်စားမှည့်ခေါ် တပည့်တော်၏၊ ဂုရုဉ္စ-ကျောက်ထီးတန္တု အလေးပြုအပ် ဂုရုမည်မှတ် ဆရာမြတ်အပေါင်းကို

လည်း၊ (သရိတ္ဝာ-ကြည်လင်တမ်းတ သတိရ၍) နမာမိ-ခါခါမြတ်နိုး လက်စုံမိုး၍ ရှိခိုးကန်တော့ပါ၏ အရှင်ဘုရား။ (ဝန္ဒိတွာ-ရှိခိုးပြီး၍)

(၂) သဒေသိယာ- "ရှမ်း"တိုင်းရင်းသားတို့သည်၊ သမာစာရံ-မိမိတို့ ကောင်းစွာကျင့်ကြံအပ်သော ဓလေ့ထုံးစံတို့ကို၊ သုဋ္ဌု-ကောင်းစွာ ရက္ခန္တိ-စောင့်ရှောက်တတ်ကြကုန်၏။ တံယထာ- "ရှမ်း"တိုင်းရင်းသားတို့ လေးစားမြတ်နိုး စောင့်ရှောက်လေ့ရှိသော ထိုဓလေ့ထုံးစံတို့ကို၊ (အဖဲ့-ရုပ်နာမ်နှစ်ခု သဘောစုကို သူငါသမုတ် အကျွန်ုပ်သည်)၊ ဟိတာဝဟံ-ရှမ်းတိုင်းရင်းသားတို့၏ အကျိုးစီးပွားကို ဆောင်တတ်သော၊ ဒေသိယာ စာရ ဒီပကံ-"ရှမ်း"တိုင်းရင်းသားတို့၏ ဓလေ့ထုံးစံများကို ကောင်းစွာ ထွန်းပ ညွှန်ပြတတ်သော၊ ဂန္ထံ- "ရှမ်းတိုင်းရင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ"ဟူသော ကျမ်းစာကို၊ ကဿံ-မကျဉ်းမကျယ် ခုနစ်ခန်းသွယ်လျက် သိဖွယ်မှန်သမျှ မကျန်ရအောင် လုံ့လကြိုးကုတ် အားကုန်ထုတ်လျက် ရေးသားပြုလုပ်ပေအံ့သတည်း။

# အခန်း(၁)

## ၁ း ၁ ။ "ရှမ်း"ဝေါဟာရ ရှင်းလင်းချက်

"ရှမ်း"ဟူသောအမည်သည် အခြားလူမျိုးတို့က ရှမ်းလူမျိုးတို့ကို ခေါ်ဝေါ်သော ဝေါဟာရဖြစ်သည်။ ရှမ်းလူမျိုးတို့ကမူ မိမိကိုယ်ကို "တိုင်း" (Tai) ဟုခေါ်ကြသည်။ ယိုးဒယားနိုင်ငံသားများကမူ "ထိုင်း"(Thai) ဟု ခေါ်ကြသည်။ 'ရှမ်း' (ခေါ်) 'တိုင်း'၏ အဓိပ္ပါယ်နှင့် ပတ်သက်၍ အမျိုးမျိုး ဖွင့်ဆိုထားကြောင်း တွေ့ရပါသည်။ ရှေးမြန်မာကျောက်စာတို့တွင် 'သျှမ်' (သို့မဟုတ်) 'သျှံ' ဟုရေးသားကြသည်။ ဤဝေါဟာရသည် အာသံ (အရှမ်း)၊ အဟုမ်၊ ဆိုင်းယမ်း၊ စိအန်(သို့မဟုတ်) စိအန်လိုဟူသော ဝေါဟာရများနှင့် ထပ်တူဖြစ်သည်။ ရှေးအကျဆုံး အမည်မှာ "လောဝ်" (သို့မဟုတ်)"အိုက်လောဝ်"ဖြစ်ဟန်တူသည်။[၁]

'သျှာမ်း'ဟူသော ဝေါဟာရကို ရှမ်း မြန်မာ ပါဠိ ပညာရှင်ကြီးများ က "သာမိ က္ကသာရိယတိတိ သာမိ။ ။ သာမိ-အရှင်သခင်အဖြစ်ဖြင့်၊ က္ကသာရိယတိ-အစိုးရတတ်၏။ က္ကတိတသ္မာ-ထို့ကြောင့်၊ သာမိ-သာမိ မည်၏"ဟု ဝိဂြိုဟ်ပြု ဖွင့်ဆိုထားသည်။[၂] ဤသို့ဖွင့်ဆိုခြင်းမှာ ရှမ်းလူမျိုး များသည် ခတ္တိယနွယ်စဉ် သာကီဝင်တို့မှ ဆင်းသက်လာသည်ဟု ယူဆ ခြင်းဖြစ်သည်။

"ရှမ်း"ဟူသော ဝေါဟာရသည် ထို"သာမ"ဟူသော ပါဠိမှ 'သျှာမ' ။ ၎င်း"သျှာမ"မှ တစ်ဆင့်"သျှာမ် > သျှံ > သျှံး > သျှမ်း>ရှမ်း" ဟု ရေးသားကြသည်ကိုလည်း တွေ့ရသည်။

ဤကဲ့သို့ မြန်မာမှု၌ (သ)အက္ခရာတွင် (ျ)ယပင့် (ှ)ဟထိုး

---

၁။ ဘရှင်(ဦး) မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁)၊ ရှမ်းလူမျိုး၊ နှာ-၃၆၉။

၂။ ခေမိန္ဒ (ဦး) မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ-၂၉။

(-၁)ရေးချ (မ) အက္ခရာသတ်နှင့် "သျှာမ်း"ဟု အရေးအသား ပြုလာခဲ့ကြခြင်းများသည် သက္ကတအလိုဖြစ်သော သဒ္ဒါမျိုးဖြစ်၍ သာလွန်သင့်လျော်ကောင်းမြတ်သော ရေးထုံးရေးနည်းတစ်ရပ်ဖြစ်ကြောင်းကို သိမှတ်ရာ၏။ "သုဝဏ္ဏသာမ"ကို သုဝဏ္ဏသျှာမ် > သုဝဏ္ဏသျှံ" ဟုရေးထုံးပြုသကဲ့သို့ "သာမ" ကိုလည်း"သျှာမ် > သျှမ်း > သျှံ"ဟု ရေးသားလာခဲ့ကြသည်။[၁]

ရှေးဟောင်းမြန်မာကျောက်စာတို့တွင် အေဒီ ၁၁၂၀ ပြည့်နှစ်မှစ၍ "သျှံ၊ သျှမ်" ဟုတွေ့ရသည်။ ချမ်ကျောက်စာတို့တွင်မူ ရှမ်းအမည်ကို အေဒီ ၁၀၅၀ ပြည့်နှစ်မတိုင်မီက တွေ့ရသည်။[၂]

ရှမ်းလူမျိုးနှင့် ရှမ်းအခေါ်အဝေါ် ဝေါဟာရများကို ပုဂံကျောက်စာများတွင် မကြာမကြာတွေ့ရသည်။ သျှာမ်း(ရှမ်း)လူမျိုး အကြောင်းကို (၁၁၂၀ အေဒီ)မှ စ၍ အကြိမ် (၂၀)ထက်မနည်း ပုဂံကျောက်စာတွင် ဖော်ပြထား၏။[၃]

"သျှာမ်း"ဟူသော အမည်ပညတ်နှင့်စပ်လျဉ်း၍ ရှမ်းပြည်မြန်မာပြည် အကြောင်းကို ရေးသားခဲ့ကြသော ဆာဂျော့စကော့ စသည့်ပုဂ္ဂိုလ်များက "သျှာမ်း"ဟူသော အခေါ်အဝေါ်ကို မြန်မာလူမျိုးနှင့် အခြားလူမျိုးများက အသုံးပြုခေါ်ဝေါ်ကြ၏။ မည်သည့်အတွက်ကြောင့် အသုံးပြုသည်ဟူ၍ ခိုင်လုံသောအထောက်အထား မရှိဟုဆိုသည်။ သို့သော် မစ္စတာတီရီရန်ဒီလာကိုပီရီ (Mr. Terrien de lacouperie)တမူ "The Cradle of the Shan Race" စာအုပ်၌-

"တရုတ်ပြည်တွင် Hia (ဟီရ) မင်းဆက်ကို ဖြိုဖျက်ခဲ့

---

၁။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ-၂၈။

၂။ ဘရှင် (ဦး)၊ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁)၊ ရှမ်းလူမျိုး၊ နှာ-၄၀၄။

၃။ သန်းထွန်း (ဦး)၊ ရှေးဟောင်းမြန်မာရာဇဝင်၊ နှာ-၂၁၉။

သော ကုန်သည်များဟူ၍ အဓိပ္ပါယ်ရှိသည့် Shang (ရှံ)လူမျိုးများမှာ ရှမ်းလူမျိုးများနှင့် ဆက်သွယ်ကြကြောင်း၊ တရုတ်ပြည်အလယ်ပိုင်းတွင် နေထိုင်ခဲ့သော အရင်းမူလတစ်မျိုးတည်း ဖြစ်ခဲ့သည့် တိုင်းရင်းသား လူမျိုးစုတို့၏ ဝေါဟာရများတွင် Tchang (ဆန်)၊ Saing (ဆိုင်)၊ Shen (ရှင်)၊ Sien (စီရင်) အစရှိသော အမည်များနှင့် များစွာတူညီသော အမည်များတွေ့ရှိရကြောင်း ရေးသားထားသည်ကို တွေ့ရသည်။[၁]

၎င်း၏ အဆိုကို ကျနစွာစိစစ် ကြည့်ရှုလျှင် "သျှာမ်း"ဟူသော အမည်နာမသည် "ကုန်သည်များ"ဟူ၍ အဓိပ္ပါယ်ရသည့် Shang (ရှံ)မှ ဆင်းသက်လာသော အမည်များအနက် နောက်ဆုံးခေါ်တွင် ကျန်ရစ်ခဲ့သော အမည်ဖြစ်သည်ဟု မှတ်ယူဖွယ်ရာရှိပေ၏။[၂] ဘီစီ ၁၁၂၂ ခုနှစ်တွင် တရုတ်ရှံ (Shang) တို့ကို တိုက်ခိုက်သောကြောင့် Shang မှ တဆင့် Shan ဟု အမည်ရလာသည်ဟုလည်း ဆိုသည်။[၃]

၎င်းအပြင် မစ္စတာကော့ကရိန်းရေးသားသော "The Shans" စာအုပ်တွင် "ဝ" နှင့် "လွယ်လ" တိုင်းရင်းသားများက ရှမ်းကို Shen(ရှံ) ဟုခေါ်ကြောင်း၊[၄] ကန်တုန်နီဘာသာအားဖြင့် Tsim (စင်မ်) ဟုခေါ်ကြောင်း ရေးသားထားသည်။[၅] ကချင်တိုင်းရင်းသားလည်း ရှမ်းကို Sam (ဆန်-မ်)ဟု ခေါ်သည်ကို တွေ့ရသည်။ မွန်လူမျိုးများက ရှမ်းကို Seam (ဆိန်-မ်)ဟု ခေါ်ကြသည်။ တနင်္သာရီဒေသတွင် နေထိုင်ကြသော မြန်မာ

---

၁။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ-၂၄-၂၅။
၂။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၂၅။
၃။ Hsen (Khur). The Origin of Tais and A Short History of Shan. P.10.
၄။ Cochrane (W.W) The Shans. P.22
၅။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ-၂၅။

မျိုးနွယ်စုများကလည်း ယိုးဒယား(ထိုင်း)ကို " Shan (ရှမ်း)" ဟုပင်ခေါ် ဝေါ်ကြသည်။ အနောက်နိုင်ငံသားများကလည်း ယခင်က ယိုးဒယား (ထိုင်း)ကို Saim (ဆယမ်) ဟုခေါ်သည်။

အခြားစကားလုံးများတွင် အစွန်းအစတွေ့နိုင်သော အပြောင်းအလဲများနှင့် ဤစကားပုံစံများကို နှိုင်းယှဉ်သော်"သျှာမ်း" ဟူသော စကားလုံးပုံစံ၏ လက်ခံနိုင်သည့် စကားလုံးပင်ဖြစ်သည့် Shang (ရှံ) သို့မဟုတ် Shiang (ရှိုင်)မှာ သင့်လျော်စွာ လက်ခံနိုင်သည့် စကားပင်ဖြစ်ကြောင်း စသည်ဖြင့်ရေးသားခဲ့သည် ဖြစ်သောကြောင့် အထက်ပါ ပုဂ္ဂိုလ်ကြီးများ၏ အဆိုနှစ်ရပ်စလုံးပင် ညီညွတ်လျက်ရှိသည်ကို တွေ့မြင်ရပေတော့၏။[၁]

မြန်မာအသံထွက်ဖြင့် မြန်မာပြည်တွင် ရှမ်း (Shan) ဟု ခေါ်နေသော ဝေါဟာရသည် Rhwam > Yhwam > Hyam > Cyam > Sham > Shan ဟူ၍ အဆင့်ဆင့်ပြောင်းလဲလာခဲ့သည် ဟုဆိုသည်။ အာသံသည် ပါဠိ၊သက္ကတဖြစ်သော "အသမ" (Asama) ' မညီညွတ်ခြင်း ' (မြေမျက်နှာသွင်ပြင် မညီညွတ်ခြင်း) တည်းဟူသော ဌာနကိုအစွဲပြု၍ ထိုဒေသ၌ နေထိုင်သော ရှမ်းများကို "အာသမ်" (အာသံရှမ်း) ဟုခေါ်ဆိုလာကြသည်။ ထို "အသမ်" မှတစ်ဆင့် "အာသံ" ဟုပြောင်းလဲလာသည်။ {Asama > Asam> A-Sam (or) A-Cam}[၂]

Shan ဟူသော စကားလုံး၏ အရင်းအမြစ်မှာ Sam (သို့မဟုတ်) Sham မှ ဆင်းသက်လာသည်။ Shan > Sham > Sam ဟု စတင်ခေါ်ခြင်းမှာ ဂျင်းဖော(ကချင်)လူမျိုးများက စတင်ခေါ်သည်ဟု

---

၁။ ခေမိန္ဒ (ဦး) မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၂၅။
၂။ Sasanananda (S.) History of Buddhism in Assam. P.18.

ဆိုသည်။ ဂျင်းဖောများက ရှမ်းကို Sam ဟုသာ ခေါ်ကြသဖြင့် ထို Sam မှ တဆင့် မြန်မာတို့ကလည်း Shan ဟုခေါ်ဝေါ်လာကြသည်ဟု ဆိုသည်။ မိုဟာမေဒင် သမိုင်းဆရာများက အာသံကို Asham ဟု ရေးသားကြသည်။ အင်္ဂလိပ်လက်ထက်တွင် 'S' ကို အစပြု၍ ရေးသားကြသဖြင့် Sham > Shan > Ashan ဖြစ်လာပြီး Assam သည် တိုင်းပြည်ဒေသ၏ အမည်အဖြစ် ခေါ်ဆိုအသုံးပြုလာကြသည်။[၁]

သက္ကရာဇ် ၁၁၅၁ ခုနှစ်၊ သီဟိုဠ်မင်းက ယိုးဒယား(ထိုင်း)နိုင်ငံကို ပေးသော 'သံ'စာတွင် "သျှာမ်း" ဟူသော နာမည်ကိုစွဲ၍ "သာမရဋ္ဌ" ဟု ပါဌ်စီကြောင်းနှင့် မုတ္တမရာဇဝင်ပေါင်းချုပ်ကျမ်း၌ ရေးသားထားသည်ကို တွေ့မြင်ရသည်။ ထို့အပြင် ထိုစာ၌ "သျှာမ်းပြည်ရှိသည့် သျှာမ်းလူမျိုးတို့မှာ အရပ်ရပ်သို့ လှည့်လည်သွားလာ ကူးသန်းရောင်းဝယ်တတ်သော ကုန်သည်ကြီးများ ဖြစ်ကြသည်"ဟုလည်းဆိုသည်။[၂]

"သာမ"ဟူသည်မှာ မာဂဓအဘိဓာန်၌ "သာမဗေဒင်"ဟူသော အနက်၊ ငြိမ်သက်ကြေချမ်းအောင်ပြုခြင်း 'သာမဥပါယ်'ဟူသောအနက်၊ ဝါဝင်းစိုပြေရွှေသောအနက် စသည်တို့ဖြစ်၏။ ဤအရာ၌ ဝါဝင်းစိုပြေရွှေသော အရောင်အဆင်း ရှိသည်ကို စွဲ၍ "တိုင်း" (ခေါ်) သျှာမ်း"လူမျိုးတို့ကို "သာမ"လူမျိုး၊ ဌာနီဖြစ်သော "လူမျိုးဒြပ်"၏ "သာမ" ဟူသော အမည်ကို ဌာနဖြစ်သော တိုင်းပြည်၌ တင်စား၍ ဌာနျူပစာအားဖြင့် သျှာမ်းတိုင်း သျှာမ်းပြည်ကိုလည်း "သာမရဋ္ဌ-သာမတိုင်း/သာမပြည်" ဟူ၍ သီဟိုဠ်ကျွန်းနှင့် မဇ္ဈိမဒေသစသော တိုင်းကြီးပြည်သားတို့က ရေးသားခေါ်ဆိုကြဟန် တူလေသည်။[၃]

---

၁။ Sasanananda (S.) History of Buddhism in Assam. P.18-19.

၂။ ခေမိန္ဒ၊ (ဦး) မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ ၂၆-၂၇။

၃။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ ၂၇။

ထို့ကြောင့် အချို့သော ပညာရှင်များက ရှမ်းလူမျိုးတို့၏ ဝါဝင်းစို ပြေသော အသားအရေကို ကြည့်၍ "သာမော ဝဏ္ဏော ဧတေသန္တိ သျာမော" ဧတေသံ-ဤပုဂ္ဂိုလ်တို့အား၊ သာမောဝဏ္ဏော-ရွှေအဆင်းနှင့် တူသော ဝါဝင်းသော ကိုယ်အဆင်းသည်၊ အတ္ထိ-ရှိ၏၊ ဣတိတသ္မာ-ထို့ ကြောင့်၊ တေ-ထိုပုဂ္ဂိုလ်တို့သည်၊ သျာမော-သျာမမည်၏ (ဝါ) သျာမ်း=ရှမ်း မည်၏" ဟု ဝိဂြိုဟ်ပြု ဖွင့်ဆိုထားလေသည်။ [၁]

တစ်နည်းအားဖြင့် မည်သည့်အလုပ်အကိုင်၊ အရာဌာနမျိုးတို့၌ မဆို တစ်ဦးနှင့်တစ်ဦး စိတ်ဝမ်းမကွဲမပြား ဆောင်ရွက်လုပ်ကိုင်နိုင်စွမ်းရှိ သည်ကို "သာမသတ္တိ" ဟူ၍ ဆိုသည်။ ထိုသာမသတ္တိနှင့် ပြည့်စုံသည်ကို အကြောင်းပြု၍ 'တိုင်း' (ခေါ်)'သျှမ်း'လူမျိုးများကို "သာမလူမျိုး"ဟူ၍ပင် ခေါ်ဆိုအပ်သည်။ ထို့ကြောင့် ရှမ်းပညာရှိများက ရှမ်းဘာသာဖြင့် "ၽွမ်ႉ ၽဵင်,ၶူမ်;ခၼ်ဝႆး–လင်,ပ်ိၼ်တႆးမၢၼ်,လႄႈ (ဖွမ့်ဖိန်ဟုံ့မ်ခန်ဝိုင်း-စန်ပိန် တိုင်းမန်စိုင်)" ဟု ကဗျာလင်္ကာ စပ်ဆိုထားကြလေသည်။ အဓိပ္ပါယ်မှာမည် သည့်အလုပ်အကိုင်ဌာနမဆို တစ်ဦးနှင့်တစ်ဦး စိတ်ဝမ်းမကွဲမပြား၊ တညီ တညွတ်တည်း ဆောင်ရွက်လုပ်ကိုင်နိုင်စွမ်းရှိပြီး သာမသတ္တိနှင့် ပြည့်စုံမှု သာ "တိုင်း" (ရှမ်း) လူမျိုးအစစ်ဖြစ်၏ဟု ဆိုလိုသည်။ [၂]

ရှေးခေတ် မြန်မာကျောက်စာများတွင်လည်းကောင်း၊ မြန်မာ စာပေတွင်လည်းကောင်း "သျှမ်"(သို့မဟုတ်) "သျှာမ်း"ဟု ရေးသားကြ သော်လည်း ယခုအခါ "ရှမ်း"ဟုသာ ရေးသားလာခဲ့ကြတော့သည်။ "ကဝိ မျက်မှန်သတ်ပုံကျမ်း" ၌ "ရှမ်း"နှင့်ပတ်သက်၍ "လူမည်ငရှမ်း၊ လူမျိုးရှမ်း၊ ရှမ်းပြည်(မ)သတ် (ရ)ကြီးမှတ်"ဟု သံပေါက်ကဗျာစပ် ဆိုထားသည်ကို တွေ့ရသည်။ [၃]

---

၁။ ဝိလာသာဘိဝံသ (ဘဒ္ဒန္တ) ရွှေဂူဆရာတော်၊ ညောင်ရွှေ ရှမ်းပြည်တောင်ပိုင်း။
၂။ ခေမိန္ဒ (ဦး) မိုးမိတ်ရာဇဝင်တော်ကြီး နှာ၊ ၂၇။
၃။ ခေမိန္ဒ (ဦး) မိုးမိတ်ရာဇဝင်တော်ကြီး နှာ၊ ၂၈။

ထိုသို့ရေးသားကြရာ၌ မူလ အခြေခံအားဖြင့်သော်ကား ရှမ်းလူမျိုးတို့၏ အရေးအသားဖြစ်သော (ရှ - ဟ) အက္ခရာသည် မြန်မာလူမျိုးတို့၏ အရေးအသားဖြစ်သော 'ရ'ကောက် 'ဟ'ထိုး (ရှ)နှင့် ဆင်တူတူရှိသည်ဖြစ်ရကား ရှမ်းအရေးအသားဖြစ်သော "ထမ်းဆောင်ခြင်း" အဓိပ္ပါယ်ရှိသည့် (ရှံ - ဟံ) ဟူသော ဝေါဟာရစကားလုံးမှ မြန်မာအရေးအသားတွင် (ရှံ > ရှံး > ရှမ်း )ဖြစ်လာသည်။ ထိုအခါမှစ၍ ယခုသမယတိုင်အောင် (ရ)ကောက်(ဟ)ထိုးနှင့် "ရှမ်း"ဟု ရေးထုံးရေးနည်း ပြုလာခဲ့ဟန်တူလေသည်။ ဥပမာ ရှမ်းလူမျိုးတို့၏ အရေးအသားဖြစ်သော "ငွေ့လီ{ရှူလ်;လီ}(ဟွေလီ)မှ 'ရွှေလီ'၊ "ယွင်;ငွေ့{ယွင်ရှူလ်;}မှ ညောင်ရွှေ"ဟု အစဉ်အတိုင်း မြန်မာမှု၍ ရေးသားပြန်ဆိုကြသကဲ့သို့ပင်တည်း။ ထိုသို့ရေးသားပြန်ဆိုကြရာ၌ အနက်အဓိပ္ပါယ်အားဖြင့် ဟုတ်မှန်သောအတိုင်း လိုရင်းမကျသော်လည်း ဘာသန္တရ၌ လိမ္မာကျွမ်းကျင်ခြင်း မရှိသော အဖြစ်မှတစ်ပါး အခြားအပြစ်ဆိုရန် မရှိဖြစ်လေသည်။[၁]

"သျှမ်း"ကို "ရှမ်း"ဟု ရေးသားကြခြင်းမှာ ရှမ်းလူမျိုးများ ကြိုက်နှစ်သက်ခြင်း မရှိကြဟု သိရသည်။ "ရှမ်း"ဟူသောအရေးအသားမှာ ယခုခေတ်သစ် ရှမ်းစာပေအဓိပ္ပါယ်တွင် "ဖွဲ့နှဲ"ဟူ၍လည်းကောင်း၊ "ချသည်၊ တိုက်ခိုက်သည်၊ ရိုက်နှက်သည်)"ဟူ၍လည်းကောင်း အဓိပ္ပါယ်ရှိသောကြောင့်ဖြစ်သည်။

မြန်မာအဘိဓာန်တွင် "ရှမ်း"ကို ထိုင်းတရုတ်အုပ်စုဝင် ဘာသာစကား တစ်မျိုးကိုပြောသော မြန်မာတိုင်းရင်းသားတစ်မျိုး၊ (ရှမ်းပြည်နယ်၊ ကချင်ပြည်နယ်၊ ချင်းတွင်းအထက်ပိုင်းဒေသတို့တွင် အများအားဖြင့်နေထိုင်သည်။ )[၂] ဟုဖွင့်ဆိုထားသည်ကို တွေ့ရသည်။

---

၁။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၂၂၈-၉။
၂။ မြန်မာစာအဖွဲ့. မြန်မာအဘိဓာန်၊ နှာ- ၃၂၃။

အချုပ်အားဖြင့်ဆိုရသော် "သျှာမ်း"(သို့မဟုတ်) ရှမ်း"ဟူသော အဓိပ္ပါယ်မှာ-

- အရှင်သခင်အဖြစ်ဖြင့် အစိုးရတတ်ခြင်း၊
- ရွှေအဆင်းနှင့်တူသော ဝါဝင်းသော ကိုယ်အဆင်းရှိခြင်း၊
- မညီညာသော တောင်ကုန်းတောင်တန်းဒေသတို့၌ နေထိုင်ခြင်း၊
- ကုန်သွယ်မှုကိုပြုတတ်ခြင်း၊
- တစ်ဦးနှင့်တစ်ဦး စိတ်ဝမ်းမကွဲမပြား ဆောင်ရွက်လုပ်ကိုင်နိုင်စွမ်း "သာမသတ္တိ" ရှိခြင်း တို့ဖြစ်သည်။

၁ : ၂။ 'တိုင်း'ဝေါဟာရရှင်းလင်းချက်။

'တိုင်း'ဟူသော ဝေါဟာရသည် ကမ္ဘာပေါ်တွင်ရှိသော ရှမ်းလူမျိုးများက မိမိကိုယ်ကိုမိမိ ပြန်လည်၍ ခေါ်သော ဝေါဟာရဖြစ်သည်။ သို့သော် ရှမ်းလူမျိုးများသည် မိမိကိုယ်ကိုမိမိ "တိုင်း"ဟူ၍ ခေါ်ဝေါ်ခဲ့ကြသည်မှာ မည်သည့်ခေတ် မည်သည်ကာလတွင် စတင်၍ခေါ်ဝေါ်ကြသည်ကို တိတိကျကျ မသိရှိရပေ။ အချို့သော သမိုင်းပညာရှင်များကမူ 'တိုင်း'ခေါ် 'ရှမ်း' လူမျိုးများသည် အန်းတိုင်းတောင် (Altai Mountain ) မှ ဆင်းသက်လာသဖြင့် 'တိုင်း'ဟုခေါ်တွင်လာကြောင်း။[၁] တရုတ်လူမျိုးတို့သည် ရှမ်းကို 'တာ၊ တိုက်၊ တိုင်၊ ဒွေလ်'ဟုခေါ်ကြသည်။ အချို့ကမူ လွန်ခဲ့သော နှစ်ပေါင်း ၆၀၀၀ ကျော် (ဘီစီ-၄၀၀၀)ခန့်တွင် ရှမ်းလူမျိုးတို့သည် အီရတ်နိုင်ငံအတွင်းရှိ တိုင်းဂရစ် Tigris မြစ်ဝှမ်းတွင် နှစ်ထောင်ပေါင်းများစွာ နေထိုင်လာသဖြင့် 'တိုင်း'ဟု ခေါ်ကြောင်းလည်း ယူဆကြသည်။[၂]

---

၁။ Hsen (Khur). The Origin of Tais and A Short History of Shan.P. 3

၂။ မုန့်ခ် (မဟာ) ဆိုင်တဲင်း အမှတ်(၄) "တိုင်း" အဓိပ္ပါယ်ဖွင့်ဆိုချက် နှာ ၁၇။

အချို့သော သမိုင်းပညာရှင်များ၏ ယူဆချက်အရ 'တိုင်း'ခေါ် 'ရှမ်း' လူမျိုးများသည် ယခုလက်ရှိ တရုတ်ပြည်တွင် တရုတ်လူမျိုးတို့ထက် စော၍ မြို့ပြတိုင်းနိုင်ငံကို တည်ထောင်ခဲ့သဖြင့် တရုတ်လူမျိုးများက ရှမ်းလူမျိုးကို "တာ့ကော-အစ်ကို" ဟုခေါ်ကြသည်။[၁] ထို့ကြောင့် 'တိုင်း' ဟူသော ဝေါဟာရသည် တရုတ်စကား "တာ့"မှ ဆင်းသက်လာသည်ဟု ဆိုသည်။ "大 -တာ့"(ကြီးသည်)ဟူသော တရုတ်စာလုံးကို ကန်တုန် တရုတ်များက "တိုင်"ဟု အသံထွက်ပြီး တဲ့ကျူတရုတ်များက "တအိ"(လူမျိုးကြီး)ဟု အသံထွက်သည်။ အလယ်ပိုင်းတရုတ်များက "တိုက်" (နတ်ပြည်၊ ကောင်းကင်) ဟု အသံထွက်ကြသည်ကို တွေ့ရသည်။ ဤသို့ဆိုလျှင် "တိုင်း" ဟူသော ဝေါဟာရသည် တရုတ်စကား "တာ့"မှ ဆင်းသက်လာပြီး "ကြီးမားသည်၊ ကြီးကျယ်သည်၊ ထွန်းလင်းသည်၊ တောက်ပသည်၊ ကောင်းကင်၊ နတ်ပြည်"ဟု အဓိပ္ပါယ်ရှိသည်။[၂]

သို့သော် တချို့သော သမိုင်းပညာရှင်များ၏ အမြင်အရ တရုတ်လူမျိုးတို့သည် မိမိတို့ တရုတ်လူမျိုးများသည်သာ ဟန့်မဟာလူမျိုး(Han the great) အဖြစ် တင်စားခေါ်ဝေါ်ပြီး တရုတ်ပြည်တောင်ပိုင်းနှင့် အနောက်တောင်ပိုင်းတွင် နေထိုင်သည့် လူမျိုးများကိုသိမ်းကျုံး၍ Fan-yain) လူရိုင်း၊ Uncivilian မိုက်မဲသူ၊ Barbarian တိုးတက်မှုမရှိသေးသောသူဟူ၍ ခေါ်ဆိုကြခြင်းမှာ "တိုင်း"လူမျိုးများကို ခေါ်ဆိုခြင်း မဟုတ်တန်ရာဟု ယူဆကြသည်။ အဘယ်ကြောင့်ဆိုသော် "တိုင်း"(ခေါ်) "ရှမ်း" လူမျိုးများသည် တရုတ်လူမျိုးထက်စော၍ တရုတ်ပြည် အတွင်း၌နေထိုင်လာခဲ့သူများဖြစ်ပြီး တောင်ဘက်သို့ ရွှေ့ပြောင်းလာခဲ့သူများဖြစ်ကြောင်း

---

၁။ အောင်ထွန်း(စိုင်း)၊ ရှေးခေတ်တိုင်းလူမျိုးများ မူလနေထိုင်ရာ အရပ်ဒေသမှ အာရှအရှေ့တောင်ဘက်သို့ ဆင်းသက်ပြန့်ပွားလာပုံ။ နှာ၊ ၂။

၂။ မုန့်ခ် (မဟာ) ဆိုင်တဲင်း အမှတ်(၄) "တိုင်း" အဓိပ္ပါယ်ဖွင့်ဆိုချက်၊ နှာ၊ ၁၇-၁၈။

တရုတ်သမိုင်းတွင် အောက်ပါအတိုင်း အထင်အရှားတွေ့ရသည်။[၁]

အေဒီ (၇၄၂) နှင့် အေဒီ (၇၄၈-၇၅၄) နန်ချောင်ဘုရင် ခွန်လုဖုံးလက်ထက်၌ သူ၏နန်းတွင်း ကျောက်စာတိုင်တွင်-"ထိုအချိန်က 'တိုင်း' လူမျိုးတို့သည် မိမိတို့၏ လက်နက်နိုင်ငံတော်ကို တည်ထောင်၍ မိမိကိုယ်ကို 'တိုင်း'ဟုခေါ်ပြီး တရုတ်တို့နှင့် အားပြိုင်ခဲ့သည်။ တရုတ်တို့သည် ဘီစီ (၂၂၁) မှစ၍ မိမိတို့တရုတ်လူမျိုးများသည်သာ 'မဟာတရုတ်လူမျိုးဖြစ်သည်ဟုဆိုပြီး ကျန်လူမျိုးများကို အရိုင်းအစိုင်းများဟု အထင်သေး၍ နှိမ့်ချသဖြင့် ရှမ်းလူမျိုးတို့သည် 'တိုင်းမိန်း-ရှမ်းနိုင်ငံ'ကို တည်ထောင်သည်။ (တရုတ် အသံထွက်ကား "တာ့မိန်"ဟု အသံထွက်သည်)။[၂]

ယခုအခါ ကန်တုန်နယ်၊ ကန်ဆီနယ်၊ ယူနန်နယ်စသော 'တိုင်း ဆုန့်-ဆုန့်ရှမ်း)တို့၏ နေရာဒေသတို့တွင် ရွာအမည်၊ မြို့အမည်၊ မြစ်အမည်၊ တောင်အမည်တို့သည် 'တိုင်း' ဟူသော အခေါ်များ များစွာရှိသည်။ ဥပမာ- တိုင်းလုံရွာ၊ တိုင်းမိုင်းရွာ၊ တိုင်းကော့ရွာနှင့် 'တိုင်ရင်ကောင်း-တိုင်းလူမျိုးမြစ်'၊ တိုင်ရင်ဆန်း-တိုင်းလူမျိုး၏တောင်' စသည်ဖြင့် 'တိုင်'နှင့် ပတ်သက်သော အမည်နာမများ များစွာရှိလေသည်။ 'ဆုန့်ရှမ်း' များသည် ကိုယ်ပိုင်စာပေမရှိသဖြင့် တရုတ်စာကို အသုံးပြုရေးသားကြသည်။ "တာ့" ဟူသော တရုတ်စာလုံးကို 'ဆုန့်ရှမ်း'အသံထွက်မှာ 'တိုင်'ဟု အသံထွက်သည်။ အချို့မှာ 'ဒေလ်'ဟုထွက်၍ အချို့ကား 'တိ' ဟုလည်း အသံထွက်သည်။ တရုတ်တန်မင်းဆက်မှစ၍ တရုတ်လူမျိုးတို့သည်လည်း ရှမ်းလူမျိုးများကို "ဒေလ်၊ တိုင်၊ တိုက်"ဟု ခေါ်လာကြသည်။ တရုတ်စာ(大-တာ့)ကို အင်္ဂလိပ်စာလုံး D နှင့် ရေးသော် DA ဟု ရေးသားသဖြင့် "ဒေလ်၊ တိုင်၊ တိုက်"တို့ကိုလည်း DAI ဟု "ဒ"သံနှင့် ရေးသားလာကြသည်။

---

၁။ မုန့်ခ် (မဟာ) ဆိုင်တဲင်း အမှတ်(၄) "တိုင်း" အစိပ္ပါယ်ဖွင့်ဆိုချက်၊ နှာ၊ ၁၈။
၂။ ၎င်းစာ။

ထိုင်းစာ၊ လောစာ၊ ဂုံရှမ်းစာ၊ လူးရှမ်းစာတို့တွင် လည်း DAI ဟူ၍ “ဒ”နှင့် ရေးသားသည်ကို တွေ့ရသည်။[၁]

အေဒီ ၄၀၇ မှ ၉၃၇ တွင် ရှမ်းလူမျိုးတို့သည် ယူနန်နယ်အတွင်း အန်ဟွေ့ရေကန်ကြီး၏ အနောက်ဘက်တွင် တာလီမြို့တော်ကို တည်ထောင်သည်။ (ယခုတရုတ်တို့အခေါ် ‘အေဟိုင်’) တာလီသည် နန်ချောင်နိုင်ငံတော်၏ ရွှေနန်းတော်ဖြစ်ခဲ့သည်။ ယူနန်တွင်နေထိုင်သော ပုဂ္ဂိုလ်များက “တာလီ”ကို “တိုင်လီ” ဟု အသံထွက်ကြသည်။[၂] ကန်တုန်နီအခေါ် “တိုင်း”ဟူသော စကားလုံးသည် ယူနန်နီတို့ကို “တာ”ဟူသော စကားနှင့် အဓိပ္ပါယ်ချင်းတူညီသည်။ စကားနှစ်လုံး၏ အဓိပ္ပါယ်မှာ “ကြီးမြတ်ခြင်း၊ ကြီးကဲခြင်း”ဖြစ်သည်။[၃]

ဤ “[redacted]က စကားဖြစ်ပေမည်။ ယိုးဒယားအောက်ပိုင်းဒေသနှင့် အလယ်ပိုင်းဒေသ၊ လော-အီဆန်လူမျိုး၊ လောနိုင်ငံမြောက်ပိုင်းဒေသ၊ အလယ်ပိုင်းနှင့် အောက်ပိုင်းဒေသ၊ ဗီယက်နမ်မြောက်ပိုင်းရှိ ဖူထိုင်းလူမျိုးတို့သည် “တိုင်း”ကို “Th =ထ”သံဖြင့် “ထိုင်း”ဟု အသံထွက်သည်။ ယိုးဒယားမြောက်ပိုင်းဒေသ၊ လူးရှမ်း၊ ဂုံရှမ်းနှင့် လျန်း(မ်)ရှမ်းတို့သည် “D=ဒ” အသံထွက်၍ “ဒိုင်း”ဟု (Aspirated)ဖြင့် အသံထွက်သည်။ တိုင်းလုံး (ခေါ်)ရှမ်းကြီးလူမျိုး၊ မောရှမ်း၊ တိုင်းနေ(ခေါ်)ရှမ်းတရုတ်နှင့် ခန္တီးရှမ်းတို့က “T=တ”အသံဖြင့် “တိုင်း”ဟု (Non-aspirated)ဖြင့် အသံထွက်ကြသည်ကို တွေ့ရသည်။[၄]

---

၁။ မုန့်ခ် (မဟာ) ဆိုင်တခ်း အမှတ်(၄) “တိုင်း” အဓိပ္ပါယ်ဖွင့်ဆိုချက်၊ နှာ၊ ၁၈၊ ၁၉။
၂။ ၎င်းစာ၊ နှာ၊ ၁၉။
၃။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၂၉။
၄။ မုန့်ခ် (မဟာ) ဆိုင်တခ်း အမှတ်(၄) “တိုင်း” အဓိပ္ပါယ်ဖွင့်ဆိုချက်၊ နှာ၊ ၁၉။

ရှမ်းလူမျိုးများ၏ စကားအရ တောင်အောက်မြေနိမ့်ပိုင်းတွင် နေထိုင်ကြသူများကို ရှမ်းစကားဖြင့် "ကွန်းကတိုင်" (အောက်ချိုင့်သားများ)၊ တောင်ရိုးကုန်းတန်းပေါ် နေသောသူကို "ကွန်းလွယ်" (တောင်ပေါ်သား)၊ အလွန်မြင့်မားသောတောင်၏ အလယ်၌နေထိုင်သူကို "ကွန်းကန်" (တောင်ခုလတ်တွင်နေထိုင်သူ)ဟု ခေါ်ကြသည်။ ထိုနေရပ်ဒေသကို အစွဲပြု၍ "ကတိုင်"မှ"က"အက္ခရာကျေပြီး"တိုင်"ဟူ၍ ဖြစ်လာသည်။ ထိုမှတစ်ဆင့် "တိုင်း"ဖြစ်လာသည်ဟု ဆိုသည်။ ထို့အတူ 'ကွန်းကန်'မှ "ကန်" အက္ခရာရှိ"က"အက္ခရာသည်"ခ"အဖြစ်သို့ပြောင်းကာ "ခန်"ခေါ်ကချင်လူမျိုးဖြစ်လာသည်။ ပလောင်ကို ရှမ်းလူမျိုးများက ယခုတိုင် "ကွန်းလွယ်" ဟု ခေါ်နေဆဲဖြစ်သည်။[၁]

"တိုင်း"သဒ္ဒါမှာ "အောက်အရပ်"ဟူသော အနက်မှတ်တစ်ပါး "အရပ်ရပ်သို့လှည့်ပတ်ခြင်း"၊ "ထွန်းပတောက်ပြောင်သော အရောင်အဆင်း"စသော အနက်ရှိသည်။ ယိုးဒယားအဘိဓာန်၌ကား "တက်သစ်၍လာသည့် သူရိယနေမင်း၏ တက်သစ်စအလား (သို့မဟုတ်) လွတ်မြောက်ခြင်း" ဟု ညွှန်ပြထားသည်။ ကက်ပတိန်ဖုတ်ဆိုသူကလည်း "တိုင်း" ဟူသော ဝေါဟာရစကား၏ အဓိပ္ပါယ်သည် "လွတ်လပ်ခြင်း၊ လွတ်မြောက်ခြင်း"ဟူ၍ ဖြစ်ကြောင်းရေးသားထားသည်။ အထက်ပါစကားများအရ "တိုင်း" ဆိုသည်မှာ "လွတ်လပ်၍ ထွန်းပတောက်ပြောင်သော အရောင်အဆင်းရှိသော သူရိယနေမင်း၏ တက်သစ်စအလားကဲ့သို့ ကမ္ဘာတွင် ထင်ရှားလာသောလူမျိုး"ဟူသော ရည်ရွယ်ချက်ဖြင့် "တိုင်း"ဟု ခေါ်ဆိုပညတ်ကြသည်ဟူ၍လည်း ဆိုနိုင်သည်။[၂]

---

၁။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၁၇-၁၉။
၂။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၂၃။

၁း၂း၁။ "တိုင်း"ဝေါဟာရ၏ အဓိပ္ပါယ်

"တိုင်း" ဟူသော ဝေါဟာရ၏ အဓိပ္ပါယ်ကား အဘယ်နည်း။ အချို့သော သမိုင်းသုတေသီများက "တိုင်"ဟူသော ဝေါဟာရသည် ရှေးခေတ်ရှမ်းလူမျိုးများ၏ ပေါရာဏစကားဖြစ်ကြောင်း လက်ခံယုံကြည်ကြသည်။ 'လူ'ဟူ၍လည်းကောင်း၊ ယဉ်ကျေးမှု ထွန်းကားသောလူ (Social man)ဟူ၍လည်းကောင်း၊ နိုင်ငံသား (Native) ဟူ၍လည်းကောင်း၊ လူ(People) (တိရစ္ဆာန်နှင့် မကွာခြားသော လူမဟုတ်) ဟူ၍လည်းကောင်း အဓိပ္ပါယ် ဖွင့်ဆိုကြသည်။ ရှမ်းလူမျိုးတို့၏ ဝေါဟာရအတွင်းတွင်လည်း "တိုင်း"ကို "လူ"အဖြစ် များစွာအသုံးပြု ပြောဆိုကြသည်ကို တွေ့ရသည်။ ဥပမာ-"တိုင်းကော"=သူငယ်ချင်း၊ "တိုင်းနောက်"=တောသူတောင်သား၊ "တိုင်းဝိန်း"=မြို့တွင်နေထိုင်သူ။ "တိုင်းမိန်းနောင်"=မိုင်းနောင်ရှမ်း၊ စသည်တို့ဖြစ်သည်။[၁]

အေဒီ ၁၃၆၈-၁၆၄၄ တရုတ်မင်းဆက် သမိုင်းမှတ်တမ်းတွင် "တောင်ပိုင်း"ဒေသတွင် နေထိုင်ကြသော လူရိုင်းများသည် 'လူ'ကို 'တိုင်' ဟူ၍ ခေါ်ဆိုကြပြီး၊ သူတို့ကိုယ်တိုင်ကိုလည်း 'တိုင်'ဟု ခေါ်ကြသည်" ဟု မှတ်တမ်းတင်ထားသည်ကို တွေ့ရသည်။ ကန်တုန်နယ်နှင့် ကန်သျှီနယ်ရှိ ဆုန့်ရှမ်းများသည် ယနေ့တိုင်အောင် မိမိကိုယ်ကို "ပေါ်တိုင်"၊ "နီတိုင်-နင်တို့"ဟု သုံးနှုန်း ပြောဆိုနေကြသည်။[၂]

ထိုင်းအဘိဓာန် (ရာဇပဏ္ဍိတအဘိဓာန်)တွင်လည်း 'တိုင်း'ကို 'လူ' ဟု ဖွင့်ဆိုထားသည်။

ဗီယက်နမ်မှ ကွန်နန်ဒေသ၊ ဟိုက်လမ်ဒေသရှိ ရှမ်းတို့သည်

---

၁။ မုန့်ခ် (မဟာ) ဆိုင်တဲင်း အမှတ်(၄) "တိုင်း" အဓိပ္ပါယ်ဖွင့်ဆိုချက် နှာ၊ ၁၉။
၂။ မုန့်ခ် (မဟာ) ဆိုင်တဲင်း အမှတ်(၄) "တိုင်း" အဓိပ္ပါယ်ဖွင့်ဆိုချက် နှာ၊ ၁၉-၂၀။

မိမိ ကိုယ်ကို "ဖုယိုင်၊ ဖုတိုင်း၊ ဒေလ်လုံ"ဟု ခေါ်ပြီး တချို့သော ဗီယက်နမ် မြောက်ပိုင်းဒေသတွင် "ဖုလုံ၊ ကွန်လုံ၊ ဒေလ်လုံ"ဟု ယခုတိုင် ခေါ်ဝေါ် ပြောဆိုနေကြသည်။[၁]

(ယိုင်-လုံ-တိုင်-ကွန်း တို့သည် ဤနေရာ၌ အဓိပ္ပါယ်တူသည်)

သမိုင်းသုတေသီပညာရှင် လုံးချပီ (HSU- Princeton S.HSU) ဆိုသူက A Study of The Thais, Chuangs and Cantonese People စာအုပ်တွင်-အေဒီ ၁၅၃၄-၁၉၀၈ ခုနှစ် တရုတ်ချင်မင်းဆက် မှတ်တမ်းများအဆိုအရ ဆုန့်ရှမ်းစကားဖြစ်သော 'တိုင်း'သည် "လူ"ဟူ၍သာ အနက်ထွက်သည်မဟုတ်သေး၊ နယ်မြေ (Land) ပြည်သူလူထု (Native)ဟုလည်း အဓိပ္ပါယ်ရှိကြောင်း ဖော်ပြထားသည်။ တချို့နေရာဒေသများတွင် "ဒ - D" အစား"လ-L" ကို အသုံးပြုကြောင်း သိရသည်။ ဥပမာ "တိုင်းလမ်-ရှမ်းနက်"ကို ဒင်လမ် (Din-Lam)"၊ "တိုင်းခေါင်-ရှမ်းဖြူ"ကို "ဒင်ခေါင် (Din-Khao)" တိုင်းလှိုင်-ရှမ်းနီ"ကို "ဒင်လှိုင်(Din-Lang)" ဟု အသုံးပြုကြသည်ကို တွေ့ရသည်။ တချို့မှာ "တီ(Ti)" ကို အစားထိုး၍ အသုံးပြုကြသည်ကို လည်း တွေ့ရသည်။ ဥပမာ "တိုင်းလိန်-ရှမ်းဝါ"ကို "တီလိန် (Ti-Leung)"၊ တိုင်းယောဝ်-ရှမ်းကြီး"ကို တီယောဝ်(Ti-Yao)" ဟု အသုံးပြုထားကြသည်ကိုလည်း တွေ့ရသည်။ တရုတ်နယ်မြေအတွင်း ကန်တုန်၊ ကန်သျှီးဒေသတို့တွင် "တိုင်ရင်ဆန်း-တိုင်းလူမျိုးတို့၏တောင်၊ တိုင်ရင်စိမ်း-တိုင်းလူမျိုးတို့၏ရွာ"စသော ဝေါဟာရကဲ့သို့ "တိုင်ရင်၊ တိုင်ဟုန်၊ တိုင်လောဝ်၊ တိုင်လောဝ် နှင့် တိုင်ကွန်း"စသည်တို့ရှိကြောင်း သိရသည်၊ ဤနေရာတွင် "တိုင်း၊ တဘ့၊ ဒေလ်၊ တီနှင့် လျင်"တို့သည် အဓိပ္ပါယ်

၁။ မုန့်ခ် (မဟာ) ဆိုင်တဲင်း အမှတ်(၄) "တိုင်း" အဓိပ္ပါယ်ဖွင့်ဆိုချက် နှာ၊ ၁၉-၂၀။

တူညီသော စကားလုံးများဖြစ်ပြီး "ပြည်သူ့လူထု၊ နယ်မြေခံလူထု Native of This Land " ဟု အဓိပ္ပါယ်ရှိသည်။[၁]

ကျေးပိုင်ကျွန်ပိုင်ခေတ်တွင် လူမျိုးတစ်မျိုးနှင့်တစ်မျိုး ဖမ်းဆီး၍ ကျေးကျွန်ပြုစေခြင်း၊ စစ်သုံ့ပန်းများကို ကျေးကျွန်ပြုခြင်းများ ပြုလုပ်လာကြသည်။ ထို့အပြင် လူမျိုးတူချင်းများလည်း ကျေးကျွန်ပြုလာကြသဖြင့် ကျေးပိုင်ကျွန်ပိုင်ရှင်လူတန်းစားနှင့် ကျေးကျွန်လူတန်းစားဟူ၍ ပေါ်လာသည်။ မျက်မှောက်ခေတ်သို့ ရောက်လာသောအခါ "တိုင်း"ဝေါဟာရ ကို "ကြီးမြတ်ခြင်း၊ အရှင်သခင်၊ လွတ်လပ်သူ-Freeman ဟု အဓိပ္ပါယ် ဖွင့်ဆိုလာကြသည်။ ထိုင်း၊ လော၊ ယွန်း၊ လူး၊ ဂုံနှင့် လျှန်း(မ်) တို့၏ စကားတွင် "ခါ-စဝ် - ကျွန်-အရှင်သခင်"အစား "ခါ-တိုင်း" ဟု ယခုပစ္စုပ္ပန်တိုင်အောင် သုံးနှုန်းထားသည်ကိုလည်း တွေ့ရလေသည်။[၂]

ရှမ်းလက်နက်နိုင်ငံတော် တည်ထောင်နိုင်သည်မှစ၍ ယခုလွတ်လပ်ရေး ရပြီးသည့်ကာလတိုင်အောင် "တိုင်း Dai - Tai " ၏ အဓိပ္ပါယ်ကို "ကြီးမြတ်ခြင်း၊ အရှင်သခင်၊ လွတ်လပ်ခြင်း၊ လွတ်မြောက်ခြင်း" ဟု ဖွင့်ဆိုကြသည်။ သာသနာသက္ကရာဇ် ၂၅၃၀ ထုတ် ထိုင်းအဘိဓာန်တွင် "တိုင်း"ကို "ကြီးမြတ်သူ၊ ရှမ်း Siam နိုင်ငံတော်၏ ရှေးဟောင်းမြို့အမည်၊ ကိုယ်စိတ်နှစ်ပါး လွတ်လပ်ခြင်း၊ကျွန်မဟုတ်ခြင်း"ဟုဖွင့်ဆိုထားသည်။[၃]

အချုပ်အားဖြင့် ဆိုရသော် "တိုင်း"ဟူသော ဝေါဟာရသည် တရုတ်စကား၊ အင်္ဂလိပ်စကား ပါဠိစကား မဟုတ်ပေ။ စင်စစ် ရှေးခေတ် ရှမ်းလူမျိုးတို့၏ စကားပင်ဖြစ်သည်။ ယင်း၏အဓိပ္ပါယ်ကို အောက်ပါအတိုင်း နှစ်မျိုးခွဲခြားနိုင်ပါသည်။

---

၁။ မုန့်ခ် (မဟာ) ဆိုင်တဲင်း အမှတ်(၄) "တိုင်း" အဓိပ္ပါယ်ဖွင့်ဆိုချက် နှာ၊ ၂၀-၂၂။
၂။ ၎င်းစာ ။
၃။ ၎င်းစာ ။

၁။ "တိုင်း"ဟူသောအဓိပ္ပါယ်မှာ-

လူ (People)၊ နိုင်ငံသား (Person)၊ လူ့ယဉ်ကျေးမှုရှိသူ (Social man) တိုင်းပြည်ရှိသူနှင့် ယဉ်ကျေးမှု၊ အုပ်ချုပ်ရေး၊ စီးပွားရေး လုပ်ငန်းများကို မိမိလူမျိုးနှင့် ထိုက်တန်စွာ ဆောင်ရွက်နိုင်သောသူဟု အဓိပ္ပါယ်ရှိသည်။[၁]

၂။ ခေတ်အလိုက် ဖွင့်ဆိုသော "တိုင်း"၏ အဓိပ္ပါယ်ကိုလည်း နှစ်မျိုးခွဲခြားနိုင်သည်။

(က) ကြီးမြတ်ခြင်း၊ အကြီးအမြတ်အကြီးအမှူးဖြစ်ခြင်း၊ အရှင်သခင်ဖြစ်ခြင်း၊

(ခ) လွတ်လပ်ခြင်း၊ တိုင်းပြည်လွတ်လပ်ခြင်း၊ လူမျိုးနှင့်တိုင်းပြည်၏အမည်တို့ဖြစ်၏။[၂]

အမှန်မှာကား Han ဟန့်တရုတ်များသည် ရှမ်းလူမျိုးများကို "ပိုင်ယီ(လူရိုင်းဖြူ ၊ တမိလ်ဖြူ )၊ ဖန်း၊ ဟုန်း၊ မန် (အရိုင်းအစိုင်း၊ ခေတ်မမီသူ Ruth, Barbarian)" "လူ့ယဉ်ကျေးမှုကို မတည်ထောင်နိုင်သေးသည့် လူမျိုး"ဟု နှိမ့်ချခေါ်ဆိုသဖြင့် ရှမ်းဘိုးဘေးဘီဘင်ဘောင်ဘောတို့သည် "မိမိတို့သည် ပိုင်ယီမဟုတ်၊ မိမိတို့သည် 'တိုင်း'ဖြစ်သည်၊ လူ့ယဉ်ကျေးမှုမရှိသူ Social Man ဖြစ်သည်။ စိုက်ပျိုးရေး ကျွမ်းကျင်သူဖြစ်သည်။ နိုင်ငံရေး၊ ယဉ်ကျေးမှု၊ အချုပ်အခြာအာဏာရှိသူ၊ နိုင်ငံ့သမိုင်း၊ လူမျိုးသမိုင်းရှိသူဖြစ်သည်"ဟု တရုတ်လူမျိုးနှင့် တခြားလူမျိုးတို့ကို စိမ်ခေါ်ခဲ့သည်မှစ၍ "တိုင်းလူမျိုး"များသည် မိမိကိုယ်ကို မိမိဂုဏ်ယူစွာဖြင့် "တိုင်း"ဟုသာ ပြောဆိုခေါ်ဝေါ်ခဲ့ခြင်း ဖြစ်လေသည်။[၃]

---

၁။ မုန့်ခ် (မဟာ) ဆိုင်တဲင်း၊ အမှတ်(၄)၊ "တိုင်း" အဓိပ္ပါယ်ဖွင့်ဆိုချက်၊ နှာ၊ ၂၀ ၊ ၂၂
၂။ ၎င်းစာ ။
၃။ ၎င်းစာ ။

သမိုင်းပညာရှင်များက "လော၊ တိုင်း၊ လျှင်၊ တီ၊ ကွန်း"တို့သည် အဓိပ္ပါယ်တူညီသော စကားလုံးကွဲ များဖြစ်သည်ဟု လက်ခံကြသည်။

ရှမ်း (ခေါ်)'တိုင်း'၏ အမည်ကို Tai, Thai, Dai ဟု အမျိုးမျိုးရေးသားထားကြသော်လည်း ၎င်း၏အရင်းမူလမှာ ရှမ်းလူမျိုးတို့က မိမိကိုယ်ကို 'တိုင်း' (တႆး) ဟု ပြန်လည်ခေါ်သော စကားလုံးမှ ဆင်းသက်လာခြင်းပင် ဖြစ်ပေသည်။

၁ း ၃ ။"တိုင်း"ခေါ် "ရှမ်း"လူမျိုးတို့၏အမည်များ

သမိုင်းမှတ်တမ်းများအရ တိုင်းခေါ် ရှမ်းလူမျိုးများသည် တရုတ်ခေတ်မတိုင်မီကပင် မြစ်ဝါမြစ်နှင့် တောင်ဘက်တရုတ်ပြည်အလယ်ပိုင်းတွင် တရုတ်တို့က Pang (ပန်)ဟု ခေါ်သော လူမျိုးတစ်မျိုး ရှေးဦးစွာနေထိုင်ခဲ့ကြောင်း၊ ထိုလူမျိုးစုသည် ဆူချွန်ပြည်နယ် အရှေ့မြောက်ပိုင်းနှင့် ဟိုနန်နယ်အနောက်ပိုင်းတွင် နေထိုင်ကြကြောင်း ၎င်းတို့အမျိုးဆက်နာမည်မှာ Ngao (ငေါင်) သို့မဟုတ် Yao (ယိုင်)ဖြစ်ပြီး "ကြီးမြတ်ခြင်း" ဟု အဓိပ္ပါယ်ရှိသော ဝေါဟာရဖြစ်ကြောင်း ရေးသားထားသည်။[၁] Pang (ပန်)လူမျိုးသည် ရှမ်းလူမျိုးများပင်ဖြစ်သည်။ Pang နိုင်ငံသည် T'su (စူ) အင်ပါယာထဲတွင် ပါဝင်သော နိုင်ငံဖြစ်၍ ဘီစီ ၁၂၃၀ တွင် တရုတ်လက်အောက်သို့ ရှေးဦးစွာ ကျရောက်သွားသော ရှမ်းလူမျိုးတို့၏ နိုင်ငံတော်ဖြစ်သည်။[၂]

မွန်ဂိုရီးယားနယ်စပ် အနောက်ပိုင်းရှိ အန်းတိုင်းတောင် Altai range of Mountains တွင် နေထိုင်ခဲ့သည်ကို အစွဲပြု၍ ရှမ်းလူမျိုးများသည် မိမိကိုယ်ကို တိုင်း(Tai) ဟု ခေါ်ကြခြင်းဖြစ်သည်။[၃]ထို့အပြင်

---

၁။ Cochrane (W.W), The Shans. PP.8-9

၂။ Milne, Leslie (Mrs.) Shan At Home. P.3

၃။ Hsen (Khur). The Origin of Tais ans A Short History of Shan. P.3

T'su အင်ပါယာတွင်ပါဝင်သော Pa(ပါး)နိုင်ငံတွင် နေထိုင်သော ရှမ်းများကိုတရုတ်တို့က နေရာဒေသကို အစွဲပြု၍ ထိုရှမ်းလူမျိုးများကို Payi (ပါးယီ)စသည်ဖြင့် ခေါ် ဆိုလာကြသည်ကိုလည်း တွေ့ရသည်။ ထိုနည်းတူ နေရာဒေသကို အစွဲပြု၍သော်လည်းကောင်း၊ တရုတ်လူမျိုးနှင့် အခြား လူမျိုးတို့၏ ခေါ်ဝေါ်မှုကြောင့်လည်းကောင်း "တိုင်း"(ခေါ်) ရှမ်းလူမျိုး တို့သည် နာမည်ကွဲများ များစွာရှိသော လူမျိုးတစ်မျိုးဖြစ်သည်ဟု ဆိုသော် လည်း မှားမည်မထင်ပေ။ ဤကဲ့သို့ နာမည်အမျိုးမျိုးကွဲပြားခြင်းသည် အချင်းချင်း သွေးစည်းညီညွတ်ခြင်းအင်အားကို ယုတ်လျော့စေခြင်း၏ အကြောင်းရင်းပင်ဖြစ်ပေသည်။ သို့သော် မည်သို့ပင် အမည်များကွဲပြား သော်လည်း ထိုရှမ်းများ၏ အရင်းမူလသည် တစ်ခုတည်းသာ ဖြစ်ခဲ့သည်၊ သို့ဖြစ်ပါ၍ ထို"တိုင်း"လူမျိုးတို့၏ အမည်ကွဲနှင့် နေထိုင်ရာဒေသတို့ကို ဖော်ပြလိုပါသည်။

## ၁ : ၃ : ၁ ။ တိုင်းနေ **Tai Nu** (ခေါ်) **Tai Nua**

မြောက်ပိုင်းဒေသကို ရှမ်းများက အထက်အရပ်ဟုခေါ်ကြသည်၊ ထိုမြောက်ပိုင်းဒေသ (သို့မဟုတ်) အထက်ပိုင်းဒေသတွင် နေထိုင်ကြ သော ရှမ်းများကို "တိုင်းနေ-အထက်ရှမ်း"ဟု ခေါ်ကြသည်။ မြန်မာပြည် အတွင်း၌ ရှမ်းပြည်နယ်နှင့် ကချင်ပြည်နယ်တို့တွင်လည်း အုပ်စုအလိုက် စုဝေး၍ နေထိုင်ကြသည်ကိုလည်း တွေ့ရသည်။ သံလွင်မြစ်အနောက် ဘက်ကမ်းတွင်လည်း နေထိုင်ကြသည်။ အများစုမှာ တရုတ်စကားကို လည်း ပြောတတ်ကြသဖြင့် မြန်မာလူမျိုးများက ရှမ်းတရုတ် (Chinese Shans) ဟု ခေါ်ကြသည်။ တိုင်းနေ လူမျိုးတို့၏ မြို့ကြီးမှာ မိန်းခွမ် (Muang Khwa) မိုင်းကိမ (Muang Kung Ma)နှင့် မိုင်းဘော်(Muang Baw)ဖြစ်ပြီး မိန်းခွမ်သည် သံလွင်မြစ်၏ အ

နောက်ဘက်ကမ်းတွင် တည်ရှိသည်။ မိန်းကီမသည် သံလွင်မြစ်နှင့် မဲခေါင်မြစ်၏ အကြားတွင် တည်ရှိ၍ မိုင်းဘော်သည် မဲခေါင်မြစ်၏ အရှေ့ဘက်တွင်တည်ရှိသည်။ ၁၉၈၁ ခုနှစ်တွင် တိုင်းနေလူဦးရေ ၆၀၀၀၀ ရှိသည်ဟု ဆိုသည်။ "တိုင်းနေတို့၏ နေရင်းဒေသသည် အနောက်ဘက် တွင် မိုင်းလား (25° N) မြောက်ဘက်တွင် (25° 30'N) နှင့်(101° E) အကြား၊ တောင်ဘက်တွင် မိုင်းလျန်းအထိ ပျံ့နှံ့နေထိုင်ကြသည်။ ယင်းတို့နေထိုင်ရာဒေသသည် စတုရန်းမိုင်ပေါင်း ၂၂၅၀၀ ပတ်လည်ရှိ သံလွင်မြစ်နှင့် မဲခေါင်မြစ်အကြားတွင် နေထိုင်ကြ၍ တောင်ပိုင်းတွင် လူးရှမ်း (Lu)တို့နှင့် ရောနှောနေထိုင်ကြသည်ကို တွေ့ရသည်။ တိုင်းနေ လူမျိုးများသည် ဗုဒ္ဓဘာသာဝင်များဖြစ်ကြ၍ အေဒီ ၁၇ ရာစုအတွင်း ကျိုင်းတုံမှ ဗုဒ္ဓဘာသာကို ရရှိလာခြင်းဖြစ်သည်။ နိုးရာနတ်ကိုးကွယ်သူများလည်း ရှိသည်။[၁] ယခုအခါ တိုင်းနေလူမျိုးတို့သည် ရှမ်းပြည်နယ်အတွင်း မြို့နယ်တိုင်းတွင် အုပ်စုလိုက်သော်လည်းကောင်း၊ ရွာအလိုက် သော်လည်းကောင်း စုပေါင်း၍ နေထိုင်ကြသည်။ စိုက်ပျိုးရေးနှင့် စီးပွားရေး ကျွမ်းကျင်သူများဖြစ်ကြသည်။

## ၁ း ၃ း ၂ ။ တိုင်းမောဝ် Tai Mao

ရွှေလီမြစ်ကို ရှမ်းလူမျိုးများက နမ့်မောဝ် (Nam Mao) ဟုခေါ်သည်။ ထိုမြစ်ဝှမ်းတစ်လျှောက်တွင် နေထိုင်သော ရှမ်းများကို တိုင်းမောဝ် (မောရှမ်း) ဟုခေါ်သည်။ တိုင်းမောဝ်တို့သည် တာပိန်မြစ်ဝှမ်းတွင်လည်း နေထိုင်ကြသည်။ အေဒီ ၁၂-၁၃ရာစုတွင် တိုင်းမောဝ်များသည် မောအင်ပါယာ (Mao Empire)ကို တည်ထောင်ခဲ့သည်။ တိုင်းတုမ်း၊ တိုင်းဝမ်း၊ တိုင်းခွမ်၊ တိုင်းတိန်၊ တိုင်းဆာတို့သည်လည်း

၁။ William Clifton (Dodd, D.D) The Tai Race, PP. 170-172.

တိုင်းမောဝ် လူမျိုးများပင်ဖြစ်သည်။ တရုတ်လူမျိုးများနှင့် အကြိမ်ပေါင်းများစွာ ပဋိပက္ခဖြစ်သော်လည်း ကြံ့ကြံ့ခံ၍ ခုခံတိုက်ခိုက်ခဲ့သဖြင့် ယင်းတို့ကို တိုင်းခေဟုခေါ်ခြင်းဖြစ်သည်။ ရှမ်းခြောက်ပြည်ထောင်ဟု လည်းခေါ်သည်။ အေဒီ ၁၂၃၅ ခု၊ မောရှမ်းတို့သည် မွန်ဂိုတို့ကို ခုခံတိုက်ခိုက်ခြင်းမရှိပဲ ပြေလည်အောင် ဆက်ဆံခဲ့သဖြင့် မောအင်ပါယာ မပျက်စီးခဲ့ရပေ[၁]

## ၁း၃း၃။ တိုင်းဒွဲ[၂] Tai Dioi

တရုတ်ပြည်၏ အရှေ့ပိုင်းတွင်နေထိုင်သော ရှမ်းလူမျိုးများသည် "တိုင်းဒွဲ"များဖြစ်သည်။ တိုင်းဒွဲကို "ပူ၍" ဟူ၍လည်းကောင်း၊ "ဒေါင် (Diog)" ဟူ၍လည်းကောင်းခေါ်ဆိုကြသည်။ ကွေချောင်တောင်ပိုင်းဒေသမှ မြောက်ဖျားဒေသအထိလည်းကောင်း၊ ယူနန်ပြည်နယ်အနောက်တောင်ပိုင်း၊ တုံကင်းပြည်နယ် အထက်ပိုင်းဒေသတို့၌လည်းကောင်း တိုင်းဒွဲတို့၏ နေထိုင်ရာ ဒေသဖြစ်သည်။

အေဒီ ၁၉၁၁ တွင် ခရစ်ယာန်သာသနာပြု Reverend Clarke ၏ မှတ်တမ်းအရ ကွေချောင်ပြည်နယ်ရှိ ကွေယန်းဒေသတွင် တိုင်းဒွဲများသည် လူဦးရေ နှစ်သန်းကျော်ရှိသည်ဟုဆိုသည်။ ကွေချောင်၊ ယူနန်၊ ကွမ်းစီ၊ ကွမ်းတုံဒေသတို့တွင် တိုင်းဒွဲလူဦးရေ ခြောက်သန်းနှင့် ခုနစ်သန်းအကြားတွင်ရှိသည်ဟု ခန့်မှန်းထားသည်။ တိုင်းဒွဲများကိုတရုတ်တို့က တူးကျိုင်း၊ တူးဂျင်း၊ တူချိ၊ တူး၍ Tu Jai (ခေါ်) Tu Jen (ခေါ်) Tu Chice (ခေါ်) Tu Uyei ဟုလည်းခေါ်သည်။ ထိုလူမျိုးတို့သည် မိမိကိုယ်ကို "ဒွဲ" ဟုခေါ်ကြသည်။ ယိုးဒယားနိုင်ငံမြောက်ပိုင်း နခွန်းဖနွမ်း (Nakhom Pha Nom)တွင် နေထိုင်သော ထိုင်းများသည်

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan PP . 60-61.

၂။ Ibit. op.cit. PP.62-65.

မိမိကိုယ်ကို "လောင်၍" Lao Yuei ဟုခေါ်သည်။ ၎င်းတို့သည် 'တိုင်းခွဲ'များပင် ဖြစ်ကြသည်။

တိုင်းခွဲများသည် အေဒီ ၉၄၃ တွင် ကိုင်စီ Kiang Si မှ ရောက်လာကြသည်။ တချို့ကမူ ဘီစီ ၁၀၀၀ ကရောက်လာသည်ဟု ဆိုသည်။ တိုင်းခွဲတို့၏ သမိုင်းမှတ်တမ်းအရ သူတို့ဘုရင်ဖြစ်သူ ခွန်ဆေဟန် Hkun Shou Han သည် ကျားနို့ရည်ကို သောက်စို့ခဲ့သည့် ဘုရင်ဖြစ်ပြီး ဘီစီ ၇၀၀ တွင်မွေးဖွားသည်ဟုဆိုသည်။ အေဒီ ၂၄၉ တွင် ဟန်မင်းဆက် Han Dynasty ကို တော်လှန်တိုက်ခိုက်သော တောင်ပိုင်းဒေသရှမ်းများသည် တိုင်းခွဲလူမျိုးများဖြစ်သည်။ စကြာတံဆိပ်သည် တိုင်းခွဲတို့၏ အမှတ်တံဆိပ်ဖြစ်ပြီး ယင်းတို့သည် စကြာဝတေးမင်းမျိုးနွယ်ဖြစ်ကြောင်း ယုံကြည်ကြသည်။

တိုင်းခွဲများသည် ဗုဒ္ဓဘာသာဝင်များ မဟုတ်ကြပေ။ တာအို Tao ဘာသာဝင်များဖြစ်ကြသည်။ လောဝ်စီး Lao Tse နတ်ကို ကိုးကွယ်ယုံကြည်ကြသည်။ လောဝ်စီးနတ်သည် ရှမ်းစူနိုင်ငံဘုရင်ဖြစ်သည်ဟု တချို့က ဆိုသည်။ ကောင်းကင်နတ်ကို ယုံကြည်ပြီး နတ်ဆိုးများကို နွားများဖြင့်ပူဇော်ကြသည်။ ညောင်စောင့်နတ်ကိုလည်း ယုံကြည်သဖြင့် ညောင်ပင်အောက်သို့ သွားရောက်ပူဇော်ပသကြသည်။

## ၁း၃း၄။ ခွဲ **Dioy**၊ ယီး **Yi**၊ ယိုင် **Yai**

[redacted]။ ၎င်းတို့သည် ယခုအခါ [redacted]။ [redacted] Kwei Lin တွင် [redacted] ဟောင်းနန်းတော်ရာများ ကျန်ရစ်နေသေးသည်ကို တွေ့ရသည်။[၁]

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan P.58

၁ း ၃ း ၅ ။ "ပူ"အမည်ရှိရှမ်းများ

ပူတိုင်း Pu Tai၊ ပူနောင့် Pu Naung၊ ပူမန် Pu Man၊ ပူယု Pu Yu၊ ပူချိုင်း Pu Chia၊ ပူအဲင် Pu En၊ ပူယိုင် Pu Yai၊ ပူသွိုး Pu Sui တို့သည်လည်း တိုင်းလူမျိုးများ၏ အမည်များပင်ဖြစ်သည်။ အေဒီ ၁၈၈၈ ခုနှစ် ဗြိတိသျှကောင်စစ်ဝန် Bourne ၏ မှတ်တမ်းအရ ထိုပူအမည်ရှိ ရှမ်းများသည် နာနင်ဖူး Nanning Fu တွင်နေထိုင်ကြပြီး ရှမ်းစကားပြောကြသည့် လူမျိုးဖြစ်သည်ဟု မှတ်တမ်းပြုစုထားသည်ကို တွေ့ရသည်။ ကွမ်းမင်းဒေသမြောက်ဘက်တွင် အများအပြားနေထိုင်ကြသည်။ အန်ဟွေဒေသမှ ဆင်းသက်လာပြီး တရုတ်တို့အမည်တပ်၍ခေါ်သော ပူလုံး Pu Lung၊ ပူနန်း Pu Nan တို့သည်လည်း ရှမ်းလူမျိုးများ၏ အမည်များဖြစ်သည်။[၁]

၁ း ၃ း ၆ ။ တိုင်းချင်း **Tai Ching**

တိုင်းချင်းတို့သည် ယူနန်ပြည်နယ်မြောက်ပိုင်း ယမ်စီဒေသတွင်နေထိုင်ကြသည်။ အသက်အရွယ်ကြီး သူများသာ မိမိတို့တိုင်းချင်းဖြစ်ကြောင်းပြောကြသည်။ သူတို့၏ မျိုးဆက်သစ်များသည် တရုတ်စကားနှင့်ရောပြွမ်းပြောဆိုကြသည်။ တရုတ်အဝတ်အစားကို ဝတ်ဆင်ကြ၍ တရုတ်လူမျိုးအသွင်သို့ ပြောင်းသွားကြသည်ဟု ဆိုသည်။ သူတို့၏ မြို့ရွာအမည်များသည် ယခုတိုင် "မန်နောင်လုံ၊ အင်ကြီးရွာ"စသည်ဖြင့် ရှမ်းအခေါ်အဝေါ်များအဖြစ် ကျန်ရှိနေသည်ကို တွေ့ရသည်။[၂]

---

၁။ အောင်ထွန်း (စိုင်း)၊ ရှေးခေတ်တိုင်းလူမျိုးများ မူလနေထိုင်ရာအရပ်ဒေသများနှင့် အာရှအရှေ့တောင်ဘက်သို့ ဆင်းသက် ပြန့်ပွားလာပုံ။ နှာ ၁၈။

၂။ William Clifton (Dodd.D.D) The Tai Race. P.347

## ၁ း ၃ း ၇ ။ တိုင်းပါး Tai Pa

တိုင်းပါးတို့သည် ယန်စီဒေသရှိ နမ့်ယာလုံး (၂၅. ၅၀ မြောက်နှင့် ၁၀၁. ၇၅ အရှေ့)မြစ်ကမ်းတွင် နေထိုင်ကြသည်။ အေဒီ ၁၉၀၀ တွင် ပြင်သစ်လူမျိုးဂါနာ Garnier ဆိုသည့်ပုဂ္ဂိုလ်၏ သုတေသနမှတ်တမ်းတွင် သူတို့နှင့်တွေ့ဆုံခဲ့ပြီး သူတို့သည် "တိုင်းပါး"များဖြစ်ကြောင်း၊ ဘီစီ ၃၃၉ ခုတွင် ပျက်စီးသွားရသော ပါးနိုင်ငံမှ နိုင်ငံသားဖြစ်ကြောင်း သိရှိရသည်။ [၁]

## ၁ း ၃ း ၈ ။ တိုင်းလုံး Tai Lung (ခေါ်) တိုင်းလုံ Tai Lun

'တိုင်းလုံး'တို့သည် ယူနန်နယ်အရှေ့တောင်မှ တုန်ကင်းနယ် အရှေ့တောင်ဒေသအထိ နေထိုင်ကြသည်။ မိုင်းလုံးနိုင်ငံတော်မှ ရှမ်းများဖြစ်သောကြောင့် 'တိုင်းလုံး'ဟု အမည်တွင်ကြသည်။ တရုတ်တို့က တိုင်းလုံးကို တူဂျင်း Tu Jen ဟုခေါ်သည်။ တိုင်းလုံးသည် 'တိုင်းထို Tai Tho နှင့် ဆင်တူ၍ ၎င်းတို့၏စကားသည် တိုင်းလူး (ဆစ်ဆောင်ပန်းနားရှမ်း-လူးရှမ်း)နှင့်တူသည်။ မစ္စတာဒေါက် Mr. Dodd ၏ လေ့လာတွေ့ရှိချက်အရ တိုင်းလုံးစကားခွန်း (၂၅၀) တွင် (၈)ပုံ (၁)ပုံ မှာ ယွန်းရှမ်းနှင့်မတူ၊ ကျန်သည့်(၇)ပုံမှာ ယွန်းရှမ်းစကားနှင့်တူသည်ဟု ဆိုသည်။ တိုင်းလုံးသည် မိမိကိုယ်ကို "တိုင်းလုံး (သို့မဟုတ်) တိုင်းခွန်ယိုင်" ဟုခေါ်သည်။ တချို့သော ရှမ်းများက 'တိုင်းလုံး'ကို 'ပူတိုင်း'ဟုလည်း ခေါ်ကြသည်။ [၂]

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan, P . 59

၂။ William Clifton (Dodd, D.D) The Tai Race, P.346

## ၁ း ၃ း ၉ ။ တူးဂျင်း **Tu Jen** (ခေါ်) **Tu Jia**

အေဒီ ၁၉၁၀ ၌ ကွမ်နန်ဒေသတွင် နေထိုင်သော လူဦးရေ လေးပုံသုံးပုံသည် တူဂျင်းရှမ်းများဖြစ်သည်။ ယင်းတို့သည် သတ္တိရှိ၍ ရဲရင့်သည်။ ကျားမင်းနတ်ကို ဝက်ဖြင့်ပူဇော်ပသသည်။ တူးဂျင်းများသည် မိမိကိုယ်ကို "တိုင်းလုံး (သို့မဟုတ်) တိုင်းခွန်ယိုင်"ဟုခေါ်သည်။[၁]

## ၁ း ၃ း ၁၀ ။ တိုင်းတုံဂျင်း **Tai Tung Jen**

ကွမ်းစီနယ် အရှေ့တောင်ပိုင်းတွင် နေထိုင်ကြသည်။ သီးသန့် စာပေမရှိသဖြင့် တရုတ်လူမျိုးအဖြစ် အသွင်ပြောင်းသွားကြလေပြီ။[၂]

## ၁ း ၃ း ၁၁ ။ တိုင်းလှိုင်း၊ တိုင်းနမ့် **Tai Lai, Tai Nam**

ယူနန်ပြည်နယ်အတွင်းရှိ နမ့်မြေလှိုင် Red Riverတွင် နေထိုင်ကြ၍ တရုတ်တို့က ပါ Pa ဟု ခေါ်သည်။တိုင်းပါ Tai Pa မျိုးနွယ်များဖြစ်၍ စီချွန်မှ ပြောင်းရွှေ့လာသူများ ဖြစ်သည်။ တိုင်းနမ့်နှင့်တိုင်းလှိုင်းတို့ စကားပြောဆိုမှုများသည် သိပ်မတူလှချေ။ တိုင်းလှိုင်း အမျိုးသမီးများသည် ကြောင်ကြောင်ကျားကျား အစင်းပါသော ထဘီများကို ဝတ်ဆင်သောကြောင့် "တိုင်းလှိုင်း-ကြောင်ကြောင်ကျားကျား ဝတ်ဆင်သောရှမ်း"ဟု အမည်ရခြင်းဖြစ်သည်။ 'လှိုင်း-Lai' သည် ရှမ်းဘာသာအားဖြင့် "ကြောင်ကြောင်ကျားကျား"ဟု အဓိပ္ပါယ်ရှိသည်။ ယွန်းရှမ်း လူးရှမ်း၊ ဂုံရှမ်းတို့၏ ဝတ်ဆင်မှုနှင့် ဆင်တူသော်လည်း အနည်းငယ်တို သည်။[၃]

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan PP.59-60

၂။ Ibit.

၃။ William Clifton (Dodd, D.D) The Tai Race, P.346.

## ၁ း ၃ း ၁၂ ။ ပါးယီ Pa Yi

နမ့်လမ် Black River 23˚10'Nတွင် နေထိုင်ကြသည်။ သူတို့၏ စကားသည် တိုင်းနေ၊ တိုင်းလောဝ်စကားနှင့် ဆင်တူသည်။ တရုတ်က သူတို့ကို ပါးယီ (Pa Yi) ဟုခေါ်သည်။ ဤ'ပါးယီ'ဟူသော အခေါ်သည် တရုတ်လူမျိုးတို့က ရှမ်းလူမျိုးအုပ်စုကို အမည်မပေးတတ်လျှင် ပါးယီဟုသာ ခေါ်ဆိုကြသည်။ ဆွန်မင်းဆက်မှ စတင်၍ခေါ်သည်ဟုဆိုသည်။ အကျီဖြူဝတ်ဆင်သူ၊ လူရိုင်းတစ်ရာ၊ ပါးနိုင်ငံလူမျိုးဟု အဓိပ္ပါယ်ရှိသည်။ အေဒီ ၁၂၃၅ ခုနှစ်တွင် မွန်ဂိုဘုရင် ကူဗလိုင်ခန်က နန်ချောင်နိုင်ငံတော်ကို တိုက်ခိုက်ဖျက်ဆီးပြီးနောက် ပါးယီများသည် နမ့်လမ်ဒေသသို့ ပြောင်းရွှေ့ရောက်လာကြသည်။ ပါးယီများသည် နတ်ကိုးကွယ်သူများဖြစ်သည်။[၁]

## ၁ း ၃ း ၁၃ ။ ထို To (ခေါ်) Tho

စီကျန်မြစ် The West River ကမ်းဘေးတွင်နေထိုင်သော ရှမ်းများကို တရုတ်များက ထို To (သို့မဟုတ်) Tho ဟုခေါ်သည်။ ဗီယက်နမ်မြောက်ပိုင်းတွင် နေထိုင်သော ရှမ်းများသည်လည်း ထို To (ခေါ်) Tho ရှမ်းများဖြစ်သည်။[၂] Mr. Dodd မှတ်တမ်းအရ 'ထို To (ခေါ်) Tho' ၏ စကားခြောက်ခွန်းတွင် ငါးခွန်းသည် ယွန်းစကားနှင့်တူသည်ဟုဆို၏။ To သည် တရုတ်စကားဖြစ်၍ "မြေကြီး"ဟု အဓိပ္ပါယ်ရှိသည်။[၃]

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan P.59.

၂။ Hsen (Khur), The Oregin of Tais and A Short History of Shan P.65

၃။ William Clifton (Dodd, D.D) The Tai Race, P.347.

## ၁ း ၃ း ၁၄ ။ တိုင်းလို Tai Lo

ကွမ်စီဒေသရှိ လုံးချောင် Long Choa တွင် ရှမ်းစကား ပြောဆိုသူများ ရှိနေသေးသည်။ ၎င်းတို့သည် 'တိုင်းလို Tai Lo' များ ဖြစ်၍ အခြားသူများက သူတို့ကို 'နောင့် နောင့်လုံ Nong-Nong Long' ဟုခေါ်သည်။[၁]

## ၁ း ၃ း ၁၅ ။ တိုင်းနုံး Tai Nung

တိုင်းနုံးများသည် ကွမ်စီ၊ ကွမ်းတုံ၊ ကွေချောင်နှင့် ယူနန်ဒေသ တွင် ပျံ့နှံ့နေထိုင်ပြီး အများဆုံးနေထိုင်သော ဒေသမှာ ကွမ်စီနယ်ဖြစ် သည်။ အေဒီ ၁၉၂၀ တွင် တရုတ်ပြည်၌ တိုင်းနုံးဦးရေ နှစ်သိန်း တုံကင်း အထက်ပိုင်းတွင် တစ်သိန်းနီးပါးရှိသည်ဟု ဆိုသည်။ Nung သည် တရုတ်စကားဖြစ်၍ Husband man စိုက်ပျိုးရေး မွေးမြူရေး လုပ်ကိုင် သူ ဟု အဓိပ္ပါယ်ရှိသည်။ Dood, D.D က Nung သည် ရှမ်းပေါ်ရာ ဌာ စသည်ဖြစ်တန်ရာသည် ဆိုထားသည်။[၂]

## ၁ း ၃ း ၁၆ ။ တိုင်းနမ့် Tai Nam

ယူနမ်ပြည်နယ် နမ့်မြေလမ် နမ့်မြေလှိုင် Black and Red River အထက်ပိုင်းတွင် နေထိုင်ကြသည်ကို တွေ့ရသည်။ မြစ်ရေကမ်း ဘေးတွင် နေထိုင်ကြသဖြင့် နေရာဒေသကို အစွဲပြု၍ တိုင်းနမ့် (ရေရှမ်း Water Tai) ဟု ချစ်စနိုးခေါ်ကြခြင်းဖြစ်သည်။[၃]

အေဒီ ၁၀၅၃ ခုနှစ်တွင် နုံးနီချောင် Nung Ni Chao

---

၁။ Hsen (Khun), The Oregin of Tais and A Short History of Shan P.65

၂။ William Clifton (Dodd. D.D) The Tai Race. P 347

၃။ William Clifton (Dodd. D.D) The Tai Race, P 346

အမည်ရှိ ရှမ်းများသည် ယွေ့စီကျန်ဒေသတွင် မိမိကိုယ်ကို မိမိ 'တိုင်းနမ့်' အဖြစ်ကြေညာပြီး အင်ပါယာ Emperor တစ်ခုတည်ထောင်ခဲ့သည်။ သို့သော် တရုတ်နှင့် ဗီယက်နမ်တို့ကို မယှဉ်နိုင်သဖြင့် ၎င်းတို့၏ အင်ပါယာ ပျက်စီးသွားသည်။[၁]

## ၁ း ၃ း ၁၇ ။ တိုင်းဟတ်ကာ Tai Hak kas တိုင်းကွမ်းတုံ Tai Kuang Tung

ကွမ်တုံနယ်၏ အနောက်မြောက်ဘက်နှင့် တုံကင်းအတွင်းပိုင်း ဒေသများတွင် နေထိုင်ကြသည်။ ရှမ်းမျိုးနွယ်များ ဖြစ်ကြသော်လည်း ကွမ်းတုံတရုတ်အဖြစ်ထင်ရှား လူသိများကြသည်။ အချို့သော'တိုင်းဟတ်ကာ'သည် ကွမ်စီနယ်စပ်ရှိ ကွမ်နန်ဖူးတွင်နေထိုင်ကြပြီး တရုတ်က ၎င်းတို့ကို 'တူဂျင်း"ဟုခေါ်သည်။ တိုင်းဟတ်ကာတို့သည် မိမိကိုယ်ကို "ချေချူ- Khae Chiu" ဟုခေါ်၍ ရှမ်းစကားနှင့် တရုတ်စကားကို ရောနှော ပြောဆိုကြသည်။ ထို့ကြောင့် ကွမ်းတုံစကားနှင့် တရုတ်စကားသည် ကွာခြားနေခြင်းဖြစ်သည်။ တိုင်းဟတ်ကာတို့သည် ဘီစီ ၃၀၀ တွင် ရှန်စီတွင် နေထိုင်ကြပြီး ဘီစီ(၂၄၉-၂၀၆)တွင် ရှန်စီမှ ဟူနန်နှင့်အန်ဟွေ့ သို့ ရောက်လာကြသည်။ အေဒီ-၄၁၉ တွင် ကျန်စီနှင့် ဖူကျန်သို့ရောက် လာကြပြီး အေဒီ (၆၁၈-၉၀၇) တွင် ကွမ်းသျှီ၊ ကွမ်းတုံသို့ ရောက်လာ သည်၊ အေဒီ ၁၃၆၈ တွင် ပင်လယ်ကမ်းစပ်သို့ ရောက်ရှိလာကြသည်ဟု ဆိုသည်။ သူတို့သည် မဟာယာနဗုဒ္ဓဘာသာများဖြစ်ကြပြီး မိဘဘိုးဘွား ရိုးရာနတ်နှင့် ကွမ်ရင်မယ်တော်ကို ကိုးကွယ်ကြသည်။[၂]

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan P.66.
၂။ Ibit.

### ၁ း ၃ း ၁၈ ။ တိုင်းအုံးပေ့ Tai Ong Be

ဟိုင်နန်ကျွန်းနှင့် ကွမ်းတုံနယ်ရှိ လူးချောင့်နယ်စပ်တွင် နေထိုင်ကြပြီး လူဦးရေလေးသိန်းရှိသည်။ ရှမ်းစကားနှင့် အခြားစကားရောနှော ပြောဆိုကြသော်လည်း ရှမ်းစကားသည် အနည်းငယ်မျှသာ ပါဝင်သည်။ ရှေးခေတ်က ကမ္ဘောဒီးယားမှ သင်္သေကရိုက်စာများကို အသုံးပြုသော်လည်း ယခုအခါ တရုတ်စာကိုသာ အသုံးပြုကြတော့သည်။ ယောက်ျား မိန်းမများမှ ရှမ်းကြီးကဲ့သို့ ဆံပင်ရှည်ထားကြသည်ကို တွေ့ရသည်။[၁]

### ၁ း ၃ း ၁၉ ။ တိုင်းလီ Li (ခေါ်) တိုင်းလွယ် Tai Loi

တိုင်းလီ (သို့မဟုတ်) တိုင်းလွယ်တို့သည် "ကတိုင်း" မျိုးနွယ်ဖြစ်ပြီး တိုင်းအုံးပေ့သို့အသွင် ကူးပြောင်းသွားကြသည်။[၂]

### ၁ း ၃ း ၂၀ ။ တိုင်းချောင်း Tai Chaung, Zaoung

ကွမ်စီဒေသတွင်နေထိုင်၍ လူဦးရေ (၁၅)သန်းရှိပြီး တရုတ်လူမျိုးတို့နှင့် ရောနှောနေထိုင်ကြသည်။ ကိုယ်ပိုင်ယဉ်ကျေးမှု ဓလေ့ထုံးစံ သီးခြားရှိပြီး ရှမ်းစကားကို ပြောဆိုကြသည်။ ရက်ကမ်းရက်ရာတွင် ကျွမ်းကျင်သည်။ သူတို့၏ လက်ာသီချင်း အပျိုလှည့်လက်ာသီချင်းများသည် ရှမ်းကြီးများနှင့် ဆင်တူသည်။ အေဒီ ၁၉၅၅ ခုနှစ်တွင် အင်္ဂလိပ် အက္ခရာဖြင့် တိုင်းချောင်းစာကို တည်ထွင်အသုံးပြုခဲ့သည်။ တိုင်းချောင်းတို့၏ ဝတ်စားဆင်ယင်ပုံမှာ ရှေးခေတ်ရှမ်းလူမျိုးများ ဝတ်ဆင်ကြသည့် မဲနယ်ရောင်အဝတ်ကို ဝတ်ဆင်ကြသည်။ ခေါင်းပေါင်းကိုလည်း ပေါင်းကြ၏။[၃]

---

၁။ Hsen (Khur) op. cit., P.66 ။

၂။ Ibit.

၃။ William Cliflon (Dodd, D.D) The Tai Race, P.347 & Hsen (Khur) op. cit. P.67

## ၁ း ၃ း ၂၁ ။ တိုင်းလူး Tai Lu

ဆစ်ဆောင်ပန်းနား Sipsawng Pana ဒေသသည် တောင်ဘက်တွင် ရှမ်းပြည်နယ် (ပြည်ထောင်စု မြန်မာနိုင်ငံတော်)၊ အရှေ့ဘက်တွင် လောနိုင်ငံ၊ အနောက်ဘက်တွင် ယူနန်နယ်နှင့် စပ်လျက်ရှိပြီး တရုတ်ပြည်၏ တောင်ပိုင်းတွင် တည်ရှိသည်။ ဆစ်ဆောင်ပန်းနားဒေသတွင် နေထိုင်သော ရှမ်းမျိုးနွယ်များကို "တိုင်းလူး" (လူးရှမ်း)ဟုခေါ်သည်။ ဆစ်ဆောင်ပန်းနားသည် "တိုင်းလူး"လူးရှမ်းတို့၏ တိုင်းပြည်ဖြစ်ပြီး "ဆယ့်နှစ်ပြည်ထောင်တိုင်းပြည်" ဟု အဓိပ္ပါယ်ရှိသည်။ ဤကဲ့သို့ ဆယ့်နှစ်ပြည်ထောင်စုပေါင်း၍ အုပ်ချုပ်ခြင်းသည် ရှေးခေတ် ရှမ်းလူမျိုးတို့၏ အုပ်ချုပ်ရေးစနစ်ဖြစ်သည်။ မြန်မာပြည်ရှိ ရှမ်း Shan များသည်လည်း အေဒီ ၉၅၇ ခုတွင် ကမ္ဘောဒီးယားမှ "တိုင်းခိုရတ်" (ခိုရတ်ရှမ်း) တို့ထံမှ အုပ်ချုပ်နည်းပညာကို ယူ၍ (၁၂)ပြည်ထောင်စနစ်ဖြင့် အုပ်ချုပ် လာခဲ့ကြသည်။ ဘုရင့်နောင်လက်ထက်သို့ ရောက်သောအခါ (၉) ပြည်ထောင်စနစ်ဖြင့် တိုင်းပြည်ကို စီမံခန့်ခွဲသည်ကို တွေ့ရသည်။ မဲခေါင်မြစ် အနောက်ဘက်တွင် မြို့ပေါင်း (၁၂) မြို့ရှိပြီး၊ မဲခေါင်မြစ်အရှေ့ဘက်တွင် တစ်မြို့ရှိသည်။ "ဆစ်ဆောင်"သည် "ဆယ့်နှစ်"ဟု အဓိပ္ပါယ် ရှိသည်။ "ငါးမြို့မှဆယ်မြို့ ရှိသောဒေသကို "တစ်ပန်းနား" ဟုခေါ်သည်။ တစ်နည်းအားဖြင့် "ပန်း" သည် "ရှစ်ဆယ်" ဖြစ်ပြီး "နား" သည် "လယ်"ဖြစ်သည်။[၁၂]

တိုင်းလူးများကို တရုတ်တို့က ပါးယီ Pa Yi ဟုခေါ်ကြသည်။ လူးရှမ်းများသည် ကျိုင်းတုံဒေသ၊ လမ်းပွန်ဒေသ၊ ကျိန်းဟိုင်းဒေသ၊ လောနိုင်ငံအတွင်းပိုင်း နမ့်ဦးဒေသ၊ လောနိုင်ငံရှိ မဲခေါင်မြစ်ဝှမ်းတစ်လျှောက်မှ စီထန်ထရွန် Si Tan Dorn ကျွန်းစုလေးထောင် အထိနေထိုင်

---

၁၂ L. Sen (Khur). The Oregin of Tais and A Short History of Shan P.69

ကြသည်။ အေဒီ ၁၉၁၈ ခုတွင် တရုတ်ပြည်အတွင်း၌ လူးရှမ်းဦးရေ ၃၅၀,၀၀၀ ဦး၊ ကျိုင်းတုံဒေသတွင် ၅၀,၀၀၀ ဦး၊ လောနိုင်ငံနှင့် ယိုးဒယား နိုင်ငံတွင် ၇၅၀,၀၀၀ ဦးရှိသည်။ ဆစ်ဆောင်ပန်းနား၏ မြို့တော်သည် ကျိုင်းဟုန် (Chieng Rung = အာရုံဦးမြို့တော်)ဖြစ်သည်။ ဆစ်ဆောင် ပန်းနားဒေသသည် မူလက မြန်မာပြည်ရှိ ရှမ်းလူမျိုးများနှင့် အတူရှိခဲ့ပြီး အေဒီ ၁၈၇၄ ခုတွင် ကျိုင်းတုံစော်ဘွားနှင့် မြန်မာဘုရင်တပ်များက သွားရောက်တိုက်ခိုက်သဖြင့် လူးရှမ်းများက တရုတ်တို့ကို အကူအညီ တောင်းခဲ့သည်။ နောက်ပိုင်းတွင် တရုတ်တို့နှင့်သာ အဆက်အသွယ်များ လာခဲ့သည်။ အေဒီ ၁၈၉၂ ခုတွင် အင်္ဂလိပ်တို့က ဆစ်ဆောင်ပန်းနား ဒေသကို တရုတ်ပြည်သို့ ခွဲပေးခဲ့သည်။ လူးရှမ်းတို့၏ သမိုင်းဝင်မြို့တော် များကား သုံးမြို့ရှိသည်။ ၎င်းတို့မှာ ကျိုင်းတုံ (ပြည်ထောင်စု မြန်မာနိုင်ငံ) မိန်းလျဲန်း (တရုတ်ပြည်သူ့သမ္မတနိုင်ငံ)နှင့် ကျိုင်းဟုန် (တရုတ်ပြည်သူ့ သမ္မတနိုင်ငံ) တို့ဖြစ်သည်။ လူးရှမ်းများသည် အေဒီ (၁၃) ရာစုတွင် ကျိုင်းတုံမှ တစ်ဆင့် ဗုဒ္ဓဘာသာ (ထေရဝါဒ)ကို စတင်ရရှိခဲ့သည်။ နတ် ကိုးကွယ်သူအချို့လည်း ရှိနေသေးသည်။ နှစ်သစ်ရောက်လျှင် ဝက်ဖြင့် နတ်ကိုပူဇော်ကြသည်ကို တွေ့ရသည်။[၁]

## ၁ း ၃ း ၂၂ ။ ဒေါင် Dong

တောင်ပိုင်းဒေါင်နှင့် မြောက်ပိုင်းဒေါင်ဟု ခွဲခြားထားပြီး ကွေ ချောင် ဟူနန် ကန်စူဒေသတွင် နေထိုင်ကြသည်။ ဒေါင်လူဦးရေ စုစုပေါင်း သုံးသန်းကျော်ရှိသည်။[၂]

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan P.69

၂။ www.joshuaproject.net Dong people

၁ း ၃ း ၂၃ ။ တရုတ်ပြည်ရှိ 'တိုင်း' မျိုးနွယ်စု၏ လူဦးရေ[၁]

ခရစ် ၂၀၀၀ ပြည့်တွင် တရုတ်ပြည်သန်းခေါင်စာရင်းဌာန၏ ထုတ်ပြန်ချက်နှင့် သုတေသီပညာရှင်များ လေ့လာတွေ့ရှိချက်အရ တိုင်းလူမျိုးတို့၏ သန်းခေါင်စာရင်းသည် အောက်ပါ အတိုင်းဖြစ်သည်။

| စဉ် | မျိုးနွယ် | နေရာဒေသ | လူဦးရေ |
|---|---|---|---|
| ၁ | ယိ (Yi) | စူချွန်၊ ယူနန်၊ကွေချောင်၊ ကွမ်စီ | ၆၅၇၈၅၀၀ |
| ၂ | ပုယိ (Pu Yi) | ကွေချောင် | ၂၅၄၈၃၀၀ |
| ၃ | ယိုင် (Yao) | ကွမ်စီ၊ ဟူနန်၊ ယူနန်၊ ကွမ်တုံ | ၂၁၃၇၀၀၀ |
| ၄ | ဒွဲ (TuJai) | ဟူနန်၊ ဟူပေ | ၅၇၂၅၀၀၀ |
| ၅ | တိုင်း (Dai) | ဟူနန် | ၁၀၂၅၄၀၀ |
| ၆ | လိ (Li) | ကွမ်တုံ | ၁၁၁၂၅၀၀ |
| ၇ | ဆွိုး (Sui) | ကွေချောင် | ၃၄၇၁၀၀ |
| ၈ | တိုင်းနားခိ (Na Khi) | ယူနန် | ၂၇၇၈၀၀ |
| ၉ | တူ (Tu) | ကျိန်းဟဲ | ၁၉၂၆၀၀ |
| ၁၀ | မောင်နမ့် (Mao Nam) | ကွမ်စီ | ၇၂၄၀၀ |
| ၁၁ | ကီလ (Kung La) | ကွေချောင် | ၂၀,၀၀၀ |
| ၁၂ | တိုင်းနေ (Tai Nua) | ယူနန် | ၃၅၇၀၀၀ |
| ၁၃ | တူးလော်ဝ် (Tu Lao) | ယူနန် | ၁၀,၀၀၀ |
| ၁၄ | ပူလော်ဝ် (Pu Lao) | ကွမ်စီ | ၇၀,၀၀၀ |
| ၁၅ | တောင်း (Dong) | ကွေချောင်၊ ဟူနန်၊ကန်စူ | ၃၆၈၈၀၀၀ |
| ၁၆ | တိုင်းချောင်း (Zhaung) | ကွမ်စီ၊ ကွမ်တုံ | ၁၅၅၅၅၈၀၀ |

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan P.68 & www.paulnoll.com/China/Minorities

၁ း ၃ း ၂၄ ။ အိန္ဒိယနိုင်ငံရှိ ရှမ်းလူမျိုးများ

ပစ္စုပ္ပန်တွင် အာသံပြည်နယ်ဟု ထင်ရှားနေသောဒေသသည် ရှေးယခင်က ပရဂဇောတိသျှ (သို့မဟုတ်) ကမ္ဘရူပ Pragjyotisha or Kamarupa ဟူ၍လည်းကောင်း၊ ဝေသာလီ Vaisaliဟူ၍ လည်းကောင်း၊ မိန်းတောင်ဆောင်ခမ်း Moung-dun-shoun-knam- country full garden gold or The country full of golden gardens ဟူ၍လည်းကောင်း အမည်ရကြသည်။ တိုင်းပြည်အမည်မှာ အာသံပြည်ဖြစ်၍ လူမျိုးမှာ "တိုင်းအဟုမ်"ခေါ် "အဟုမ်ရှမ်း"များဖြစ်သည်။[၁]

အေဒီ ၁၀၀၀ ခန့်တွင် ရှမ်းလူမျိုးများသည် ရေကြည်ရာ မြက်နုရာရှာဖွေကြ၍သော်လည်းကောင်း၊ စစ်ဘေးစစ်ဒဏ်ကြောင့်သော်လည်းကောင်း၊ နယ်မြေဒေသချဲ့ထွင်မှုကြောင့်သော်လည်းကောင်း အကြောင်းအမျိုးမျိုးကြောင့် အိန္ဒိယနိုင်ငံ ဗြဟ္မပုတ္တရမြစ်ဝှမ်းနှင့် အာသံဒေသသို့ ရောက်ရှိလာကြသည်။ ထိုရှမ်းအုပ်စုများသည် တိုင်းပါကဲ၊ တိုင်းအိုက်တွန်၊ တိုင်း ခမ်းယန်း၊ တိုင်းခန္တီ၊ တိုင်းတုရုဏ်းနှင့် တိုင်းအာဟုမ်တို့ဖြစ်၍ မြို့တော်မှာ ဂိုတီ Goti ဖြစ်သည်။ ကောသလမျိုးနွယ်နှင့် ရှမ်းမျိုးနွယ် ရောနှောနေထိုင်ကြသည်။[၂] အာသံပြည်နယ်သည် စတုရန်းမိုင်းပေါင်း ၃၁၃၇၅ မိုင်ရှိပြီး ၁၉၉၁ ခု သန်းခေါင်စာရင်းအရ အာသံပြည်နယ် လူဦးရေ (၂၂,၄၁၄,၃၂၂) သန်းခန့်ရှိသည်။[၃]

အေဒီ ၁၂၂၈ ခုနှစ်တွင် ရှမ်းခေါင်းဆောင် သိုကပ်ဘွား Sukapha သည် တိုင်းလုံ(ရှမ်းကြီး)၊ တိုင်းမောဝ်(မောရှမ်း)တို့ကို ဦးဆောင်၍

၁။ Sasananda (S). History of Buddhism in Assam.P . 1

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan P.71

၃။ Assama."Microsoft ® Encarta ® Encyclopedia 2000. © 1993-1999 Microsoft Corporation. All rights reserved

အာသံနယ်ကို တိုက်ခိုက်သိမ်းပိုက်ပြီး အဟုမ်မင်းဆက်ကို တည်ထောင်ခဲ့သည်။ အဟုမ်မင်းဆက်သည် (၃၉)ဆက်ရှိခဲ့ပြီး အေဒီ ၁၂၂၈ မှ ၁၈၃၈ အထိ နှစ်ပေါင်း (၆၀၀)ကျော် တည်တံ့ခဲ့သည်။ အေဒီ ၁၅၆၂ ခုနှစ်တွင် အိန္ဒိယဘုရင်ကျော့ချ်သည် အဟုမ်တို့ကို တိုက်ခိုက်သော်လည်း မအောင်မြင်ခဲ့ချေ။ အဟုမ်ရှမ်းများသည် လွန်စွာအင်အား ကောင်းမွန်သဖြင့် အေဒီ ၁၅၀၆၊ ၁၆၂၇၊ ၁၆၆၃ ခုနှစ်တို့တွင် မွတ်စလင်များ အဟုမ်ကို လာရောက်တိုက်ခိုက်သော်လည်း မအောင်မြင်ခဲ့ချေ။ ထိုနောက် အာသံနယ်၏ ထီးနန်းဆက်ခံရေး ပြဿနာတစ်ရပ်ပေါ် ပေါက်ခဲ့ရာတွင် နန်းချခံရသော စန္ဒရကန္တရှိန်ကို နန်းတင်ပေးခဲ့သည်။ ခရစ်နှစ် ၁၂၂၈ ခုနှစ်မှ အစပြု၍ မြန်မာဘုရင်တို့၏ အာဏာပျံ့နှံ့ခဲ့လေသည်။ ဤသို့ ဩဇာအာဏာ ပျံ့နှံ့ခြင်းသည်ပင်လျှင် ပထမအင်္ဂလိပ် မြန်မာစစ်ပွဲ ဖြစ်ပွားရခြင်းအကြောင်း တစ်စိတ်တစ်ဒေသဖြစ်လေသည်။ ခရစ်နှစ် ၁၈၂၆ ခုနှစ် အင်္ဂလိပ်-မြန်မာ ပထမစစ်ပွဲ အပြီးတွင် အာသံနယ်သည် ဗြိတိသျှတို့၏ ထိန်းသိမ်းထားသော ပြည်နယ်ဖြစ်လာသည်။[၁] အင်္ဂလိပ်တို့သည် အဟုမ်ဒေသကို သိမ်းပိုက်ပြီး စော်ဘွားပုရန္တသိဟ လက်အောက်သို့ လွှဲပေးခဲ့သည်။ ယခုအခါ အာသံဒေသသည် အိန္ဒိယနိုင်ငံတွင် အာသံပြည်နယ်တစ်ခုအဖြစ် ထင်ရှားသည်။[၂]

အာသံပြည်နယ်တွင် လူဦးရေထက်ဝက်ခန့်သည် ဟိန္ဒူအယူဝါဒကို သက်ဝင်ယုံကြည်ကြ၍ လေးပုံတစ်ပုံခန့်သည် အစ္စလာမ်အယူဝါဒများဖြစ်ကြပြီးလျှင် ခြောက်ပုံတစ်ပုံခန့်သည် နတ်ကိုးကွယ်သူများဖြစ်ကြသည်။[၃] အဟုမ်ရှမ်းများသည် အစက ဗုဒ္ဓဘာသာဝင်များ ဖြစ်ခဲ့ကြသော်

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၄။ <u>အာသံပြည်နယ်</u>၊ နှာ ၄၀၂။

၂။ Hsen (Khur). <u>The Oregin of Tais and A Short History of Shan</u> P.73

၃။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၄၊ အာသံပြည်နယ်၊ နှာ ၄၀၂။

လည်း အေဒီ ၁၈ ရာစုတွင် ဟိန္ဒူဝါဒကို ပြောင်းလဲကိုးကွယ်ကြသည်။ အာသံပြည်နယ်ရှိ ဟိန္ဒူဘာသာဝင် အဟုမ်လူမျိုး သုံးသန်းအနက် အနည်းငယ်မျှသာ ဗုဒ္ဓဘာသာဝင်ဖြစ်ကြသော်လည်း အားလုံးပင် ဗုဒ္ဓဘာသာကို အထူးလိုလားကြပါသည်။[၁]

၁ း ၃ း ၂၅ ။ ဗီယက်နမ်ရှိ ရှမ်းလူမျိုးများ

ဗီယက်နမ်နိုင်ငံတွင် မြေပြန့်ဒေသများ၌ ဗီယက်နမ်လူမျိုးများ နေထိုင်ကြပြီး တောင်ပေါ်ဒေသ Blue Country တွင် "တိုင်း" (ခေါ်) "ရှမ်း"လူမျိုးစုများ နေထိုင်ကြသည်။ တောင်ပေါ်ဒေသတွင် 'တိုင်း' လူမျိုးစု ၅၀၀,၀၀၀ နှင့် "မျို့"လူမျိုးစု ၁၀၀,၀၀၀ ရှိသည်။ ၈၀၀ မီတာမြင့်သော တောင်ပေါ်ဒေသတွင် "တိုင်းလမ်" Tai Lam၊ "တိုင်းနုံး" Tai Nung တို့ နေကြပြီး ထိုထက်မြင့်သောဒေသကို "တိုင်းယန်း" Tai Yan တို့ နေထိုင်ကြသည်။[၂]

တုန်ကင်းအထက်ပိုင်းတွင် တိုင်းထို Tai Tho၊ တိုင်းလမ် Tai Lam၊ တိုင်းခေါဝ် Tai khaoတို့ နေထိုင်ကြပြီး ဗီယက်နမ် နိုင်ငံအတွင်းရှိ ရှမ်းလူမျိုးများအနက် "တိုင်းထို"သည် လူဦးရေအများဆုံး ဖြစ်သည်။ ဘီစီ ၂၀၆ ခုနှစ်တွင် ယူနန်နယ်မှ ရှမ်းများသည် ဤဒေသသို့ ရောက်လာခြင်းဖြစ်သည်။ အေဒီ ၇၂၉ ခုတွင်လည်း နန်ချောင်ဘုရင် ပီလိုခိုသည် မိန်းတိန် (ယခု-တိန်ပင်ဖူး) မြို့ကို တည်ထောင်ပြီး ၎င်း၏ သားတော် ချူးဆောင်း Chusong ကို အုပ်ချုပ်စေသည်။ အေဒီ ၈၅၉ ခုတွင် နန်ချောင်စစ်သူကြီး ဆေလုံလက်ထက်၌ တုံကင်းကို လာရောက်တိုက်

---

၁။ မြန်မာ-အာသံ ချစ်ကြည်ရေး ဗုဒ္ဓဘာသာမိတ်ဆက်အဖွဲ့၏အစီအရင်ခံစာ၊ နှာ ၂၇။
၂။ Hsen (Khur). The Oregin of Tais and A Short History of Shan PP.76-82

နိုက်အောင်မြင်စဉ် ရှမ်းလူမျိုးများ ဤဒေသသို့ ထပ်မံရောက်ရှိလာသည်။ အေဒီ ၁၂၃၅ ခုနှစ်တွင် ကူဗလိုင်ခန်သည် နန်ချောင်နိုင်ငံတော်ကို သိမ်းပိုက်ပြီးနောက် နန်ချောင်ရှမ်းများသည် ဤဒေသကို ဆက်လက် စိမ့်ဝင်လာကြလေသည်။[၁] ဗီယက်နမ်ရှိ ရှမ်းလူမျိုးများ အကြောင်းကို ဆက်လက်ဖော်ပြလိုပါသည်။

## ၁ း ၃ း ၂၅ း ၁ ။ တိုင်းထို Tai Tho

"တိုင်းထို"များသည် မိမိကိုယ်ကို "တိုင်း" Tai ဟုခေါ်ကြသည်။ ၎င်းတို့သည် ယူနန်မှ တုံကင်း၊ ထိုမှတစ်ဆင့် နမ့်လမ်မြစ် Black River နမ့်လှိုင်မြစ် Red River အတိုင်းဆင်းသက်လာပြီး ဗီယက်နမ်သို့ ရောက်လာကြခြင်းဖြစ်သည်။ 'တိုင်းထို'တို့သည် မိမိကိုယ်ကို 'တိုင်း-Tai' ဟုပင် ခေါ်ကြသည်။ "တိုင်းထို"စကားသည် ဗီယက်နမ်စကားနှင့် ရောပြွမ်းပြီး 'တိုင်းထို' စကားဆယ်ခွန်းတွင် ဗီယက်နမ်စကားသုံးခွန်း ပါဝင်သည်ဟု ဆိုသည်။[၂] ဗီယက်နမ်တွင် 'ထို'လူဦးရေ ၆၈၃၉၄ ဦးရှိသည်။

## ၁ း ၃ း ၂၅ း ၂ ။ တိုင်းတိုင် Tai Tay

တိုင်းတိုင်အုပ်စုသည် တိုင်းနုန်းအုပ်စုနှင့်အတူ ကွန်ဆီးဒေသမှ ပြောင်းရွှေ့လာကြပြီး နမ့်ကိုင် (ခမေ်.ဂိုင်) Nam Coung အင်ပါယာကို တည်ထောင်ခဲ့သည်။ သူတို့၏ ခေါင်းဆောင်မှာ ခွန်အောဝ်လတ် khun Auo Lak ဖြစ်သည်။ 'တိုင်'ဟူသော ဝေါဟာရသည် 'တိုင်း Tai' ဖြစ်ပေမည်။ ထို့ကြောင့် 'တိုင်းတိုင်'ကို တိုင်းတိုင်း'ဟုလည်း ခေါ်ဆို

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan PP.76-77

၂။ Hsen (Khur), The Oregin of Tais and A Short History of Shan P.77

နိုင်သည်။ 'တိုင်းတိုင်'အမည်ကို အေဒီ ၁ ရာစုကတည်းက သမိုင်းမှတ်တမ်းများတွင် တွေ့ရသည်။ 'တိုင်းတိုင်'တို့သည် အဝတ်ဖြူများဝတ်ဆင်ကြသဖြင့် မိမိကိုယ်ကို အဝတ်ဖြူဝတ်သူများ ဟုလည်းခေါ်သည်။ 'တိုင်းတိုင်' နှင့် 'တိုင်းနုန်း'တို့သည် ဗီယက်နမ်အတွင်းရှိ ကောင်ပန် Cao Bang၊ လန်းဆွန် Lang Son၊ ပတ်တိုင်း Bac Thai နှင့် ဟွန်လီဆင်း Hoang Lien Son ဒေသတို့တွင် နေထိုင်ကြသည်။ ဗီယက်နမ်တို့က ပြင်သစ်ကို အောင်နိုင်ခဲ့ပြီးနောက် ဗီယက်နမ်အစိုးရက 'တိုင်းတိုင်'နှင့် 'တိုင်းနုန်း' တစ်သန်းကျော်တို့ကို ဗီယက်နမ်တောင်ဘက်ပိုင်းဒေသ ဖြစ်သော မိန်းတက်လတ်၊ တုန်နိုင်း၊ လိန်တုန်၊ တုန်ဟိုင်း၊ ကွန်ဟုံနှင့် ယာဟိုင်းသို့ ပြောင်းရွှေ့စေခဲ့သည်။ ၁၉၉၉ ခုနှစ် ဗီယက်နမ်အစိုးရ သန်းခေါင်စာရင်းအရ ဗီယက်နမ်တွင် 'တိုင်းတိုင်' လူဦးရေ (၁၄၇၇၅၁၄) ဦး ရှိသည်ဟု ဖော်ပြထားသည်။ ဗီယက်နမ်တိုင်းရင်းသား (၅၃) မျိုး အနက် 'တိုင်းတိုင်' သည် ဒုတိယလူဦးရေအများဆုံးဖြစ်သည်။[၁]

### ၁ း ၃ း ၂၅ း ၃။ တိုင်းနုန်း (ခေါ်) တိုင်းနုန်း **Tai Nung**

"တိုင်းနုံး"တို့သည် နမ့်မြေလှိုင်မြစ်တစ်လျှောက်တွင် နေထိုင်ကြသည်။ ယူနန်ရှမ်းများနှင့် ဆင်တူ၍ မိမိကိုယ်ကို ရှေးခေတ်ရှမ်းလူမျိုးစုများဖြစ်သည်ဟုဆိုသည်။ တရုတ်ယဉ်ကျေးမှု လွှမ်းမိုးသော်လည်း ရှမ်းစကားပြောတတ်ကြသည်။ စီးပွားရေး ကျွမ်းကျင်သူများဖြစ်သည်ဟုဆိုသည်။[၂] 'တိုင်းနုန်း' သည် 'တိုင်းတိုင်' တို့နှင့်အတူတကွ နေထိုင်ကြသော်လည်း ဝတ်စုံဖြူ မဝတ်ဆင်ကြချေ။ ဝတ်စုံနက်ကို ဝတ်ဆင်ကြသည်။

---

၁။ Mong (Maha), Tai Tay and Tai Nung, P.15.

၂။ .Hsen (Khur).The Oregin of Tais and A Short History of Shan PP.77-78

၁၉၈၉ ခုနှစ် ဗီယက်နမ်အစိုးရ သန်းခေါင်စာရင်းအရ ဗီယက်နမ်တွင် 'တိုင်းနုန်း' လူဦးရေ (၈၅၆,၄၁၂) ဦးရှိသည်။ ဗီယက်နမ်တိုင်းရင်းသား (၅၃) မျိုးတို့တွင် 'တိုင်းနုန်း'သည် သတ္တမမြောက် လူဦးရေအများဆုံးဖြစ်သည်ဟု ဆိုသည်။[၁]

## ၁ း ၃ း ၂၅ း ၄ ။ တိုင်းထိုတစ် Tai To Tis

'တိုင်းထို' လူမျိုးနှင့် ရောနှော၍ နေထိုင်ကြသည်။ ဗီယက်နမ်ခေါင်းဆောင်တို့နှင့် ထိုင်းအမျိုးသမီးပေါင်းစပ်၍ "တိုင်းထိုတစ်" ဖြစ်လာသည်ဟုဆိုသည်။ ဗီယက်နမ်စာပေကို ဖတ်တတ်ကြသော်လည်း ရှမ်းစကားကိုသာ ပြောဆိုကြသည်။[၂]

## ၁ း ၃ း ၂၅ း ၅ ။ တိုင်းယန်း Tai Yangs (ခေါ်) တိုင်းနုန်း Tai Nhangs

နမ့်မြေလှိုင် Red River မြစ်ကမ်းဘေးတွင် နေထိုင်ကြပြီး "တိုင်းနုန်း"နှင့် နီးစပ်သူများ ဖြစ်ကြသည်။ အမျိုးသားများသည် တရုတ်ကဲ့သို့ ဝတ်ဆင်ပြီး အမျိုးသမီးများသည် ဘောင်းဘီဝတ်၍ ခေါင်းပေါင်းပေါင်းထားကြသည်။ မိဘဘိုးဘွားရိုးရာနတ်ကို ကိုးကွယ်ပြီး ၎င်းတို့၏ ရိုးရာနတ်ပွဲကို လူမျိုးခြားများ ဝင်ခွင့်မပြုပေ။ ၎င်းတို့၏ ယုံကြည်မှုကား သား ယောကျ်ားဖွားလာလျှင် ပက်လက်လန်၍ ဖွားမှ မြင့်မြတ်သည်ဟု ယူဆသည်။ ဤအယူအဆသည် ဘာလီကျွန်းတွင် နေထိုင်သော အင်ဒိုနီးရှားနှင့် တူညီသည်ကို တွေ့ရသည်။[၃]

---

၁။ Mong (Maha). Tai Tay and Tai Nung. P.15.

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan PP.77-78.

၃။ Ibit. op.cit. P.78

## ၁ း ၃ း ၂၅ း ၆ ။ တိုင်းလှိုင် Tai Leng

"တိုင်းလှိုင်"ခေါ် ရှမ်းနီသည် လောလူမျိုး၊ ဗီယက်နမ်လူမျိုးတို့နှင့် ဆင်တူသည်။ အခြားလူမျိုးတို့နှင့် ရောနှော၍ မနေကြချေ။ နိုင်ငံရေး ကင်းရှင်းပြီး အေးအေးလူလူ နေတတ်ကြသူများဖြစ်ကြသည်။[၁]

## ၁ း ၃ း ၂၅ း ၇ ။ တိုင်းဖေါင်းထို့ Tai Pong Tho

"တိုင်းဖောင်းထို့"သည် တိုင်းနုံးနှင့် သိပ်မကွာခြားပေ။ ရဲရင့်သော စိတ်ဓာတ်ရှိ၍ စစ်ရေးတွင် ဝါသနာပါသူများ ဖြစ်ကြသည်၊ ရှမ်းစကားပြောရာတွင် တိုင်းနုံးထက် လျင်မြန်စွာ ပြောဆိုကြသည်၊ တိုင်းဖေါင်းထို့တို့၏ ရိုးရာဦးထုပ်အကသည် ဗီယက်နမ်တွင် လွန်စွာနာမည်ကြီးသော တိုင်းရင်းသားအကဖြစ်သည်။[၂]

## ၁ း ၃ း ၂၅ း ၈ ။ တိုင်းလူး နှင့် လောဝ် Tai Lu & Lao

ဖင်းလူးရွာ၊ နမ့်ဖိုင်ရွာ၊ ဝမ်တာရွာ၊ ခူးမားရွာ၊ ကွေ့တန်းရွာတို့သည် တိုင်းလူးရွာများ ဖြစ်ကြပြီးသည်။ ဆစ်ဆောင် ပန်းနားနယ်စပ်ရှိ အူယောင်းနှင့် အူနေး (ဖုံးဆာလီ) တွင်လည်း လူးရှမ်းများ နေထိုင်ကြသည်။ ဖင်းလူးရွာနှင့်နမ့်မူးရွာမှ မိုင်းကောင် (မြို့ဟောင်း) တောင်ဘက်တွင် တိုင်းလောဝ်ရွာများရှိကြသည်။ တိုင်းလူးရွာနှင့် တိုင်းလောဝ်ရွာတို့သည် အနည်းငယ်ကွာခြားသည်။ အခြားရှမ်းလူမျိုးများနှင့် ဆက်ဆံကြ၍ ထိုင်းဘာသာစကားကို ပြောဆိုကြသည်။[၃] လူးလူဦးရေ ၄၉၆၄ ဦးရှိပြီး လောလူဦးရေ ၁၁၆၁၁ ဦး ရှိသည်ဟု ဆိုသည်။

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan P.78

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan P.78

၃။ Hsen (Khur). The Oregin of Tais and A Short History of Shan P.78




Chart of probable immigration waves into Burma

Complied by Captain J.H. Green. F.R.A.I to illustrate Chapter IV Races of Burma by Major Enriquez F.R.G.S.

ရှမ်းလူမျိုးစုများ မြန်မာပြည်အတွင်း ပျံ့နှံ့ဝင်ရောက်ပုံ



တိုင်းနေ (ခေါ်) အထက်ရှမ်းများ၏ သကြံန်ပွဲတော်အက (ယူနန်ပြည်နယ် တရုတ်ပြည်)





တိုင်းနေ (ခေါ်ဝ အထက်ရှမ်းများ၏ ရိုးရာဝတ်စားဆင်ယင်မှု



မူဆယ် မောဒေသ၊ ရှမ်းနှစ်သစ်ကူးပွဲတော် (နတ်တော်လဆန်းတစ်ရက်)



တိုင်းမော (ခေါ်) မောရှမ်း နှင့် တိုင်းနေ ဝတ်စုံ



လွှးရှမ်းတို့၏ ရိုးရာလှေလှော်ပြိုင်ပွဲ (ဆစ်ဆောင်ပန်းနားဒေသ တရုတ်ပြည်)



လွှးရှမ်းတို့၏ ရိုးရာသင်္ကြန်ပွဲတော် (ဆစ်ဆောင်ပန်းနားဒေသ တရုတ်ပြည်)



ပါကဲရှမ်းတို့၏ ရှင်လောင်းပွဲ (အာသံပြည်နယ်၊ ပါကေးရွာ၊ အိန္ဒိယနိုင်ငံ)



ပါကေး ရှမ်းဝတ်စုံ



အာသံရှမ်းတို့၏ သကြန်ပွဲတော် ဘုရားဆင်းတုတော်အား ရေသွန်းလောင်းခြင်း



အာသံရှမ်းတို့၏ စစ်ပွဲဝင် ဓားသိုင်းအက (အာသံပြည်နယ်၊ အိန္ဒိယနိုင်ငံ)



တိုင်းလှိုင် (ရှမ်းနီ) နှင့် တိုင်းနေ (အထက်ရှမ်း) ဝိုင်းမော်၊ ကချင်ပြည်နယ်



ခန္တီးရှမ်း လူပျိုဖြူ

## ၁ း ၃ း ၂၅ း ၉ ။ တိုင်းခေါင် Tai Khao

'တိုင်းခေါင်' (ခေါ်) ရှမ်းဖြူများသည် နမ့်မြေလှိုင်နှင့် နမ့်မြေလမ်တွင် နေထိုင်ကြသည်။ 'တိုင်းခေါင်'များသည် ဗုဒ္ဓဘာသာဝင်များ မဟုတ်ကြချေ။ မိဘဘိုးဘွားရိုးရာနတ်ကို ကိုးကွယ်ပူဇော်ပသကြသည်။ တိုင်းခေါင်တိုင်းပြည်ကို 'ဆစ်ဆောင်ခွန်တိုင်း-ဆယ့်နှစ်ပြည်ထောင်တိုင်းပြည်' ဟုခေါ်သည်။ အဖြူရောင်အဝတ်ကို ဝတ်ဆင်ကြသဖြင့် "တိုင်းခေါင်-ရှမ်းဖြူ" ဟု ခေါ်ခြင်းဖြစ်သည်။ 'တိုင်းခေါင်'တို့သည် ရဲစွမ်းသတ္တိပြည့်စုံသူများ ဖြစ်ကြသည်။ လှိုင်ချော Lai Chaw ဒေသမှ ဒိုဗင်တရိ Deo Van Tri (ခေါ်) ခမ်းဟွမ် Kham Houm သည် နမ့်လှိုင်မြစ်ဝှမ်းကို အုပ်ချုပ်ခဲ့သည်။ လှိုင်ချောဒေသတွင် အေဒီ ၁၉၁၃ ခုတွင် 'တိုင်းခေါင်' လူဦးရေ ၆၀၀,၀၀ ရှိသည်။ အေဒီ ၁၈၈၆ ခုတွင် ထိုင်းဘုရင်ချုလုလောင်ကွမ်ကို လက်မခံဘဲ ပြင်သစ်တို့ကို တော်လှန်တိုက်ခိုက်ခဲ့သည့် ဗီယက်နမ်တော်လှန်ရေး "တပ်နက်တော်" တွင် တိုင်းခေါင်များ များစွာပါဝင်၏။ တိုင်းခေါင်စကားသည် မြန်မာပြည်ရှိ ရှမ်းကြီးစကားနှင့် များစွာတူသည်ကို တွေ့ရသည်။[၁]

## ၁ း ၃ း ၂၅ း ၁၀ ။ တိုင်းလမ် Tai Lam

တိုင်းလမ် (ခေါ်) ရှမ်းနက်တို့သည် အနက်ရောင်ဝတ်စုံကို ဝတ်ဆင်ကြသည်။ ငွေသားဖြင့် ကချင်ဝတ်စုံကဲ့သို့ အဝတ်ကို တန်ဆာဆင်ကြသည်။ တိုင်းလမ်သည် တိုင်းခေါင်တို့လောက် စိတ်ဓာတ်ကြံ့ခိုင်မှု မရှိလှပေ။ သို့သော် အလုပ်လုပ်ရာတွင် ဇွဲရှိစွာလုပ်ကိုင်တတ်ကြသည်။ တည်ငြိမ်သည်။ နမ့်မြေလမ်မြစ်ရှိ မိုင်းလားတွင် တိုင်းလမ်လူမျိုးများ အများဆုံးနေထိုင် ကြသည်။ နတ်ကိုးကွယ်သူများဖြစ်ကြသည်။ လူသေကိုမြေမြှုပ်ပြီး

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan P.79

သချိုင်းပေါ်တွင် ကျောက်တုံးကျောက်ခဲဖြင့် ဖိ၍ ကာရံထားကြသည်။ လူသေသောအခါ နတ်ဆရာသည် ဦးဆောင်ပြီး ဒေါင်းမြီးကိုကိုင်ဆောင်၍အသုဘပို့ကြသည်။ ငှက်နှင့် ကြိုးကြာတို့သည် လူသေကို နတ်ပြည်သို့ ပို့ဆောင်ပေးသည်ဟု ယုံကြည်သည်။ ရှေးခေတ်အင်ဒိုနီးရှားတို့သည်လည်း ဤကဲ့သို့ ယုံကြည်ကြသည်ကို တွေ့ရသည်။[၁] ဗီယက်နမ်နိုင်ငံတွင် တိုင်းလမ်လူဦးရေ ခုနစ်သိန်းခွဲကျော်ရှိသည်။

## ၁ း ၃ း ၂၅ း ၁၁ ။ တိုင်းယော Tai Yore

"တိုင်းယော"၏ ယဉ်ကျေးမှုသည် တိုင်းလမ်အပြင် ရှေးဟောင်း တရုတ်တို့၏ ယဉ်ကျေးမှုတို့နှင့် ဆင်တူသည်။ ဗုဒ္ဓယဉ်ကျေးမှုများ လုံးဝ မပါဝင်ချေ။ သူတို့၏ စကားသည် ယိုးဒယားမြောက်ပိုင်းတွင် နေထိုင် သော "ယွန်းရှမ်း"များနှင့်တူသည်။[၂]

## ၁ း ၃ း ၂၅ း ၁၂ ။ တိုင်းတူလောဝ် (ခေါ်) တိုလောဝ် (ခေါ်) တိုဂျင်း

တရုတ်နယ်စပ်ရှိ နမ့်ဆောင်ကျေးတွင် နေထိုင်ကြသည်။ ရှမ်း မျိုးနွယ်များ ဖြစ်ကြပြီး ကွမ်စီအနောက်ပိုင်းမှ ပြောင်းရွှေ့လာသူများ ဖြစ်သည်။ ဝတ်စားဆင်ယင်ပုံမှာ "မျို့" လူမျိုးတို့နှင့်တူသည်။ ဘောင်းဘီ ရှည်ပြီး ခါးစည်းအဝတ်ကို ခါးမှာပတ်ထားကြသည်။[၃]

## ၁ း ၃ း ၂၅ း ၁၃ ။ ပူပေါင်း Pu Pong

စစ်ဗိုလ်ချုပ်ကြီး ကောအပတိုင်း Col- Abadieဗီယက်နမ်သို့

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Siam P.80

၂။ Hsen (Khur). The Oregin of Tais and A Short History of Siam P.82

၃။ Ibid

ရောက်ရှိစဉ် 'ပူးပေါင်းရှမ်း'တို့နှင့် တွေ့ဆုံခဲ့၍ ၎င်းတို့သည် မိမိကိုယ်ကို "တိုင်း" လူမျိုးဖြစ်ကြောင်း ပြောဆိုကြသည်။[၁]

## ၁ း ၃ း ၂၅ း ၁၄ ။ တိုင်းပါးယီ Pa Yi

ပါခါးနှင့် မိုင်းခွင်ဒေသတွင် နေထိုင်ကြပြီး ၎င်းတို့၏ အမျိုးသမီးများ အဖြူရောင်၊ အဝါရောင်ဝတ်ဆင်မှုကို အစွဲပြု၍ ပါးယီခေါင် (ရှမ်းဖြူ) ပါးယီလိန် (ရှမ်းဝါ) ဟူ၍ နှစ်အုပ်စု ကွဲပြားသည်။ ရှမ်းစကားနှင့် တရုတ်စကားကို ပြောဆိုကြသည်။[၂]

## ၁ း ၃ း ၂၆ ။ တိုင်းလောဝ် Tai Lao (ခေါ်) လောလူမျိုး

အိုက်လောဝ် Ai Lao ဟူသောအမည်သည် ရှေးဟောင်း ရှမ်းနိုင်ငံတော်၏ အမည်ကို အစွဲပြု၍ ယခုလောနိုင်ငံသို့ ရောက်ရှိနေသော တိုင်း(ရှမ်း) လူမျိုးတို့သည် မိမိကိုယ်ကို "လော" ဟုခေါ်ကြသည်။[၃] တချို့ကမူ တရုတ်ပြည်အတွင်း (ယုံချွန်၏မြောက်ဘက်) သံလွင်မြစ်နှင့် မဲခေါင်မြစ်အကြားရှိ အိုက်လောသျှမ် Ai Lao Shan တောင်ကို အစွဲပြု၍ ခေါ်သည်ဟုလည်းဆိုသည်။[၄]

အေဒီ ၁၈၇၆ ခုနှစ်တွင် လန့်စန့်ဘုရင် သန်းခေါင်စာရင်း ကောက်ယူရာ၌ လောလူမျိုးတို့က မိမိတို့သည် "တိုင်း"လူမျိုးဖြစ်ကြောင်း ပြောဆိုကြသေးသည်။ လောနိုင်ငံနှင့် လောလူမျိုးဖြစ်ပေါ်လာခြင်းမှာ ပြင်သစ်လူမျိုးတို့ လာရောက်အုပ်စိုးသည်မှစ၍ လောနိုင်ငံ Franch

---

၁။ William Clifton (Dodd. D.D) op.cit, P.347 & Hsen (Khur) op.cit, P.82.

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan P.82

၃။ William Clifton (Dodd. D.D) op.cit. P.230

၄။ Hsen (Khur). The Oregin of Tais and A Short History of Shan P.83

Laos State ဟူ၍ နာမည်သစ် ဖြစ်ပေါ်လာသည်။ ယိုးဒယားတို့သည်လည်း မိမိကိုယ်ကိုမိမိ "တိုင်း" ဖြစ်ကြောင်းပြောဆိုသဖြင့် ရှမ်းမျိုးနွယ်စုများက မိမိကိုယ်ကို "တိုင်း"ဟု ပြောဆိုကြသည်မှာ နာမည်အခေါ်များ ရောနှောလာသဖြင့် အင်္ဂလိပ်နှင့်ပြင်သစ် လက်ထက်တို့တွင် အရှေ့တောင်အာရှရှိ ရှမ်းများကို ခွဲခြားသိရှိနိုင်ရန်အတွက် လော Lao၊ ဆယမ် Siam၊ ရှမ်း Shan ဟူ၍ ခွဲခြားခေါ်ဝေါ်လာကြသည်။[၁]

လောနိုင်ငံတွင် ရှေးအခါက လူပုများ Pygmies၊ မွန်ဂိုယိုယ ရိုပွက် Mongolo Curopoids နှင့် ပါပိုယွန် Papuans လူမျိုးများ နေထိုင်ကြသည်။ ဘီစီ ၂၀၀၀ မှ ၅၀၀ တွင် အင်ဒိုနီးရှားလူမျိုးများ လာရောက်နေထိုင်ကြပြီး အေဒီပထမရာစုတွင် အင်ဒိုနီးရှားတို့ လွန်စွာ အင်အားကြီးမားခဲ့သည်။ နောက်ပိုင်းတွင် မွန်ခမာများ ဝင်ရောက် တိုက်ခိုက်သဖြင့် အင်ဒိုနီးရှားများ တောင်ဘက်သို့ ပြောင်းရွှေ့သွားကြသည်။ အေဒီ (၈)ရာစုတွင် နန်ချောင်ဘုရင် ခွန်လူဖုန်းသည် လုံဖရပန်းရှိ "ခါ" Khas တို့ကို အောင်နိုင်ပြီး သားတော်ခွန်ဆဝ Khun Sawa ကို အုပ်ချုပ်စေခဲ့သည်။ ထို့နောက် နန်ချောင်မှ ရှမ်းမျိုးနွယ်များ ဆက်လက်ရောက်ရှိလာကြပြီး မွန်ခမာတို့ အင်အားနည်းပါးလာသဖြင့် "တိုင်းလောဝ်"(ခေါ်) "လောလူမျိုး"တို့ ကြီးစိုးလာခဲ့လေသည်။[၂]

လောနိုင်ငံ၏ အဓိကလူမျိုးစုကြီးများမှာ လင်းစဝ်နှင့် လောဝ်ဝိန်းခေါ်သော ရှမ်းများဖြစ်ကြသည်။ အခြားရှမ်းလူမျိုးများမှာ ပုတိုင်းနက်၊ ပုတိုင်းနီ၊ လု၊ တိုင်းနုအာတို့ ဖြစ်ကြသည်။ 'လု'နှင့် 'တိုင်းနုအာ'တို့ကို မြောက်ပိုင်းတွင် တွေ့ရ၍ ကျန်ရှမ်းအမျိုးစုများကို မဲခေါင်မြစ်တစ်လျှောက်နှင့် ကမ္ဘောဒီးယားနိုင်ငံတောင်ဘက်အထိ တွေ့ရသည်။ လဝ်း

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan P.83

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan PP.83-4

ရှမ်းတို့သည် ဗုဒ္ဓဝါဒီများဖြစ်ကြ၏။ အထက်တန်းကျသော ယဉ်ကျေးမှုနှင့် ဓလေ့ထုံးစံများ ရှိကြသည်။ တောင်ဘက်မဲခေါင်မြစ်ဝှမ်း တစ်လျှောက်တွင် နေထိုင်ကြသော ရှမ်းတို့မှာမူ ဗုဒ္ဓဝါဒနှင့် မိရိုးဖလာ ယုံကြည်ချက်များကို ရောနှောကိုးကွယ်သူများဖြစ်၏။ အသားအတန် ညိုသည်။ အရပ်အမောင်း မမြင့်လှပေ။ အထက်သို့ စွေစောင်းသော မျက်လုံးမျိုးလည်း မရှိကြပေ။ တောတောင်ရေမြေ ထူထပ်၍ ဆက်သွယ်မှု ခက်ခဲသောကြောင့် လာအိုနိုင်ငံရှိ ရှမ်းတို့မှာ အစုစုကွဲပြားလျက် ရှိကြသည်။ လူမျိုးစုချင်း တူညီချက်များ နည်းပါးသော်လည်း ဘာသာစကားတွင်ကား တူညီကြသည်။[၁]

လာအိုနိုင်ငံသည် အာရှအရှေ့တောင်ပိုင်းတွင် ယခင်က ပြင်သစ်သမဂ္ဂ အုပ်ထိန်းခံနယ်တစ်ခုဖြစ်ခဲ့သည်။ မြောက်ဘက်တွင်တရုတ်ပြည်၊ အနောက်ဘက်တွင် မြန်မာပြည်နှင့် ယိုးဒယားပြည်၊ တောင်ဘက်တွင် ကမ္ဘောဒီယား၊ အရှေ့ဘက်တွင် ဗီယက်နမ်နိုင်ငံတို့နှင့် နယ်ချင်းစပ်လျက်ရှိသည်။ လာအိုနိုင်ငံသည် စတုရန်းမိုင် ၉၁၄၂၈ ကျယ်ဝန်း၍ ၁၉၄၇ ခုနှစ် မေလ ၁၁ ရက်နေ့တွင် လာဘုရင်က ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေဖြင့် အုပ်စိုးခဲ့သည်။ လာအိုနိုင်ငံသည် ၁၉၄၉ ခုနှစ် ဇူလိုင် လ ၁၉ ရက်တွင် ပြင်သစ်သမဂ္ဂအတွင်း၌ လွတ်လပ်သောနိုင်ငံဖြစ်လာသည်။[၂]

ပြင်သစ်လက်အောက်မှ လွတ်မြောက်သော်လည်း နိုင်ငံရေးအုပ်စုအားပြိုင်မှုကြောင့် ပြည်တွင်းမငြိမ်မသက်မှုများ ဆက်တိုက်ဖြစ်ပွားခဲ့သည်။ ၁၉၇၅ ခုနှစ်မေလတွင် 'ကွန်မြူနစ်ပသက်လော'တို့ဘက်မှ အရေးသာ လာပြီးလျှင် လက်ယာအုပ်စုဝင် ဝန်ကြီးများ နုတ်ထွက်သွားခဲ့ကြ

၁။ ဘရှင် (ဦး)၊ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၄၊ ရှမ်းလူမျိုး၊ နှာ ၄၀၀၊

၂။ မြန်မာ့စွယ်စုံကျမ်း၊ နှစ်ချုပ် (၁၉၉၂)၊ လာအိုပြည်သူ့ဒီမိုကရက်တစ်သမ္မတနိုင်ငံ၊ နှာ ၂၈၉။

သည်။ ၁၉၇၅ ခုနှစ် ဒီဇင်ဘာလတွင် ဘုရင်သီရိဝတ္တနာ နန်းစွန့်သွားခဲ့သည်နှင့်အတူ အမျိုးသားညီညွတ်ရေး ယာယီအစိုးရအဖွဲ့လည်း နုတ်ထွက်ပေးခဲ့ရသည်။ ဤသို့ဖြင့် လောနိုင်ငံ၌ ဘုရင့်အုပ်ချုပ်ရေးစနစ် ချုပ်ငြိမ်းခဲ့ပြီးလျှင် ၁၉၇၆ ခုနှစ် ဇန်နဝါရီလ ၃၀ ရက်နေ့တွင် လောနိုင်ငံကို "ပြည်သူ့ဒီမိုကရက်တစ်လောနိုင်ငံ" အဖြစ်ကြေညာခဲ့သည်။[၁]

၁၉၉၅ ခုနှစ် သန်းခေါင်စာရင်းအရ လောနိုင်ငံလူဦးရေသည် ၄,၅၈၁,၂၅၈ ရှိသည်။[၂] လောလူမျိုး ၄၈ ရာခိုင်နှုန်း၊ မွန်ခမာလူမျိုးစု ၂၅ ရာခိုင်နှုန်း၊ ထိုင်းလူမျိုးစု ၁၄ ရာခိုင်နှုန်း၊ မိယိုနှင့်မာအိုလူမျိုးစု ၁၃ ရာခိုင်နှုန်းနှင့် အခြားလူမျိုးများ နေထိုင်ကြသည်။ လောနှင့်ပြင်သစ်ဘာသာစကား သုံးစွဲ၍ ဗုဒ္ဓဘာသာကိုးကွယ်သူ ၅၀ ရာခိုင်နှုန်းနှင့် ရိုးရာကိုးကွယ်သူ ၅၀ ရာခိုင်နှုန်းရှိသည်။[၃]

## ၁ း ၃ း ၂၆ း ၁။ လောနိုင်ငံရှိ တိုင်းမျိုးနွယ်များ

## 'တိုင်းလမ်' Tai Lam

လောလူမျိုးများသည် မဲခေါင်မြစ်ဝှမ်းတစ်လျှောက် လုံဖရပန်း(မြောက်ဖျား) မှ ကျိန်းခွန့်(တောင်ပိုင်း) အထိ နေထိုင်ကြပြီး လောစောနှင့် လောဝိန်းသည် အများဆုံးဖြစ်သည်။ 'လောဆောင်လမ်'လူမျိုးသည် လောနိုင်ငံအရှေ့ပိုင်းတွင် နေထိုင်ပြီး ၎င်းတို့ကို ထိုင်းဘုရင်က မိန်းတိန်မှ

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ နှစ်ချုပ် ၁၉၉၂ လောပြည်သူ့ဒီမိုကရက်တစ်သမ္မတနိုင်ငံ နှာ ၂၇
၂။ "Laos." Microsoft R Encarta R Encyclopedia 2000. © 1993-1999 Microsoft Corporaion. All rights reserved.
၃။ မြန်မာ့စွယ်စုံကျမ်း၊ နှစ်ချုပ် ၁၉၉၂ လောပြည်သူ့ဒီမိုကရက်တစ်သမ္မတနိုင်ငံ နှာ ၂၉

ဖမ်းဆီးလာကြခြင်းဖြစ်၍ "တိုင်းလမ်" များဖြစ်ကြသည်။[၁]

### ၁ း ၃ း ၂၆ း ၁ း ၁ ။ တိုင်းမွှော Tai Muai

'တိုင်းမွှော'တို့သည် 'ဟိုဖန်း' Hua Phan ဒေသတွင် နေထိုင်ကြသည်။ 'ပူထိုင်း'လူမျိုးနှင့်ဆင်တူသည်။ 'ဟိုဖန်းဒေသတွင် 'တိုင်းနုအာ'များလည်း နေထိုင်ကြသည်ကို တွေ့ရသည်။[၂]

### ၁ း ၃ း ၂၆ း ၁ း ၂ ။ တိုင်းလူး Tai Lu

'တိုင်းလူး'ခေါ် 'လူးရှမ်း'များသည် လောနိုင်ငံမြောက်ပိုင်း ဆစ်ဆောင်ပန်းနားနယ်စပ် မိန်းဆင်တွင် နေထိုင်ကြသည်ကို တွေ့ရသည်။ ဟွေနမ့်ဦးတွင်လည်း နေထိုင်ကြသည်။[၃]

### ၁ း ၃ း ၂၆ း ၁ း ၃ ။ လောဖွိး (ခေါ်) ဖူအွန် Pu On

'လောဖွိး' သို့မဟုတ် 'ဖူအွန်'တို့သည် ကျိုင်းခွင်ဒေသတွင် နေထိုင်ကသည်ကိုတွေ့ရသည်။ 'ဖူအွန်'တို့သည် အခြားသော လောဝ်လူမျိုးတို့ထက် အသားအရေ ဝါဝင်းစိုပြေသည်။ အေဒီ ၁၇ ရာစုတွင် လန်စန်ဘုရင်သည် လှပသော ဖူအွန်အမျိုးသမီးငယ်တစ်ယောက်ကို အကြောင်းပြု၍ ကျိုင်းခွင်ကို လာရောက်တိုက်ခိုက်ပြီး ထိုအမျိုးသမီးငယ်ကို မိဖုရားအဖြစ် တင်မြောက်ခဲ့သည်။[၄]

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan P.85
၂။ Ibit .
၃။ Ibit.
၄။ Ibit.

## ၁ ፡ ၃ ፡ ၂၆ ፡ ၁ ፡ ၄ ။ ပူတိုင်း **Pu Tai**

အေဒီ ၇၂၉ ခုနှစ် နန်ချောင်ဘုရင် ပိလောခွန်သည် 'မိန်းတိန်' (တိန်ပင်ဖူး)ကို မတည်ထောင်မီက "ပူတိုင်း" များသည် တုံကင်းနှင့် လောနိုင်ငံအတွင်းသို့ ရောက်ရှိနေကြပြီဖြစ်သည်။ 'ပူတိုင်း"တို့သည် 'မိန်းတိန်'ကို "မိန်းနားနွယ့်အွယ်နု-လယ်မြေနည်းပါး၍ ကြံပင်သေးငယ်သောပြည်" ဟု ခေါ်ကြသည်။ မိန်းတိန်သည် ပူတိုင်းလူမျိုးတို့ အထွက်အမြတ်ထားသောမြို့ဖြစ်သည်။ လောနိုင်ငံတွင် လောလူမျိုး သုံးပုံနှစ်ပုံရှိပြီး ကျန်ရှိသောလူမျိုးများသည် ပူတိုင်းနှင့် တိုင်းလူး(လူးရှမ်း) များဖြစ်ကြသည်။[၁]

## ၁ ፡ ၃ ፡ ၂၆ ፡ ၁ ፡ ၅ ။ တိုင်းနုအာ (ခေါ်) တိုင်းနေ Tai Nua

"တိုင်းနုအာ"တို့သည် တိုင်းလှိုင်၊ တိုင်းလမ်၊ တိုင်းခေါင်တို့ ဝတ်ဆင်ပုံနှင့် တူသည်။ အင်္ကျီအနားပတ်တွင် ပန်းခက်ချည်များ ထိုးထားသည်ကို တွေ့ရသည်။ တိုင်းလမ်အမျိုးသမီးများ ဝတ်ဆင်မှုသည် ထဘီတွင်လည်း ပန်းခက်ချည် ဖောက်ထားကြခြင်း၊ အနီရောင်အင်္ကျီ လက်ရှည်ဝတ်ဆင်ခြင်း၊ အစင်းအစင်းပါသော ထဘီများဝတ်ဆင်ခြင်းတို့ဖြစ်သည်။ အမျိုးသားများသည် အပြာရောင် ဘောင်းဘီကို ဝတ်ဆင်ပြီး ခေါင်းပေါင်းမပေါင်းချေ။[၂]

လူးရှမ်းတို့သည် လောနိုင်ငံတောင်ပိုင်း 'မိန်းဆင်' တွင် နေထိုင်ကြပြီး 'ဝိန်းပူခါး'တွင် 'လောယွန်း'များ နေထိုင်ကြသည်။ တိုင်းလှိုင် တိုင်းလမ်၊ တိုင်းမွယ် Mauai နှင့် 'တိုင်းနေ' တို့သည် 'မိန်းဟိုဖန်း

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan P.85

၂။ Ibit.

Hua Phan တွင် နေထိုင်ကြသည်။ တိုင်းမော Tai Muai သည် ဟိုဖန်းတွင်နေထိုင်ကြပြီး ပူထိုင်း Pu Thai နှင့် ဆင်တူသည်။လောဖွီး (ခေါ်) ဖူအွန် Pu On တို့ကို ကျိန်းခွင်တွင် တွေ့ရ၍ ပူတိုင်း Pu Tai ကို မိန်းတိန်တွင်တွေ့ရသည်။ ပူတိုင်းများက မိန်းတိန်ကို "မိန်းနားနွယ် အွယ်နု" Very few rice fields and very small sugar canes လယ်မြေနည်းပါး၍ ကြံပင်သေးငယ်သောမြို့ ဟုခေါ်သည်။[၁]

၁ း ၃ း ၂၆ း ၂ ။ လောလူမျိုးတို့၏ ယုံကြည်ကိုးကွယ်မှု

လောလူမျိုးတို့၏ အေဒီ ၁၃၅၃ ခုနှစ်၊ လန့်စန့်ဘုရင်စောဖငုန့်(မ်) လက်ထက်တွင် ခမာယဉ်ကျေးမှုနှင့် ထေရဝါဒဗုဒ္ဓဘာသာ ရောက်လာသည်မှစ၍ ထေရဝါဒဗုဒ္ဓဘာသာကို ကိုးကွယ်ယုံကြည်လာခဲ့ကြသည်။ လောနိုင်ငံရှိ 'တိုင်းလိုင်' (ရှမ်းနီ) များသည် ရှိမင်ကက်သလစ် ခရစ်ယာန် ဘာသာဝင်များ ဖြစ်ကြသည်။ ရှီးရာနတ်ကိုးကွယ်မှုများလည်း ရှိနေသေးသည်။ (အေဒီ ၁၃-ရာစု) ဗုဒ္ဓဘာသာဝင်မဖြစ်ခင်က ရာသီဥတုကောင်းမွန်စေရန်အတွက် လုံးဖရပန်းရှိ 'ချဝ' Cha Va တွင် အမျိုးသမီးငယ်တစ်ယောက်နှင့် အမျိုးသားငယ်တစ်ယောက်ကို မဲခေါင်မြစ်စောင့်နတ်အား ပူဇော်ပသသည်ဟု ဆိုသည်။ လုံးဖရပန်း၏ အရှေ့တောင်ဘက်တွင် ဝန်းအွန် အမည်ရှိသော မြို့ဟောင်းတွင် ရှေးဟောင်းစေတီပုထိုးများ များစွာရှိသည်ကို တွေ့ရသည်။[၂]

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan P.86
၂။ Ibit.

၁ း ၃ း ၂၆ း ၃ ။ လောလူမျိုးတို့၏ ဓလေ့ထုံးစံများ

လောလူမျိုးတို့၏ ရှေးဟောင်းထုံးစံသည် "ယော"ဖြစ်ပြီး ပြင်သစ်တို့ လာရောက်အုပ်ချုပ်သည်မှစ၍ ပျက်စီးသွားသည်ဟု ဆိုသည်။ ယခုအခါ လောလူမျိုးတို့၏ ဓလေ့ထုံးစံသည် ထိုင်းလူမျိုးတို့နှင့်ဆင်တူသည်။ ရှေးအခါက နှစ်သစ်ကူးပွဲတော်သို့ရောက်လျှင် ရှင်ဘုရင်က ဆင်စီး၍ တိုင်းခန်းလှည့်လည်သည်။ တစ်နှစ်တစ်ခါ သစ္စာရေသောက်သည်။ ငါး၊ ခရု၊ ငှက်များကို ဘေးမဲ့လွှတ်ပေးသည်။ သဲပုံစေတီကို ပြုလုပ်ပြီး ထိုစေတီပေါ်တွင် ငွေနှင့်ကြည့်မှန်စိုက်ထူ၍ လှူဒါန်းကြသည်။ တန်ခူးလသင်္ကြန်ပွဲကိုလည်း ကျင်းပပြီး ရေတံလျှောက်ကို နဂါးရုပ်တုပြုလုပ်၍ ဘုရားဆင်းတုတော်များအား ရေသွန်းလောင်းကြသည်။ ရေပက်ကစားကြပြီး ရှင်ဘုရင်ကို ကန်တော့ကြသည်။ သက်ကြီးရွယ်အိုများကိုလည်း ကန်တော့ကြသည်။ [၁]

သီးနှံစပါး အထွက်တိုးရန်အတွက် လယ်စောင့်နတ်ကို ပူဇော်ပွဲ မြေစောင့်နတ်တိုရနီ Thorani ပူဇော်ပွဲများကိုလည်း ကျင်းပကြ သည်။ စပါးရိတ်သိမ်းချိန်တွင် လူပျိုအပျိုလှည့်ချိန်ဖြစ်သည်။ ရရှိလာသော စပါးများကို ပိုင်ရှင်ဖြစ်သူကိုယ်တိုင် ဦးစွာပခုံးဖြင့်ထမ်း၍ စပါးကျီသို့ ဦးစွာထည့်သွင်းရသည်။ ထို့နောက် ကျန်သည့်သူများက စပါးကျီသို့ စပါးများ ကူညီထည့်ပေးကြရသည်။ ပိုင်ရှင်က စပါးများကို စပါးကျီသို့ ခေါ်ဆောင်သည်ဟု ဆိုသည်။ လောလူမျိုးတို့၏ ပွဲတော်များသည် ဘာသာရေးကို အခြေခံသော ပွဲတော်များ များစွာရှိသည်။ ဝေဿန္တရာ တရားစာရွတ်ဖတ်ပွဲသည် အဓိကကျသော ဘာသာရေးပွဲတော်ဖြစ်သည်။ သံဃာတော်များက ရွတ်ဆိုပူဇော်ကြရသည်။ မေလတွင် မီးကျည်မီးရှူးလွှတ်ပွဲ Pun

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan P.86

Pang fai ပြုလုပ်ပြီး ပလွေ၊ အိုးစည်၊ ဗုံမောင်းတီး၍ ပျော်ရွှင်ကြသည်။ ၎င်းတို့၏ ယုံကြည်ချက်မှာ မီးကျည်များသည် ကောင်းကင်ပေါ်ရှိ မိုးတိမ်ထုကို ဖေါက်ခွဲ၍ တိုင်းပြည်အတွင်း မိုးကိုရွာစေသည်ဟု ဆိုသည်။ ကဆုန်လပြည့်နေ့တွင် ဘုရားရှင်၏ မွေးနေ့ပွဲ (ဗုဒ္ဓနေ့)ကို ကျင်းပ၍ သံဃာတော်များအား ရေပူဇော်ပွဲသည်လည်း ကဆုန်လပြည့်နေ့တွင် ပြုလုပ်သည်။ သံဃာတော်များအား ရေလှူခြင်း၊ ခြေလက်ဆေးပေးခြင်းများ ပြုလုပ်သည်။[၁]

သေဆုံးသူ၏ အလောင်းများကို မီးရှို့ကြခြင်းမှာ ဟိန္ဒူဓလေ့ဖြစ်၍ ယင်းဓလေ့ကို အေဒီ ၁၄ ရာစုတွင် ထိုင်းလူမျိုးများထံမှ ရရှိလာခဲ့ခြင်းဖြစ်သည်။ 'တုံချင်း' Tung Chiang ကုန်းပြင်ပေါ်တွင် လူသေအရိုးထည့်ထားသော ရှေးဟောင်းကျောက်မြေအိုးများ များစွာရှိပြီး နှစ်ပေါင်း ၂၀၀၀ ကျော်သက်တမ်းရှိ၍ ရှေးဟောင်း အင်ဒိုနီးရှားလူမျိုးတို့၏ လက်ရာဖြစ်သည်ဟုဆိုသည်။ ကျောက်နံရံပေါ်တွင် ထွင်းထုထားသော မျောက်ရုပ်၊ ဂဠုန်ရုပ်စသည်တို့သည် ရှေးဟောင်းသမိုင်းမှတ်တိုင်အဖြစ် ယခုတိုင် ထင်ရှားကျော်ကြားသည်။[၂]

ယခုတိုင်အောင် လောလူမျိုးများသည် တစ်နိုင်ငံလုံး ကောက်ညှင်းပေါင်းကို စားကြသည်။ ရိုးရိုးဆန်ကို မစားကြချေ။ ရိုးရိုးဆန်စားသူသည် ဆင်းရဲသူများသာ စားကြသည်ဟု ဆိုသည်။ ဤကဲ့သို့ ကောက်ညှင်းပေါင်း စားကြခြင်းသည် ပြည်ထောင်စုမြန်မာနိုင်ငံရှိ ရှမ်းကြီးများ ယိုးဒယားမြောက်ပိုင်းရှိ ရှမ်းလူမျိုးနွယ်များနှင့် တူသည်ကိုတွေ့ရသည်။

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan P.86
၂။ Ibit.

## ၁ း ၃ း ၂၇ ။ တိုင်းထိုင်း Tai Thai

တရုတ်ပြည်တောင်ပိုင်းမှ အကြောင်းအမျိုးမျိုးကြောင့် အရှေ့တောင်အာရှသို့ ပြောင်းရွှေ့လာကြသော 'တိုင်း'ခေါ် 'ရှမ်း' လူမျိုးတို့အနက် ထိုင်း(ယိုးဒယား) လူမျိုးတို့သည် ယနေ့တိုင် ကမ္ဘာပေါ်တွင် လွတ်လပ်သော နိုင်ငံတစ်နိုင်ငံအဖြစ် မားမားမတ်မတ် ရပ်တည်နိုင်ခဲ့သည်။ 'ထိုင်း'ဆိုသည်မှာ 'လွတ်လပ်သူ'ဟူသည်နှင့်အညီ ထိုင်းလူမျိုးတို့သည် အမည်နှင့်လိုက်အောင် လွတ်လပ်ရေးကို မြတ်နိုး၍ မိမိတို့၏ လွတ်လပ်ရေး၊ ကောင်းစားရေးအတွက် အနည်းနည်းအဖုံဖုံ ကြိုးစားအားထုတ်ခဲ့ကြသည်။ တိုက်ပွဲပေါင်းစုံကို ဆင်နွှဲခဲ့ကြသည်။ အသက်ပေါင်းများစွာကို စတေးခဲ့ကြသည်။ သူတို့၏ စိတ်ဓာတ်မှာ ရင့်ကျက်လျက် ဆုံလာသမျှ ဒုက္ခအဝဝကို ရင်ကော့၍ အပြုံးမပျက် ခံနိုင်ကြသည်။ ထို့ကြောင့် သူတို့၏ တိုင်းပြည်ကို "ပြုံးရယ်သူတို့ဌာနီ" ဟူ၍ပင် အနောက်နိုင်ငံသားတို့ တင်စား ခေါ်ဝေါ်ခဲ့ကြသည်။ ထိုင်းလူမျိုးတို့သည် ဖြစ်သမျှအကြောင်း အကောင်းချည်းဟူသော စိတ်မျိုးလည်း မွေးနိုင်ကြလေသည်။[၁]

ထိုင်းလူမျိုးများသည် မူလက မိမိကိုယ်ကို "တိုင်း"ဟူ၍ပင် ခေါ်ဆိုကြသော်လည်း ပြင်သစ်နှင့် အင်္ဂလိပ်တို့လက်ထက်တွင် ရှမ်း (ပြည်ထောင်စုမြန်မာနိုင်ငံတော်) ၊ လော (လောနိုင်ငံ) တို့မှ အခေါ်အဝေါ် ကွဲပြားစေရန်အတွက် ယိုးဒယားရှိ 'တိုင်း' လူမျိုးများကို 'ဆယာမ်' Siam ဟု ပြောင်းလဲခေါ်ကြသည်။ လက်ရှိယိုးဒယားနိုင်ငံသည် လွန်ခဲ့သော နှစ်ပေါင်း ၄၀၀၀ ကျော် (ကျောက်ခေတ်ကာလ)က သက်ရှိ လူသားများ အခြေချ နေထိုင်ခဲ့ကြသည်ကို တွေ့ရသည်။ အေဒီ (၁) ရာစု တွင် အင်ဒိုနီးရှား လူမျိုးတို့နေထိုင်ခဲ့ကြပြီး အေဒီ (၅) ရာစု (၆) ရာစု တွင်

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ထိုင်းလင်းနိုင်ငံ၊ နှာ ၆-၇။

မွန်လူမျိုးတို့က ဝင်ရောက်တိုက်ခိုက်သဖြင့် အင်ဒိုနီးရှားလူမျိုးများ တောင်ဘက်သို့ ပြောင်းရွှေ့ သွားခဲ့ကြသည်။

မွန်လူမျိုးတို့က အင်အားကောင်းစဉ်-

(၁) "ဒွါရဝတီ" Dvarati

(၂) "ရာမည" Ramanya

(၃) "ဟရိပုဥ္စန" Haripunjana နိုင်ငံကို တည်ထောင်ခဲ့ကြသည်။[၁]

၁ း ၃ း ၂၇ း ၁ ။ထိုင်းလူမျိုးများအင်ဒိုချိုင်းနားဒေသသို့ရောက်လာခြင်း။

အေဒီ ၆၄၉ ခုနှစ်တွင် 'တိုင်း' လူမျိုးများသည် နန်ချောင်လက်နက်နိုင်ငံတော်ကို တည်ထောင်နိုင်ခဲ့သည်။ အေဒီ (၇-၈) ရာစုအတွင်း နန်ချောင်နိုင်ငံတော်မှ 'တိုင်း'လူမျိုးတို့သည် ယခုထိုင်းနိုင်ငံမြောက်ပိုင်းသို့ စတင်ရောက်ရှိလာခဲ့သည်။ နောက်နှစ်ပေါင်း ငါးရာ-ခြောက်ရာတွင် ထိုင်းနိုင်ငံအလယ်ပိုင်း မြေပြန့်လွင်ပြင်သို့ ရောက်ရှိလာခဲ့သည်။ ခရစ်နှစ် ၁၂၃၅ ခု နန်ချောင်နိုင်ငံတော်ပျက်စီးခဲ့၍ ရှမ်းလူမျိုးများသည် မြေဩဇာကောင်းသော ကျောက်ဖျမြစ်လွင်ပြင်ဒေသသို့ အများအပြား ဆက်လက်ရောက်လာခဲ့သည်။ နန်ချောင်နိုင်ငံ ပျက်စီးခြင်းသည် 'တိုင်း' ခေါ် 'ရှမ်း'လူမျိုးများ အင်ဒိုချိုင်းနားဒေသ ပင်နီဆုလ Peninsula (ခေါ်) သုဝဏ္ဏဘူမိ The Golden Land သို့ အများအပြား ရောက်လာစေခြင်း၏ တွန်းအားတစ်ခုဖြစ်ပေသည်။[၂]

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan P.87

၂။ Public Ralations Department. Office of the Prime Minnister, Thai Land in brief, 1979, P.19

## ၁ း ၃ း ၂၇ း ၂ ။ လန်နားကိုတည်ထောင်ခြင်း

အေဒီ ၁၂၆၂ ခုနှစ်တွင် ကျိုင်းတုံမြို့၊ အေဒီ ၁၂၆၈ ခုနှစ်တွင် ကျိန်းဟဲမြို့ကို "မန်းလှိုင်း (ခေါ်) မန်းရဲ" Mang Rai မင်းက တည်ထောင်ခဲ့သည်။ အေဒီ ၁၂၉၀-၁၂၉၂ ခုတွင် မန်းလှိုင်းမင်းသည် မွန်တို့၏ 'ဟရိပုဥ္စပြည်' (ယခုယိုးဒယားနိုင်ငံမြောက်ပိုင်း)ကို အောင်နိုင်ခဲ့ပြီး အေဒီ ၁၂၉၆ ခုနှစ်တွင် "ဇင်းမယ်"ကို တည်ထောင်သည်။[၁] ဇင်းမယ်ကို ဗဟိုပြု၍ "ယောနကတိုင်း" (ခေါ်) "ယိုးနုတ်" Yonak ကို တည်ထောင်သည်။ ယောနကတိုင်းသည် ရှေးဟောင်းရှမ်းလူမျိုးတို့၏ တိုင်းပြည်"လန့်ချောင်" (နန်ချောင်) အမည်ကို ဂုဏ်ပြု၍ "လန့်နား" LanNa ဟုလည်း ခေါ်သည်။ တရုတ်သမိုင်းမှတ်တမ်းတွင် 'လန့်နား'ကို "ပပိုင်ဆိဖူး"ဟု ခေါ်သည်။ 'လန့်နား'သည် ရှမ်းစကားဖြစ်၍ (လန့်- တစ်သန်း၊ နား-လယ်) 'လယ်မြေတစ်သန်း'ဟု အဓိပ္ပါယ်ရှိသည်။[၂]

## ၁ း ၃ း ၂၇ း ၃ ။ ထိုင်းလူမျိုးတို့၏ ဆုခေါ်ထိုင်းနိုင်ငံတော်

ရာဇဝင်သမိုင်းအရ ယိုးဒယားနိုင်ငံသို့ဝင်ရောက်လာသော 'တိုင်း' လူမျိုးတို့သည် အချင်းချင်းသော်လည်းကောင်း၊ သုဝဏ္ဏဘူမိရှိ အင်အားကောင်းသော မွန်ခမာတို့နှင့်သော်လည်းကောင်း မကြာခဏ တိုက်ပွဲများ ဆင်နွှဲခဲ့ကြသည်။ မန်းလှိုင်းမင်းထက်စော၍ ထိုင်းနိုင်ငံတောင်ပိုင်းသို့ ရောက်ရှိသော ထိုင်းတို့တွင် ခေါင်းဆောင် 'ခွန်ပန်ကလန်ထော့' Khun Bang KLangtao နှင့် 'ခွန်ဖမွန်' Khun Pha Muang တို့သည် အေဒီ ၁၂၅၆ ခုနှစ်တွင် မွန်ခမာတို့ကို အောင်နိုင်ခဲ့သည်။

---

၁။ Manich (M.L) Chalermnit, 1-2 Erawan Arcade. Bangkok. 1967. History of Laos. P.42

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan P.88

ခွန်ပန်ကလန်ထောဝ့်သည်။ "ဘုရင်သီရိအင်ဒရာတစ်"ဘွဲ့ကို ခံယူ၍ "ဆုခေါ်ထိုင်း" Sukhothai 'လွတ်လပ်သောထိုင်းနိုင်ငံ' ကို ကြေညာခဲ့သည်။ ဆုခေါ်ထိုင်းသည် ကျောက်ဖျမြစ်၏ လွင်ပြင်ဒေသတွင် တည်ရှိသော ထိုင်းလူမျိုးတို့၏ ပထမဦးဆုံးနိုင်ငံတော်ဖြစ်သည်။ ဆုခေါ်ထိုင်းနိုင်ငံတော်သည် အနှစ် ၁၄၀ တည်တံ့ခဲ့လေသည်။[၁]

'ဆုခေါ်ထိုင်း'ကို မြန်မာ့သမိုင်းတွင် "သောက္ကတဲ" ဟုရေးသားထားကြသည်။ တရုတ်သမိုင်းမှတ်တမ်းတွင်မူ "စီအန်လွေ့"ဟု မှတ်တမ်းတင်ထားကြသည်။ ဆုခေါ်ထိုင်းတွင် အုပ်ချုပ်မင်းလုပ်ခဲ့သော ဘုရင်များအနက် အရေးပါဆုံးဘုရင်မှာ ဆုခေါ်ထိုင်း၏ ဒုတိယမင်းဆက်ဖြစ်သူ "ဘုရင်ရာမဂါမဟီ" King Ram Kamhaeng ဖြစ်သည်။ ထိုဘုရင်သည် အေဒီ ၁၂၈၃ ခုနှစ်တွင် ထိုင်းအက္ခရာစာကို တီထွင်ခဲ့သည်။ ထိုစာဖြင့် ကျောက်စာရေးထိုးထားခဲ့သောကြောင့် 'တိုင်း' (သို့မဟုတ်) 'ထိုင်း' သည် "လွတ်လပ်ခြင်း" Free ဖြစ်ကြောင်း ထိုကျောက်စာတွင် တွေ့ရသည်။[၂] ဘုရင်ရာမဂါမဟီရေးထိုးခဲ့သော ဆုခေါ်ထိုင်းကျောက်စာသည် ယခုအခါ ဘန်ကောက်မြို့ ထိုင်းအမျိုးသား ပြတိုက်တွင် ပြသထားသည်ကို တွေ့ရသည်။

၁ း ၃ း ၂၇ း ၄ ။ ထိုင်းလူမျိုးတို့၏ အယုဒ္ဓယနိုင်ငံတော်

အေဒီ ၁၃၅၀ ခုနှစ်တွင် ဘုရင်ရာမဓိပတိသည် အယုဒ္ဓယမြို့တော်ကို တည်ထောင်ခဲ့သည်။ ထိုင်းဘုရင် (၃၃) ပါးသည် (၄၁၇) နှစ်ကာလပတ်လုံး အယုဒ္ဓယမြို့ကို မြို့တော်ပြုခဲ့လေသည်။[၃]

---

၁။ Public Ralations Department. Office of the Prime Minnister, Thai Land in brief, 1979, PP.19-20

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan P.88

၃။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၄၊ ထိုင်းလင်းနိုင်ငံ၊ နှာ၊ ၁၁။

မြန်မာသက္ကရာဇ် ၉၁၀ ပြည့်နှစ် တောင်ငူခေတ် တပင်ရွှေထီး လက်ထက်မှစ၍ ယိုးဒယားနှင့်မြန်မာတို့သည် မကြာခဏ တိုက်ခိုက် လာခဲ့ကြ၍ တစ်ခါတစ်ရံ ယိုးဒယားတို့က တနင်္သာရီ၊ ထားဝယ်၊ မုတ္တမ အထိ ရောက်ခဲ့ကြသည်။ တပင်ရွှေထီးမင်းလက်ထက်တွင် အယုဒ္ဓယကို တစ်လခန့် လုပ်ကြံသော်လည်း မြို့စီးပြစီး ထူထပ်လှသဖြင့် မအောင်မြင် ခဲ့ချေ။ ဘုရင့်နောင် (ဟံသာဝတီဆင်ဖြူရှင်မင်းတရား)လက်ထက် သက္ကရာဇ် ၉၂၅ ခုနှစ်တွင်တစ်ကြိမ်၊ ၉၃၀ ခုနှစ်တွင် တစ်ကြိမ်၊ နှစ်ကြိမ် တိုင်တိုင် အယုဒ္ဓယမြို့နှင့်တကွ ရွှေငွေရတနာ ဘဏ္ဍာများစွာကို သိမ်းယူပြီးလျှင် မင်းညီမင်းသားများနှင့် မြို့စားမှူးမတ်များအပါအဝင် သုံ့ပန်းအမြောက်အမြားကို ဟံသာဝတီသို့ ယူဆောင်လာခဲ့သည်။ သို့သော် မြို့ကြီးကား အပျက်အစီးများစွာ မရှိခဲ့ချေ။ အလောင်းမင်းတရားမင်းကြီး လက်ထက် သက္ကရာဇ် ၁၁၂၁ ခုနှစ်တွင် အယုဒ္ဓယမြို့ကို ဝန်းရံလုပ်ကြံ သော်လည်း မရပေ။ ဤသို့လုပ်ကြံစဉ် ကိုယ်တော်မကျန်းမာသည်နှင့် ပြန်လာရာ မုတ္တမကျေးကင်းရွာသို့ အရောက်တွင် နတ်ရွာစံတော်မူသည်။ သက္ကရာဇ် ၁၁၂၈ ခုနှစ် အလောင်းမင်းတရားကြီး၏သားတော် ဆင်ဖြူ ရှင်မင်းလက်ထက်တွင် တစ်ဖန်အယုဒ္ဓယမြို့ကြီးကို လုပ်ကြံတိုက်ခိုက် ပြန်ရာ ဤအကြိမ်သည် အယုဒ္ဓယမြို့၏ ပျက်စီးခြင်းအကြောင်း နောက် ဆုံးအကြိမ်ပင်တည်း။ အယုဒ္ဓယမြို့ကြီးကို ဝိုင်းရံတိုက်ခိုက်ရာ၌ မြန်မာ တို့က မြို့အောက်သို့ရောက်အောင် ဥမင်ကြီးများဖောက်၍ ထင်း၊ လောင် စာအပြည့်သွင်း၍ မီးခိုးလျှံပြင်းလှသဖြင့် မြို့ရိုးပြိုသည်နှင့် မြန်မာရဲမက် များ ဝင်နိုင်ပြီး အယုဒ္ဓယမြို့တစ်မြို့လုံးကိုရ၍ ယိုးဒယားမြို့သား မိန်းမ ယောကျ်ားတို့ကို သုံ့ပန်းအဖြစ် ဖမ်းယူသည်။ အိမ်ရာ၊ ကျောင်းကန် ဇရပ်၊ တန်ဆောင်းများကို အနှံ့အစပ်မီးတိုက်ရှို့သည်။ ဤတွင် ယိုးဒယား ဘာသာ ရာဇဝင်စာပေ အမြောက်အမြားပျက်စီး ဆုံးရှုံးသည်ဟု ဆိုသည်။

အယုဒ္ဓယမြို့မှာ မြို့ပျက်ကြီးအဖြစ်သို့ ရောက်သွား၍ နောက်ထပ်မြို့ကို မထူထောင်တော့ဘဲ ဗန်ကောက်မြို့သို့ ပြောင်း၍ မြို့ နန်းထူထောင်လေတော့သည်။[၁] အယုဒ္ဓယမြို့တော်သည် အေဒီ ၁၇၆၇ ခုနှစ်၊ ဧပြီလ (၇) ရက်နေ့တွင် ဆင်ဖြူရှင်မင်းတိုက်ခိုက်၍ ပျက်စီးသည် ဟု Dodd က ရေးသားထားသည်။[၂]

## ၁ း ၃ း ၂၇ း ၅ ။ ဖယားတက်ဆင် **Paya Tak-Sin** (၁၇၆၇-၈၂)

အလောင်းဘုရား၏ သားတော်ဆင်ဖြူရှင်မင်းလက်ထက် မဟာနော်ရထာကွပ်ကဲသောတပ်များသည် ထားဝယ်နှင့် တနင်္သာရီကို သိမ်းပိုက်ပြီးနောက် အေဒီ ၁၇၅၉ ခုနှစ်တွင် ယိုးဒယားသို့ ချီတက်လုပ်ကြံသောအခါ ယိုးဒယားတို့သည် အခုအခံပြင်းပြင်းထန်ထန် မပြုနိုင်ကြသဖြင့် ကျွန်းဆွယ်ပိုင်းရှိ ယိုးဒယားပိုင်နက်ဒေသ အားလုံးလုလိုကို မြန်မာတပ်များက သိမ်းပိုက်မိလေသည်။ သို့သော် ပစ္စပူရိုးတွင်မူ ဖယားတက်ဆင် ကွပ်ကဲသော ယိုးဒယားတပ်က ခုခံတိုက်ခိုက်မှုကြောင့် မြန်မာတပ်သည် တနင်္သာရီသို့ပင် ပြန်ဆုတ်ခဲ့ရလေသည်။[၃]

အေဒီ ၁၇၆၆ ခုနှစ်တွင် မြန်မာတပ်များသည် ယိုးဒယားမြို့တော် အယုဒ္ဓယကို ဝိုင်းရံလုပ်ကြံပြန်သည်။ ယိုးဒယားဘုရင် ဧကာဒက (ဧကာထက်)သည် ဖယားပစ္စပူရိနှင့် ဖယားတက်ဆင်တို့ကို ကွပ်ကဲစေ၍ မြို့ကိုခံစေသည်။ သို့သော် မခံနိုင်ဘဲ ဖယားပစ္စပူရိသည် တိုက်ပွဲတွင်ပင် ကျလေသည်။ ယင်းတိုက်ပွဲတွင် ဖယားတက်ဆင်သည် အမှုတော်ကို ကြိုးကြိုး

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၄၊ အယုဒ္ဓယမြို့၊ နှာ၊ ၂၃၆။

၂။ William Clifton (Dodd.D.D) The Tai Race. P.276.

၃။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၄၊ ဖယားတစ်ဆင်၊ နှာ၊ ၁၈၇-၈။

ပမ်းပမ်း မထမ်းဆောင်သည့်အပြင်၊ တိုက်ပွဲတစ်ခုတွင် ဘုရင့်အာ မိန့်တော်မရဘဲ အမြောက်ကြီးများကို ပစ်ခတ်တိုက်ခိုက်သဖြင့် ဘုရင်အမျက်ထွက်ခံတော်မူသည်။ ထို့ကြောင့် အယုဒ္ဓယမြို့တော်ကို မြန်မာတပ်များ ဝိုင်းရံစဉ် နောက်လိုက်နောက်ပါ ငါးရာခန့်နှင့် မြို့ကိုဖောက်ထွက်ခဲ့သည်။ မြန်မာတို့သည် ထိုစဉ်က လွတ်ထွက်သွားသော ဖယားတက်ဆင်နှင့် နောက်ပါတို့၏တပ်သည် မမှုလောက်ဟု ထင်မြင်ခဲ့သည်။ ထိုတပ်သည် နောက်တစ်နေ့တွင် ယိုးဒယားနိုင်ငံတွင်းမှ မြန်မာတပ်များကို တိုက်ထုတ်နိုင်မည့် အင်အားစုကြီးတစ်ခုအဖြစ်သို့ ရောက်ရှိလာလိမ့်မည်ဟု အနည်းငယ်မျှ အတွေးမရောက်ခဲ့ပေ။[၁]

ဖယားတက်ဆင်သည် ယိုးဒယားပင်လယ်ကွေ့ အရှေ့ဘက်ကမ်းရှိ ရယောင်းမြို့တွင် စခန်းချပြီးသော် အခိုင်အမာပြုနေသည်။ မြန်မာတို့လက်သို့ အယုဒ္ဓယမြို့တော် မကျမီကပင် ထိုဒေသတစ်ဝိုက်နှင့် ဂျွမ်ပူရီနယ်တို့တွင် စိုးမိုးနေခဲ့သည်။ အယုဒ္ဓယမြို့တော် ကျဆုံးပြီးနောက်တွင် စန္ဒပူရနှင့် ထရက်စသည့်ပြည်နယ်များကို သိမ်းသွင်းနိုင်ခဲ့၍ ဖယားတက်ဆင်တွင် လူသူအင်အား တောင့်တင်းလာခဲ့သည်။ ထို့ကြောင့် ဗန်ကောက်မြို့သို့ ချီတက်၍ မြန်မာတို့က ခန့်ထားသော နိုင်ထွန်းအိန္ဒကို ကွပ်မျက်သည်။ ထိုနောက် အယုဒ္ဓယမြို့တော်ပျက်အနီး စခန်းချနေသော မြန်မာတပ်များမှ စစ်ကူလွတ်သည်ကိုလည်း တွန်းလှန်ပြီးလျှင် အယုဒ္ဓယမြို့တော်တိုင်အောင် ချီတက်သည်။ ထိုနောက် မြန်မာတပ်များစခန်းချရာ ဗောဓိသုံးပင်စခန်းကို တိုက်ခိုက်အောင်မြင်သည်။ ယင်းအောင်မြင်မှုသည် မြန်မာတို့လက်အောက်မှ ယိုးဒယားနိုင်ငံလွတ်လပ်ရေး၏ လမ်းစဖြစ်သည်။ ယင်းသည်မှစ၍ ဖယားတက်ဆင်သည် ယိုးဒယားနိုင်ငံ

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၄ ၊ ဖယားတစ်ဆင်၊ နှာ၊ ၁၈၈။

အတွင်းရှိ မြန်မာတပ်များကို တစ်စတစ်စတိုက်ထုတ်လေသည်။ မြန်မာတပ်များ၏ လက်အောက်ခံဖြစ်နေသော ယိုးဒယားတို့သည်လည်း ဖယားတက်ဆင်၏ လက်အောက်သို့ ဝင်ရောက်ပူးပေါင်းကြသည်။ မြန်မာတို့လက်သို့ အယုဒ္ဓယမြို့တော် ကျဆုံးရပြီး ခြောက်လအလွန်မှစ၍ ဖယားတက်ဆင်သည် ယိုးဒယားနိုင်ငံကို တစ်စတစ်စ လွတ်မြောက်စေပြီးလျှင် တဖြည်းဖြည်းစုစည်းခဲ့သည်။ ယိုးဒယားလူထုအများက မိမိအားလိုလားအောင်လည်း ပြုသည်။[၁]

ပထမတွင် အယုဒ္ဓယမြို့တော်ကို ပြန်လည်ပြုပြင်ရန် ရည်ရွယ်သေးသည်။ သို့သော် နောင်အခါ ဗန်ကောက်မြို့သို့ပြန်၍ ဘုရင်အဖြစ်ဘိသိက်ခံယူသည်။ ဘုရင်အဖြစ်ဘိသိက် ခံယူစဉ်က ဖယားတက်ဆင်သည် သက်တော် ၃၄ နှစ်မျှသာရှိသေးသည်။ အယုဒ္ဓယမြို့တော်ကို ကာကွယ်စောင့်ရှောက်ရန်လည်း အင်အားကောင်းလှသည့် စစ်တပ်ကြီးတစ်တပ်ကို အစောင့်အနေချထားရန်လိုသည်။ ယင်းအခါသမယမှာ နိုင်ငံပျက်ကြီးအား ပြန်လည်စုစည်းနေရချိန်ဖြစ်၍ လူအင်အား၊ ပစ္စည်းအင်အားများကို အယုဒ္ဓယမြို့တော်အတွက် အများအစား မသုံးနိုင်သေးသောကြောင့်ဖြစ်လေသည်။ အယုဒ္ဓယမြို့တော်ကျဆုံးပြီးနောက်တွင် ယိုးဒယားနိုင်ငံသည် ယိုးဒယားအလယ်ပိုင်းဒေသ၊ ကျွန်းဆွယ်ဒေသ၊ ပိဿလောက်ပြည်နယ်၊ ပိဿလောက်မြောက်စွန်းဒေသ စသည်ဖြင့် ပြည်နယ်ငါးနယ်ကွဲပြားသည်။ ပြည်နယ်ငါးနယ်ကို သူတစ်လူငါတစ်မင်း မင်းပြိုင်ပြုနေကြသည်။ ဖယားတက်ဆင်သည် ယိုးဒယားအလယ်ပိုင်းဒေသကို စိုးမိုးသည်။ အခြားထီးပြိုင်နန်းပြိုင်များအား တဖြည်းဖြည်း သိမ်းသွင်းသည်။ မြန်မာတို့လက်အောက်ခံဖြစ်နေသော ဇင်းမယ်ကိုချီတက်လုပ် ကြံခဲ့ရာ အေဒီ

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၄၊ ဖယားတစ်ဆင်၊ နှာ၊ ၁၈၈။

၁၇၇၅ ခုနှစ်တွင် အလိုပြည့်သည်။ ယခု ယိုးဒယားနိုင်ငံ၏ နယ်နိမိတ်နှင့် လက်ရှိနိုင်ငံတော်၏ အကျယ်အဝန်းသည် ဖယားတက်ဆင် စုစည်းတည် ထောင်ခဲ့သော နိုင်ငံတော်အတိုင်းပင် ဖြစ်လေသည်။[၁]

အေဒီ ၁၇၇၅၊ ၁၇၇၆ ခုနှစ်များတွင် မဟာသီဟသူရ ကွပ်ကဲသော မြန်မာတပ်များသည် ယိုးဒယားနိုင်ငံသို့ ချီတက်လာကြပြန်သည်။ ပိဿ လောက်ကို မြန်မာတို့ရရှိသော်လည်း အစာငတ်မွတ်ခေါင်းပါးသော ဘေး ဆိုက်သဖြင့် ယင်းမြို့ကို ကြာရှည်သိမ်းပိုက်မထားနိုင်ဘဲ တပ်များပြန် ဆုတ်ခဲ့ရသည်။ မြန်မာတပ်များ ပြန်ဆုတ်ရသော အခြားအကြောင်းတစ် ရပ်မှာ မြန်မာဆင်ဖြူရှင် နတ်ရွာစံ၍ သားတော်စဉ့်ကူးမင်း နန်းတက်သော ကြောင့်ဖြစ်သည်။ စဉ့်ကူးမင်းသည် ယိုးဒယားသို့ ချီတက်စစ်ပြုခြင်းကို မလိုလားချေ။ ထို့ကြောင့် စဉ့်ကူးမင်းလက်ထက်တော်အတွင်း ဖယား တက်ဆင်သည် မြန်မာတို့စစ်လာပြုခြင်းမှ ကင်းဝေးလွတ်ငြိမ်းခဲ့လေသည်။ သို့သော် နိုင်ငံတွင် ထကြွပုန်ကန်မှုများကို လိုက်လံသုတ်သင်ရှင်းလင်း ရပြန်သည်။ မြန်မာတို့ စစ်ပြုလာသောအခါ တွန်းလှန်ရခြင်း၊ နိုင်ငံတော်ကို စုစည်းရခြင်း၊ ထကြွပုန်ကန်မှုများကို နှိမ်နင်းရခြင်းဖြင့် စစ်မြေပြင်များ၌ သာ အနေများခဲ့သောကြောင့် ဖယားတက်ဆင်သည် နေပြည်တော်၌ စံနေချိန် အလွန်နည်းပါးခဲ့သည်။[၂]

ဖယားတက်ဆင်သည် ကံတရားကို အလွန်ယုံကြည်သူဖြစ်သည်။ ထို့ကြောင့်လည်း သာမန်လူတို့ပြုဝံ့မည် မဟုတ်သည်များကို စွမ်းစွမ်းတမံ ဆောင်ရွက်ခဲ့သဖြင့်၊ သာမန်ပြောက်ကျားတပ် ခေါင်းဆောင်တစ်ဦးအဖြစ် မှ နိုင်ငံ၏အထွတ်အထိပ်သို့ ရောက်ခဲ့သည်။ ပြိုကွဲခဲ့သော ယိုးဒယားနိုင်ငံ တော်ကြီးအား ပြန်လည်စုစည်းခဲ့သည်။ သာမန်လူတို့ မပြုနိုင်စွမ်းသော

---

၁။ မြန်မာ့စွယ်စုံကျမ်း အတွဲ ၁၄၊ ဖယားတစ်ဆင်၊ နှာ၊ ၁၈၈။
၂။ ၎င်းစာ၊ နှာ၊ ၁၈၈-၁၈၉။

လုပ်ငန်းများကို ဆောင်ရွက်၍ ဖြစ်မြောက်အောင်မြင်သည်သာ များလေ သော် စိတ်နေမြင့်လာသည်။ တဖြည်းဖြည်း စိတ်ဖောက်ပြန်လာကာ နောက်ဆုံးတွင် မိမိကိုယ်မိမိ ဗုဒ္ဓမြတ်စွာတစ်ဆူအနေဖြင့် ပြုမူလာသည်။ ရဟန်းသံဃာတို့အား စော်ကားမော်ကားပြုသည်။ လူအများအား မယုံ သင်္ကာဖြစ်ကာ ညှင်းပန်းနှိပ်စက် သတ်ဖြတ်ခြင်းများကို ပြုသည်။ ထို့ ကြောင့် ပုန်ကန်မှုများ ပေါ်ပေါက်လာလေသည်။[၁]

၁၇၈၂ ခုနှစ်၊ မတ်လတွင် ဖယားတက်ဆင်အား လုပ်ကြံ၍ တက် ဆင်၏ လက်ရုံးတစ်ဆူဖြစ်ကာ ဘုရင်ဘွဲ့ကို ပေးအပ်ခြင်းခံရသော ကျောက်ဖယားချက္ကရီအား နန်းတင်မည့်ရည်ရွယ်ချက်ဖြင့် ပုန်ကန်မှုကြီး တစ်ခု ပေါ်ပေါက်လာသည်။ ထိုသူပုန်တို့လက်သို့ အယုဒ္ဓယမြို့တော် ကြီး ကျရောက်သွားသည်။ သူပုန်တို့ တဖြည်းဖြည်းအရေးသာ၍ သူပုန် ဗိုလ်ကြီးတစ်ဦးဖြစ်သူ ဖယားစံကျပ္ပရီက တက်ဆင်အား ရဟန်းဝတ် စေသည်။ သူပုန်ဗိုလ်ဖယားစံကျပ္ပရီသည် မိမိတို့ အရေးသာသည်ကို တွေ့ရလေသော် မိမိကိုယ်ကို ထီးနန်းကို သိမ်းပိုက်လိုလာသည်။ သို့သော် တစ်နေရာသို့ စစ်ထွက်နေရသော စစ်ကိုင်းလှိုင်ချုပ်ရွှေဘောက်ဖယားချက္ကရီသည် ပန်းကောက်မြို့မှ တပ်များနှင့် ပြန်လည်ဆိုက်ရောက်လာသောအခါ နိုင်ငံလူထု က ကျောက်ဖယားချက္ကရီအား သောင်းသောင်းဖြဖြ ကြိုဆိုကြသည်။ အကြောင်းမှာ နိုင်ငံ့ရှေ့ရေးအတွက် ကျောက်ဖယားချက္ကရီသည် နိုင်ငံကို အုပ်ချုပ် မင်းလုပ်လျှင် နိုင်ငံအေးချမ်းဝပြောမည်ဟု မျှော်လင့်ကိုးစားကြ သော ကြောင့် ဖြစ်ပေသည်။ ထို့ကြောင့် မင်းလုပ်ရန် မျှော်လင့်ခဲ့ရသော ဖယား စံကျပ္ပရီသည်ပင်လျှင် ကျောက်ဖယားချက္ကရီအား ဖယားတက်ဆင် ၏ ထီးနန်းကို ဆက်ခံမည့်သူအဖြစ် ကြိုဆိုရလေသည်။[၂]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၄၊ ဖယားတစ်ဆင်၊ နှာ၊ ၁၈၉။
၂။ ၎င်း၊စာ။

ကျောက်ဖယားချက္ကရီအဖို့ ချီးမြှင့်မြှောက်စားသူကောင်းပြုခဲ့သူ ဖယားတက်ဆင် အသက်ထင်ရှားရှိနေစဉ်၊ ထီးနန်းသိမ်းပိုက်ရန် လိပ်ပြာမရဲအောင်ဖြစ်နေသည်။ မည်သို့ပင်ဖြစ်စေ ဖယားတက်ဆင်အား လိုလားသူများကလည်း နိုင်ငံအတွင်း၌ ရှိနေသေးသည်။ ထိုသူများသည် ဖယားတက်ဆင်အား ပြန်၍နန်းတင်ရန် ကြံလိုက ကြံကြပေမည်။ ထို့ပြင် ကမ္ဘောဇပြည်အရေးကလည်း မအေးသေး၊ မြန်မာတို့ စစ်ပြုလာဦးမည်ဟူ၍လည်း စိုးရိမ်နေကြပြန်သည်။ ထို့ကြောင့် နိုင်ငံတွင်း ရန်ဆူးရန်ငြောင့်တို့ကို ပိုင်နိုင်စွာ သုတ်သင်ရှင်းလင်းမှသာလျှင် နိုင်ငံအပအရေးများကိုလည်း နောက်ဆံမတင်းဘဲ ဆောင်ရွက်နိုင်မည်ဖြစ်သဖြင့် ဖယားတက်ဆင်အား သုတ်သင်ပစ်ရန် အကြံပေးကြသူများ၏ အလိုအတိုင်း ကျောက်ဖယားချက္ကရီမှာ သဘောတူညီရလေသည်။ ယင်းတို့ဖြင့် ယိုးဒယားထီးနန်းကို သိမ်းပိုက်ခဲ့သူများအနက် ထူးခြားသော ဘုရင်တစ်ပါးဖြစ်သည့် ဖယားတက်ဆင်အား ၁၇၈၂ ခုနှစ်တွင် အဆုံးစီရင်လိုက်ကြသည်။[၁]

## ၁း၃း၂၇း၆ ။ ချက္ကရီမင်းဆက်

ဖယားတက်ဆင်၏ အရိုက်အရာကို ယင်း၏ ဗိုလ်ချုပ်တစ်ဦးဖြစ်ခဲ့သော ကျောက်ဖယားချက္ကရီက ဆက်ခံခဲ့သည်။ ကျောက်ဖယားချက္ကရီသည် ပထမရာမာဓိပတိဘွဲ့ကိုခံယူခဲ့၍ ဗန်ကောက်မြို့ကို မြို့တော်အဖြစ် တည်ထောင်ခဲ့လေသည်။ ထိုမင်း၏ အဦးအစဖြစ်သော ချက္ကရီမင်းဆက်သည် ထိုင်းနိုင်ငံတွင် ယခုတိုင် ဆက်လက်စိုးစံနေလေသည်၊ ၁၈၅၁ ခုနှစ်တွင် မြော်အမြင်ကြီးမားသည့် ထိုင်းမင်းသားတစ်ပါးဖြစ်သော ကျောက်ဖမောင်းကွက်သည် စတုတ္ထရာမဘွဲ့ကိုခံယူလျက် ဘုရင်ဖြစ်

---

၁။ မြန်မာ့စွယ်စုံကျမ်း အတွဲ ၁၄ ဖယားတက်ဆင် နှာ ၁၈၉။

လာသည်။ ထိုမင်းသည် ထိုင်းလင်းနိုင်ငံကို တိုင်းတစ်ပါးတို့နှင့် အဆက် အဆံပြုစေပြီးလျှင် ခေတ်မီအောင် ပြုပြင်ရန် လိုအပ်သည်ကို သိမြင်ခဲ့သည်။ ထိုမင်းလက်ထက်တွင် တိုင်းတစ်ပါးတို့နှင့် ထိုင်းလင်းနိုင်ငံ အချုပ်အချယ်မရှိ ကုန်သွယ်ရောင်းဝယ်ခွင့်ပေးသည်၊ ထိုသို့ပြုလုပ်ရန်အတွက်လည်း စာချုပ်များ ချုပ်ဆိုခဲ့ရလေရာ အချို့သောစာချုပ်များအရ တိုင်းတစ် ပါးသားတို့ကို ထိုင်းလင်းနိုင်ငံ၌ မိမိတို့ကိုယ်ပိုင်တရားဥပဒေများအရ အုပ် ချုပ်စီရင်ပိုင်ခွင့်ကိုပါ ပေးခဲ့ရလေသည်။ ထိုမင်းကား "အင်နာခင်နှင့် ယိုးဒယားဘုရင်" အမည်ရှိသော နာမည်ကျော်ဝတ္ထုနှင့် ရုပ်ရှင်တို့တွင် ဇာတ်ဆောင်အဖြစ် ဖော်ပြခြင်းခံရသော ထိုင်းဘုရင်ဖြစ်၏။ ထိုမင်းသည် ပညာဗဟုသုတနှင့် ပြည့်စုံ၏။ ပါဠိ၊ လက်တင်၊ အင်္ဂလိပ် စသော ဘာသာ စကားများအပြင် သင်္ချာဘာသာ၊ နက္ခတ်ပညာတို့ကိုလည်း တတ်ကျွမ်း၏။ သိပ္ပံပညာတွင်ဝါသနာကြီး၏။ စတုတ္ထရာမဘုရင်၏ သားတော် ပဉ္စမရာမဘုရင် စူဠာလောင်ကွန် (၁၈၆၈-၁၉၁၀) လက်ထက်တွင် တိုင်းပြည်၏ ဥပဒေများကို ပြုပြင်ပြီးလျှင် တရားရုံးတော်များကိုလည်း ခေတ်မီအောင် ပြုပြင်ခဲ့သည်။ ထိုမင်းသည် ကျေးကျွန်စနစ်ကို ပယ်ဖျက်ခဲ့၏။ အနောက် တိုင်းနည်းစနစ်အတိုင်း စာသင်ကျောင်းများကို ဖွင့်လှစ်ပေးခဲ့ရုံမက လမ်းပန်းဆက်သွယ်မှု တိုးတက်ကောင်းမွန်အောင်လည်း ဆောင်ရွက်ခဲ့သည်၊ ထို့ပြင် လက်နက်ကိုင်တပ်ဖွဲ့များကိုလည်း ပြန်လည်ဖွဲ့စည်းပေးခဲ့လေသည်။ [၁]

၁၉ ရာစုနောက်ပိုင်းတွင် ထိုင်းလင်းနိုင်ငံသည် အင်ဒိုချိုင်းနားတွင် မိမိ၏ပိုင်နက်များကို နယ်ချဲ့လျက်ရှိသော ပြင်သစ်နိုင်ငံနှင့် မသင့်မတင့် ဖြစ်ခဲ့ရ၏။ ပြင်သစ်တို့၏ နယ်ချဲ့မှုကြောင့် ထိုင်းလင်းနိုင်ငံသည်

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ယိုးဒယားနိုင်ငံ၊ နှာ၊ ၁၂-၁၄။

စတုရန်း မိုင်ပေါင်း ၉၀,၀၀၀ မျှ ကျယ်ဝန်းသည့် ယင်း၏အရှေ့ပိုင်းနယ်မြေအချို့ဆုံးရှုံးခဲ့ရလေသည်။ ပဥ္စမဘုရင် (စူဠာလောင်ကွန်)သည် ၁၉၁၀ ပြည့်နှစ်တွင် လွန်၍ သားတော်ဝဇိရာဝုဓဘုရင် (၁၉၁၀-၁၉၂၅) နန်းတက်သည်။ ဝဇိရာဝုဓဘုရင် နန်းတက်သည့် ၁၉၁၀ ပြည့်နှစ်မှစ၍ဒုတိယကမ္ဘာစစ်ဖြစ်ပွားသည့် ၁၉၄၂ ခုနှစ်အထိ ကာလအပိုင်းအခြားကို "ထိုင်းလင်းနိုင်ငံခေတ်ပြောင်းချိန်" ဟု သမိုင်းဆရာတို့က ဆိုစမှတ်ပြုကြလေသည်၊ စူဠာလောင်ကွန်ဘုရင် နတ်ရွာစံပြီးနောက် ထိုင်းလင်းနိုင်ငံသည် ပညာရေးတွင်သာမက အစစအရာရာ တိုးတက်ပြောင်းလဲလာခဲ့လေသည်၊[၁]

ပထမကမ္ဘာစစ်အတွင်းက ၁၉၁၇ ခုနှစ်တွင် ထိုင်းလင်းနိုင်ငံသည် ဂျာမနီ၊ ဩစတြီးယားနှင့် ဟန်ဂေရီနိုင်ငံတို့ကို စစ်ကြေညာခဲ့သည်။ ထိုသို့ အကူအညီပေးခဲ့သဖြင့် မဟာမိတ်များသည် ထိုင်းလင်းနိုင်ငံအတွင်း မိမိတို့၏ ကိုယ်ပိုင်အုပ်ချုပ်စီရင်ပိုင်ခွင့်များကို စွန့်လွှတ်ရန် သဘောတူခဲ့သည်၊ ဤသို့အားဖြင့် ထိုင်းလင်းနိုင်ငံသည် ပြည်တွင်းရေးတွင် လုံးဝလွတ်လပ်စွာ ဆောင်ရွက်နိုင်ခဲ့လေသည်။[၂]

နှစ်ဆယ်ရာစု အစထိ အုပ်ချုပ်ခဲ့သော အစိုးရစနစ်မှာ သက်ဦးဆံပိုင်ဘုရင်စနစ်ဖြစ်သည်။ အာဏာအားလုံးကို ဘုရင်ကသာ ပိုင်ဆိုင်သည်။ ဘုရင်က သူ၏သားတော်များ၏ ညီတော်များကို ပြည်နယ်များ၏ ဘုရင်ခံအဖြစ် ခန့်အပ်သည်။ ဘုရင်ခံများသည် သူတို့၏နယ်များတွင် အာဏာလုံးဝရှိသူများဖြစ်သည့်အပြင်၊ ထိုပြည်နယ်များ၏ တာဝန်ခံများလည်းဖြစ်သည်။ ဝဇိရာဝုဓဘုရင်၏ အရိုက်အရာကို ဆက်ခံသော ညီတော် ဖရာဂျာဒိပေါက်ဘုရင် (၁၉၂၅-၁၉၃၅) ၏ လက်ထက် ၁၉၃၂ ခုနှစ် ဇွန်လ ၂၄ ရက်နေ့တွင် ထိုင်းလင်းနိုင်ငံ၌ အုပ်ချုပ်ရေးစနစ်သည်

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁။ ယိုးဒယားနိုင်ငံ၊ နှာ၊ ၁၄။
၂။ ၎င်း၊စာ။

သက်ဦးဆံပိုင်ဘုရင်စနစ်မှ စည်းမျဉ်းခံဘုရင်စနစ်သို့ ပြောင်းလဲခဲ့သည်။ တိုင်းပြည်အုပ်ချုပ်ရေးအတွက် ဖွဲ့စည်းပုံ၊ အုပ်ချုပ်ပုံ အခြေခံဥပဒေကိုလည်း ရေးဆွဲပြဋ္ဌာန်းခဲ့၏။ ဘုရင်ဖရာဂျာဒိပေါက်သည် ၁၉၃၅ ခုနှစ်တွင် ထီးနန်းကို စွန့်လွှတ်လိုက်လေသည်။ သူ၏အရိုက်အရာကို တူတော်အာနန္ဒာမဟီဒိုက ဆက်ခံလေသည်။ ထိုအခါတွင် နိုင်ငံရေးအာဏာသည် စည်းမျဉ်းခံ ဘုရင်စနစ်ကို ထူထောင်ခဲ့သူများ လက်တွင်းသို့ ကျရောက်သွားလေတော့သည်။ [၁]

ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၀ ပြည့်နှစ် ဇွန်လတွင် ဥရောပတိုက်၌ ပြင်သစ်နိုင်ငံစစ်ရှုံးသည်နှင့် တစ်ပြိုင်နက် ထိုင်းလင်းနိုင်ငံသည် ယခင်က ပြင်သစ်ပိုင် အင်ဒိုချိုင်းနားသို့ပေးအပ်ခဲ့ရသည့် နယ်မြေများကို ပြန်ပေးရန် တောင်းဆိုရာတွင် ပြင်သစ်နိုင်ငံက ငြင်းဆန်ခဲ့သောကြောင့် ပြင်သစ်နိုင်ငံနှင့် ထိုင်းလင်းနိုင်ငံစစ်ဖြစ်ကြသည်။ ဂျပန်နိုင်ငံက ထိုင်းလင်းနိုင်ငံဘက်မှ ကူညီခဲ့၍ ထိုင်းလင်းနိုင်ငံသည် နယ်မြေအချို့ကို ပြန်၍ ရရှိခဲ့လေသည်။ ၁၉၄၁ ခုနှစ် ဒီဇင်ဘာလတွင် ဂျပန်နိုင်ငံသည် ထိုင်းလင်းနိုင်ငံကို ဝင်ရောက်တိုက်ခိုက်သည်။ ထိုင်းလင်းနိုင်ငံသည် ဂျပန်တို့ကို ခေတ္တမျှသာခုခံ၍ ဂျပန်တို့နှင့် စစ်ပြေငြိမ်းရေး စာချုပ်ချုပ်ဆိုပြီးလျှင် ဂျပန်တို့နှင့် မဟာမိတ်ဖွဲ့လိုက်လေသည်။ ၁၉၄၂ ခုနှစ်တွင် နန်းရင်းဝန်ဖြစ်သော ဖီဗူးဆွန်ဂရမ်က အမေရိကန်ပြည်ထောင်စုနှင့် ဗြိတိန်နိုင်ငံတို့ကို စစ်ကြေညာသည်။ [၂]

သို့သော် ထိုသို့ ထိုင်းလင်းနိုင်ငံက စစ်ကြေညာခဲ့သည်ကို အမေရိကန်ပြည်ထောင်စုက အသိအမှတ်မပြုချေ။ ထိုသို့စစ်ကြေညာခဲ့သည့်အတွက်လည်း ဂျပန်တို့သည် ထိုင်းလင်းနိုင်ငံသို့ မြန်မာနိုင်ငံနှင့် မလ္လာယု

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ယိုးဒယားနိုင်ငံ၊ နှာ၊ ၁၄-၁၅။
၂။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ယိုးဒယားနိုင်ငံ၊ နှာ၊ ၁၅။

ကျွန်းဆွယ်တို့မှ နယ်မြေအချို့ကို ပေးအပ်ခဲ့လေသည်။ သို့သော်လည်း ထိုင်းလင်းနိုင်ငံရှိ ခေါင်းဆောင်အချို့သည် မဟာမိတ်များနှင့် လျှို့ဝှက်စွာ ပူးပေါင်းဆောင်ရွက်ခဲ့သည်။ ထိုသို့မဟာမိတ်များနှင့် ပေါင်းကာ ထိုင်းလင်းနိုင်ငံလွတ်မြောက်ရေး လုပ်ငန်းများကို လျှို့ဝှက်လုပ်ကိုင်ဆောင်ရွက်ခဲ့သည့် အဖွဲ့၏ခေါင်းဆောင်မှာ ဆွန်ဂရမ်၏ ဘဏ္ဍာရေးဝန်ကြီးဟောင်း နိုင်ပရီဒီး ဖြစ်သည်။ ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသွားသောအခါ တွင် ထိုင်းလင်းနိုင်ငံသည် ပြင်သစ်နိုင်ငံနှင့် ဗြိတိန်နိုင်ငံတို့၏ ချစ်ကြည်ရင်းနှီးမှုကို ပြန်လည်ရရှိခဲ့သည်။[၁]

၁၉၄၆ ခုနှစ် ဇွန်လအတွင်း၌ အာနန္ဒာမဟီဒိုဘုရင်သည် နဖူးတွင် ကျည်ဆံနှစ်ချက်မှန်သော ဒဏ်ရာဖြင့်လွန်ရာ သူ၏ညီတော် ဘူမိဘောအဒူလဒက်က ထီးနန်းအရိုက်အရာကို ဆက်ခံလေသည်။ သို့သော် ဘူမိဘောဘုရင်သည် ဆွစ်ဇာလန်နိုင်ငံတွင် ပညာသင်ကြားနေဆဲဖြစ်သဖြင့် ပုဂ္ဂိုလ်သုံးဦးကို ရင်ခွင်ပိုက်အစိုးရအဖြစ် ခန့်အပ်ခဲ့ရလေသည်၊ ၁၉၄၆ ခုနှစ် ဒီဇင်ဘာလ (၆) ရက်တွင် ထိုင်းလင်းနိုင်ငံသည် ကုလသမဂ္ဂတွင် ၅၅ ဦးမြောက် အဖွဲ့ဝင်အဖြစ် ပါဝင်ခွင့် ရရှိခဲ့လေသည်။ ၁၉၅၀ ပြည့်နှစ်မေလ(၅)ရက်တွင် ဘူမိဘောဘုရင် King Bhumibol Adulyadej သည် နဝမရာဘုရင်အဖြစ် နန်းတက်လေသည်။ ဘုရင်ဘူမိဘောသည် လက်ရှိကမ္ဘာပေါ်တွင် နန်းသက်အရှည်ဆုံးဘုရင် အဖြစ်ထူးခြားသော ဘုရင်တစ်ပါးဖြစ်သည်။[၂]

ထိုင်းနိုင်ငံ၏ မြို့တော်မှာ ဘန်ကောက်မြို့ဖြစ်သည်။ဘန်ကောက်မြို့တော်မှာ ၁၈ ရာစုနှစ်တွင် ကျောက်ဖရားမြစ်ပေါ်၌ တည်ဆောက်ခဲ့ခြင်းဖြစ်သည်။ ကမ်းပေါ်၌ အစိအရိပေါက်နေသော သစ်ပင်များ၊ တုံး

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ယိုးဒယားနိုင်ငံ၊ နှာ၊ ၁၅။
၂။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁ ယိုးဒယားနိုင်ငံ၊ နှာ၊ ၁၅။

ပြောင်းများကို ဖြတ်သန်းတည်ဆောက်ထားသော မြို့ဖြစ်၍ အီတလီနိုင်ငံ ဗင်းနစ်မြို့နှင့် နှိုင်းယှဉ်ပြီး ဘန်ကောက်ကို 'အာရှ၏ဗင်းနစ်' မြို့ဟု တင်စားခေါ်ဆိုခဲ့ကြသည်။[၁]

ထိုင်းနိုင်ငံသည် ပဥ္စမမြောက် "ရာမ" ဘုရင်လက်ထက် ၁၉ ရာစုနှစ်အနောက်ပိုင်းနှင့် ၂၀ ရာစု အစပိုင်းအထိ ဗဟိုချုပ်ကိုင်မှု အုပ်ချုပ်ခဲ့သော နိုင်ငံဖြစ်သည်။ လက်ရှိထိုင်းနိုင်ငံတွင် ပြည်နယ်၊ တိုင်း ၇၅ ခု ရှိ၍ ပြည်နယ်ဘုရင်ခံများကို ပြည်ထဲရေးဝန်ကြီးက တိုက်ရိုက်ရွေးချယ်ခန့်ထားသော အစဉ်အလာရှိခဲ့သည်။ သို့သော် ခြွင်းချက်အနေဖြင့် ဘန်ကောက်မြို့တော်တစ်မြို့အတွင်း၌သာလျှင် ဘန်ကောက်မြို့တော် အုပ်ချုပ်ရေးမှူးကို ပြည်သူတို့၏ မဲဆန္ဒဖြင့် ရွေးချယ်တင်မြှောက်လေ့ရှိသည်။ အမျိုးသားရေးကိစ္စမှလွဲ၍ နိုင်ငံရေးပြဿနာများတွင် ထိုင်းနိုင်ငံဘုရင်အနေဖြင့် ဝင်ရောက်စွက်ဖက်လေ့မရှိပေ။ သို့ရာတွင် ၁၉၉၂ ခုနှစ်၊ မေလက တပ်မတော် အာဏာသိမ်းမှုနှင့် ဒီမိုကရေစီလိုလားသော ဆန္ဒပြပွဲများအကြား ဖြစ်ပေါ်ခဲ့သည့် အကြမ်းဖက်မှုတွင်မူ ထိုင်းဘုရင်က ကြားဝင်ဆောင်ရွက်ပေးခဲ့သည်။ ထိုင်းနိုင်ငံ၏ နိုင်ငံရေးလောကတွင် အာဏာသိမ်းမှု လွန်စွာများပြားသော နိုင်ငံဖြစ်သည်။ ၁၉၃၂ ခုနှစ်၊ သက်ဦးဆံပိုင်ဘုရင်စနစ်ကို ဖျက်သိမ်းလိုက်ပြီးနောက်တွင် စစ်ဘက်အာဏာသိမ်းမှုများ ဖြစ်ပွားခဲ့ရာ ၁၉၈၅ ခုအထိအာဏာသိမ်းမှု(၁၉)ကြိမ် ဖြစ်ပွားခဲ့သည်။ ယင်းတို့အနက်အာဏာသိမ်းမှု (၁၁)ကြိမ်သာအောင်မြင်ခဲ့သည်။[၂]

မဟာချက္ကရီမင်းဆက်သည် အေဒီ ၁၇၈၂ ခုတွင် တည်ထောင်လာခဲ့ပြီး ၁၉၈၂ ခုနှစ် ဧပြီလတွင် ဘန်ကောက်မြို့၌ ချက္ကရီမင်းဆက်အနှစ် (၂၀၀) ပြည့်အထိမ်းအမှတ်ကို ကျင်းပခဲ့သည်။ ဘုရင်မင်းမြတ်၏

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၇၊ ဗန်ကောက်မြို့၊ နှာ ၁၇၉။
၂။ မြန်မာ့စွယ်စုံကျမ်းနှစ်ချုပ်၊ ၁၉၉၂၊ ထိုင်းလင်းနိုင်ငံ၊ နှာ ၂၂၅။

လွတ်ငြိမ်းချမ်းသာခွင့် အမိန့်အရ ၁၉၈၂ ခုနှစ်မေလ ၅ ရက်နေ့မှစ၍ အကျဉ်းသား ၁၀၀၀၀ ကျော်အား အပြစ်ဒဏ်လျှော့ပေါ့ပေးသည်။[၁]

## ၁ း ၃ း ၂၇ း ၇ ။ ထိုင်းလူမျိုးတို့၏ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ

ထိုင်းလူမျိုးတို့သည် ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။ ထေရဝါဒ ဗုဒ္ဓအယူဝါဒသည် နိုင်ငံတော်၏ အဓိက အယူဝါဒဖြစ်သည်။ ထိုင်းနိုင်ငံတွင် ဗုဒ္ဓဝါဒီများမှာ တစ်နိုင်ငံလုံးလူဦးရေ၏ ၉၀ ရာခိုင်နှုန်းခန့်ပင်ရှိလေသည်။ ထိုင်းလင်းနိုင်ငံသည် ဗုဒ္ဓအယူဝါဒနိုင်ငံဖြစ်သည့်အားလျော်စွာ နိုင်ငံအတွင်း၌ ကျောင်းကန်တန်ဆောင်းပေါင်း ၁၈၄၀၀ ကျော်ရှိ၍ ရုပ်ပွားဆင်းတုတော် စေတီတော်များ၏ အရေအတွက်မှာမူကား လူဦးရေထက်ပင်များသည် ဟုဆိုလေသည်။ နခုံပထုံမြို့ရှိ ဖရာ့ပထုံစေတီနှင့် ဘန်ကောက်မြို့ရှိ မြဘုရား၊ နဝတ်အရုဏ် (ခေါ်) အရုဏ်စေတီတို့သည် ထင်ရှား၏။ ဖရာ့ဖထုံစေတီသည် ၃၅၇ ပေမြင့်၍ ထိုင်းလင်းနိုင်ငံတွင် တန်ခိုးအကြီးဆုံးသော စေတီတော်ဖြစ်ကာ နှစ်စဉ်တိုင်းရင်းသား ဘုရားဖူးများသာမက နိုင်ငံခြားသားများပါ အမြဲမပြတ် လာရောက်ဖူးမြော် ခြင်းခံရသော စေတီလည်းဖြစ်သည်။ ထိုင်းလင်းနိုင်ငံတွင် ရဟန်းသံဃာ များပေါများ၍ ထိုင်းအမျိုးသားတိုင်း အရွယ်ရောက်သက်စေ့လျှင် အနည်းဆုံး တစ်ကြိမ်ဖြစ်စေ ရဟန်းခံကြမြဲဖြစ်သည်။ ထို့ကြောင့်လည်း အနောက်နိုင်ငံသားတစ်ဦးက "သင်္ကန်းရောင်လွှမ်းသော တိုင်းပြည်" ဟုပင် အမည်ပေးထားလေသည်။[၂]



၁။ မြန်မာ့စွယ်စုံကျမ်း၊ နှစ်ချုပ် ၁၉၈၃၊ ထိုင်းနိုင်ငံ၊ နှာ၊ ၁၉၈။
၂။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၈၊ ယိုးဒယားနိုင်ငံ၊ နှာ၊ ၈။

# အခန်း (၂)

## ၂း၁ တိုင်း (သို့မဟုတ်) ရှမ်း လူမျိုးတို့၏ သမိုင်းဦး

လွန်ခဲ့သော နှစ်ပေါင်း (၄၀၀၀) ကျော်က တရုတ်လူမျိုးဟုခေါ်သည့် မြစ်ဝါမြစ် (Yellow River) ကမ်းခြေအတွင်း နိုင်ငံထူထောင်နိုင်ငံအဖြစ် တည်ရှိခဲ့ပြီး ထိုစဉ်အခါက တရုတ်လူမျိုးတို့၏ ပတ်ဝန်းကျင်တွင် အာဟောလူမျိုး တိဘက်လူမျိုး နှင့် အခြားလူမျိုးများ နေထိုင်လျက်ရှိသည်။ ယန်စီမြစ်၏ တောင်ဘက်တွင် မည်သည့်လူမျိုး နေထိုင်ကြကြောင်း မည်သို့အခြေအနေရှိကြောင်းကို တရုတ်များမသိကြသေးပေ။ ယူနန်နှင့် ရှူန်တို့ကိုလည်း မသိရှိကြသေးပေ။ ထိုင်းနှင့် တိဘက်တို့သည် ယင်းတို့၏ အနောက်ဘက်တွင် ရှိကြောင်းကိုလည်း မသိကြသေးဟု E. H. Parker ဖော်ပြထားသည်။

ချောက်မင်းဆက် Chou Dynasty (ဘီစီ ၁၁၂၂-၂၄၉) တွင် တရုတ်အင်ပါယာသည် မြောက်လတ္တီကျု ၃၃ ဒီဂရီ ၃၈ ဒီဂရီနှင့် အနောက်လောင်ဂျီကျု ၁၀၆ ဒီဂရီ ၁၀၉ ဒီဂရီ အကြားတွင်တည်ရှိပြီး ယန်စီမြစ်တောင်ပိုင်းသည် တရုတ်တို့၏ နယ်မြေလည်းမဟုတ်သေးချေ။ ထိုအချိန်တွင် တရုတ်မဟုတ်သော လူမျိုးများ ထိုဒေသ၌ နေထိုင်အုပ်ချုပ်ခဲ့ပြီး တရုတ်လူမျိုးတို့က ယင်းတို့ကို "လူရိုင်းများ" Barbarians ဟု ခေါ်ကြသည်။ ထိုသူတို့သည် အခြားမဟုတ် "တိုင်း" ခေါ် "ရှမ်း" လူမျိုးဖြစ်ကြောင်း ပရော်ဖိဆာဒေါက်ဂလပ် Professor Douglas နှင့် ရှေးဟောင်းသုတေသီ Mr. Hallett တို့က Historical Sketch of

---

၁၁ Milne, Leslie (Mrs) Shans at Home P.1

the Shans စာအုပ်တွင် အတိအလင်း ရေးသားထားကြသည်ကို တွေ့ရသည်။[၁]

## ၂း ၂။ စူနိုင်ငံတော် T'su

တရုတ်လူမျိုးများ ယခုလက်ရှိတရုတ်ပြည်သို့ မရောက်လာမီ "စူ" (သို့မဟုတ်) "ဆော" နိုင်ငံတော်သည် T'su (ခေါ်) Tso တိုင်း (ရှမ်း)တို့၏ နိုင်ငံတော်ဖြစ်၍ လက်ရှိတရုတ်ပြည်အတွင်း၌ တည်ရှိသည်။ ထိုနောက် တရုတ်တို့သည် မြစ်ဝါမြစ်အထက်ပိုင်းတွင် သျှင်း T'sin နိုင်ငံကို တည်ထောင်သည်။ သျှင်းနိုင်ငံ နှင့် စူနိုင်ငံတို့သည် နယ်မြေခြင်း စပ်ကြသဖြင့် မကြာခဏ တိုက်ခိုက်မှုများ ဖြစ်ခဲ့သည်။ အခါတစ်ပါး သျှင်းနိုင်ငံမှ တရုတ်တို့သည် စူနိုင်ငံသားတစ်ဦးကို ဖမ်းမိလေ၏။ တရုတ်သျှင်းနိုင်ငံသားများက ထိုစူနိုင်ငံအကျဉ်းသားသည် ခေါင်းပေါင်း ပေါင်းထားသော တောင်ပိုင်းသားဖြစ်ကြောင်း ပြောကြသည်။ (ထိုအချိန်တွင် တရုတ်တို့သည် ခေါင်းပေါင်းမပေါင်းကြ) ထိုအကျဉ်းသားသည် မိမိကိုယ်ကိုမိမိ တောင်ပိုင်းနေ စူနိုင်ငံသားဖြစ်ကြောင်း၊ တရုတ်မဟုတ်ကြောင်း ပြောသည်။ သျှင်းတရုတ်များက သူ့ကိုဗျပ်စောင်းတစ်လက်ပေးပြီး သီချင်းဆိုခိုင်းသဖြင့် သူသည် ဗျပ်စောင်းကိုတီး၍ သူတို့၏ နိုင်ငံသားသီချင်းများကို သီဆိုခဲ့ကြောင်း မစ္စတာဒေါက်ကလပ်နှင့် ဟောလက်တို့က သမိုင်းမှတ်တမ်းတင်ထားကြသည်။[၂]

ဘီစီ ၈၈၀ တွင် တရုတ်အင်ပါယာသည် စူနိုင်ငံလက်အောက်သို့ ကျရောက်ခဲ့သည်။ "တိုင်း" (ရှမ်း)တို့သည် ဟန်နိုင်ငံတော်အပါအဝင် ယန်စီအထိ အုပ်ချုပ်လွှမ်းမိုးခဲ့သည်။ ဤစူနိုင်ငံဘုရင်သည် 'တိုင်း' (ရှမ်း)

---

၁။ Milne. Leslie (Mrs). Shan at Home. PP.2-3

၂။ Milne. Leslie (Mrs). Shans at Home.P.2

တို့၏ ပထမဦးဆုံး ဘုရင်မဟုတ်သေးချေ။ စူနိုင်ငံဘုရင်သည် တရုတ်သျှင်းနိုင်ငံကို အုပ်ချုပ်စဉ်က တရုတ်တို့သည် ထိုဘုရင်အား ဂုဏ်ထူးဆောင်ဘွဲ့ပေးရန် အဆိုတင်သွင်းလာစဉ် စူဘုရင်က "ငါသည် အသင်တို့ခေါ်ဝေါ်ပြောဆိုနေကြသော လူရိုင်းဖြစ်သည်။ ထို့ကြောင့် အသင်တို့၏ဂုဏ်ထူးဆောင်ဘွဲ့ကို ငါအလိုမရှိ။ ငါသေသည်ဖြစ်စေ ရှင်သည်ဖြစ်စေ သင်တို့၏ ဂုဏ်ထူးဆောင်ဘွဲ့ကို လာမအပ်နှင်းပါနှင့်"ဟု တရုတ်တို့၏ဂုဏ်ယူမှုကို အလိုမရှိသောကြောင့် ငြင်းဆန်ခဲ့သည်။[၁]

ဘီစီ ၇၀၀ တွင် စူနိုင်ငံဘုရင် ခွန်ဆောဟန် Khun Tso Han မွေးဖွားသောနှစ်ဖြစ်သည်။ ထိုသူငယ်သည် နို့စို့အရွယ်၌ သူ၏ မိဘများကွယ်လွန်သွားခဲ့သည်။ ကျားဖြူတစ်ကောင် ဦးစီးသော ကျားအကောင်ငါးဆယ်သည် ထိုငိုနေသောကလေးကို လာတွေ့၍ ထိုကျားဖြူက သူ့အားမွေးခဲ့သည်ဟု ဆိုသည်။ ကျားနို့ရည်ကိုသောက်၍ အရွယ် ရောက်လာသောအခါ အလွန်ထူးချွန်ထက်မြက်သဖြင့် စူနိုင်ငံ၏ဘုရင် အဖြစ်သို့ရောက်ခဲ့ရသည်ဟုဆိုသည်။ ထို့ကြောင့် 'တိုင်း'(ရှမ်း)တို့သည် ထိုအချိန်မှစ၍ ကျားကို မိမိတို့၏ အမျိုးသားကိုယ်စားပြု အမှတ်အသားအဖြစ်အသိအမှတ်ပြုလာကြသည်ဟု ဆိုသည်။ အနောက်နိုင်ငံသားများက "တိုင်း (ရှမ်း) များသည် ကျား (ကျားမင်းနတ်)ကို ယုံကြည်အားကိုးကြသည်။ ကျားသည်သူတို့ကို အမြဲတမ်းစောင့်ရှောက်သည်ဟု ဆိုသော်လည်း ထိုကျားမင်းနတ်ကို သူတို့မပြသနိုင်ကြချေ" ဟုဆိုကြသည်။[၂] ရှေးဟောင်း'တိုင်း' (ရှမ်း) ပေါရာဏစကားအရ ကျားကို "အူတူ" Udu ဟုခေါ်သည်။[၃] သို့သော် တိုင်း(ရှမ်း) များသည် မည်သည့်နေရာရောက်

---

၁။ Milne. Leslie (Mrs). Shan at Home. P.2

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan P.8

၃။ Milne. Leslie (Mrs). Shans at Home. P.2

ရောက် မိမိတို့သည် ကျားမျိုးနွယ် (ကျားမင်းနတ်စောင့်ရှောက်သော အမျိုးအနွယ် ) ဟု ယုံကြည်ကြသည်။ ကျားမင်းနတ်သည် ရှမ်းတို့ခေါ်သော "စဝ်မိန်း" (ကိုးမြို့ရှင်၏) အစောင့်အရှောက်ဖြစ်သည်ဟု ဆိုသည်။ မသင့်တော်သော အမှုကို ပြုလုပ်မိလျှင် 'ကျားဆွဲတတ်သည်၊ ညအခါ ကျားလာဟိန်းတတ်သည်' ဟူသောယုံကြည်မှုသည် ရှမ်းလူမျိုးတို့၏ ရှေးဟောင်းယုံကြည် ကိုးစားမှုဖြစ်ပြီး ယခုတိုင် ဆက်လက်ယုံကြည်နေကြဆဲဖြစ်သည်။

ဘီစီ ၅၇၉ တွင် စူနိုင်ငံဘုရင်နှင့် ယင်း၏သံတမန်သည် တရုတ်သျှင်းနိုင်ငံဘုရင်နှင့် သွားရောက် တွေ့ဆုံ၍ ပွဲတော်တစ်ခုတွင် တရုတ်ဘုရင်က စူနိုင်ငံဘုရင်အား တရုတ်ထုံးတမ်းစဉ်လာကို လိုက်နာရန် ပြောသောအခါ စူသံတမန်က တရုတ်ဘုရင်အား "အကျွန်ုပ်တို့၏ ဘုရင်သည် သင်တို့၏ တရုတ်ထုံးစံအတိုင်း မလိုက်လျောနိုင်ကြောင်း" ပြန်လည်ပြောဆိုခဲ့သည်။ ဤသို့ဖြစ်ရခြင်းသည် တရုတ်နှင့် 'တိုင်း' (ရှမ်း)တို့၏ရိုးရာယဉ်ကျေးမှု ဓလေ့ထုံးစံများ မတူညီသည့် အချက်ကို ညွှန်ပြခြင်းဖြစ်သည်ဟု သမိုင်းပညာရှင် (Parker) က ယူဆသည်။ တရုတ်လူမျိုးနှင့် 'တိုင်း' (ရှမ်း) လူမျိုးတို့သည် မျိုးတူများမဟုတ်ကြောင်းထင်ရှားသည်။ တရုတ်သမိုင်း မှတ်တမ်းများတွင်လည်း ယင်းတို့သည် စူနိုင်ငံနှင့်အဆက်အသွယ်များ ရှိခဲ့ကြောင်းကိုလည်း တွေ့ရလေသည်။[၁]

မြန်မာ့သမိုင်းတွင် မြန်မာပြည်သို့ စုန်ဆင်းဝင်ရောက်လာသော လူမျိုးများကို ပြဆိုရာ၌-

(၁) 'တိုင်' ခေါ် ရှမ်းတရုတ်လူမျိုးကြီး၊

(၂) 'တိဘက်တိုဘားမင်း' ခေါ် မြန်မာလူမျိုးကြီး၊

(၃) 'မွန်ခမာ' လူမျိုးကြီး ဟူ၍ ဖော်ပြကြသည်များကို တွေ့မြင်ရ

---

၁။ Milne, Leslie (Mrs). Shan at Home. P.2

သဖြင့် ရှမ်းနှင့်တရုတ် ရောနှောယှက်တင်လျက် 'တစ်နွယ် တစ်စင်တည်း ဖြစ်သည်' ဟူ၍ မှတ်ယူဖွယ်ရှိလေသည်။ အချို့သော ရှမ်းလူမျိုးတို့ ကိုယ်တိုင်ပင်လျှင် "မိမိတို့ ရှမ်းအမျိုးသားများမှာ တရုတ်လူမျိုးများမှ ဆင်းသက်ပေါက်ဖွားလာကြသည်" ဟု ယုံကြည်နေကြသည်ကို တွေ့ရ၏။ 'တိုင်း' (ရှမ်း)လူမျိုးတို့၏ နယ်မြေနှင့် တရုတ်လူမျိုးတို့၏ နယ်မြေမှာ အနီးအစပ်ဖြစ်၍ ရောနှောနေထိုင်ခြင်းမှာလည်း ယခုတိုင် ရှိနေသဖြင့် "တိုင်း(ရှမ်း)သည် တရုတ်မှ ပေါက်ဖွားလာသော လူမျိုး (သို့မဟုတ်) ဆက်နွယ်ဆင်းသက်လာသောလူမျိုး"ဟူ၍ မှတ်ယူဖွယ်ရှိသော်လည်း 'တိုင်း'(ရှမ်း)တို့သုံးနှုန်း ပြောဆိုကြသော ဘာသာစကားများမှာ တရုတ်လူမျိုးတို့၏ ဘာသာစကားများနှင့် အနည်းငယ်မျှ ရောနှောခြင်းမရှိချေ။ ရှမ်းစကားသည် မာဂဓဘာသာစကားတို့နှင့်သာ ရောပြွမ်းနေခြင်းများကို တွေ့ရသဖြင့် ထိုခေတ် ထိုကာလများ၌ 'တိုင်း' (ရှမ်း) တို့သည် သကျသာကီဝင်မင်းမျိုးတို့ မအုပ်စိုးမီက 'တိုင်းရင်းဘာသာ စကားများ သီးခြားပင်ရှိ၏'ဟု ဆိုရစေကာမူ သကျသာကီဝင်မင်းမျိုးတို့ အုပ်စိုးလာသည့်နောက် ကာလမှစကား ပါဠိ၊ မာဂဓဘာသာကိုသာ အလေးအမြတ်ပြု၍ များစွာလေ့လာပြောဆိုကြဟန် တူလေသည်။ (ဥပမာ - ရှမ်းစကား 'ဖ-ကောင်း၏ကင်'သည် မာဂဓဘာသာ ကောင်းကင်ဟော "အမ္ဗရ" ပုဒ်မှ "အမ်" သဒ္ဒါကြေ၍ "ဗရ"၊ ၎င်းမှ "ဗ"ကို "ဖ" ပြု၍၊ ၎င်း "ဖရ"မှ "ဖ" ဖြစ်လာခြင်း။ ထို့အတူ မင်းဟော "ဒေဝ"ဟူသော ပုဒ်မှ "ဒ"အက္ခရာကို "စ"ပြု၍၊ "ဝ"အက္ခရာတွင် တံခွန်လွှားလျက် "စဝ်"ဟု ဖြစ်လာခြင်းတို့ပင်တည်း) တရုတ်ပြည်အလယ်ပိုင်းတွင် ရှမ်းလူမျိုးများ နေထိုင်လာခဲ့ကြဖူးသည်ကို ကြည့်၍ ရှမ်းလူမျိုးသည် တရုတ်မှ ပေါက်ဖွားလာသော လူမျိုး (သို့မဟုတ်) ဆက်နွယ်ဆင်းသက်သော လူမျိုးဟူ၍ မမှတ်ယူသင့်ပေ။ "ထိုနေရာ ထိုဒေသတွင် တရုတ်လူမျိုးတို့ မနေထိုင်မီကပင်လျှင်

နေထိုင်လာခဲ့ကြသော သီးခြားလူမျိုး" ဟု သာ မှတ်ယူရမည်။[၁]

အချို့သော သမိုင်းဆရာများသည် 'တိုင်း' (ရှမ်း)လူမျိုးများကို တရုတ်လူမျိုးများဟု ထင်မှတ်ကြသည်။ အချို့ကမူ တရုတ်လူမျိုးများကို 'တိုင်း' (ရှမ်း) လူမျိုးများဟူ၍ ထင်မှတ်ကြသည်။ အချို့ကလည်း 'တိုင်း' (ရှမ်း)နှင့် တရုတ်လူမျိုးများသည် ညီအစ်ကိုသဖွယ် အမျိုးအနွယ်တူလူမျိုးများဖြစ်ကြသည် ဟူ၍ရေးသားကြ၏။ 'တိုင်း'(ရှမ်း)လူမျိုးများသည် တရုတ်လူမျိုးများ၏ နောင်တော် (အစ်ကို) Elder Brother of The Chinese ဟု ဆိုရာ၌ အမျိုးအနွယ်၊ ဘာသာစကားတူညီခြင်းကြောင့် မဟုတ်ပေ။ 'တိုင်း' (ရှမ်း) လူမျိုးတို့သည် တရုတ်လူမျိုးတို့ထက် ရှေးဦးစွာ တရုတ်ပြည်တွင် ဝင်ရောက်နေထိုင်ခြင်းကြောင့်သာ "တရုတ်တို့၏ နောင်တော်များ"ဟူ၍ ခေါ်ဆိုကြခြင်း ဖြစ်သည်။[၂]

ဒုတိယကမ္ဘာစစ်အတွင်း မြန်မာပြည်သို့ရောက်လာကြသော ဂျပန်တို့သည် 'တိုင်း'(ရှမ်း)များကို တရုတ်လူမျိုးဟု ထင်မှတ်ခဲ့ကြသည်၊ နောက်ပိုင်းတွင် ဆေးမင်ကြောင် ထိုးထားကြသူများသည် ရှမ်းများဖြစ်၍ မထိုးကြသူများသည် တရုတ်ဖြစ်သည်ဟု ခွဲခြားသတ်မှတ်ယူရသည်။ ထိုခေတ်က ဂျပန်၏ရန်ကိုကြောက်၍ ရှမ်းပြည်အတွင်း နေထိုင်ကြသော တရုတ်အမျိုးသားများလည်း ဆေးမင်ကြောင်ထိုးကြလေသည်။

ရှေးအခါက တရုတ်လူမျိုးတို့သည် မိမိတို့လူမျိုးမှလွဲ၍ အခြားလူမျိုးတို့ကို လူရိုင်း (Barbarian) ဟု ခေါ်ကြသည်။ သူတို့လူရိုင်းဟု ခေါ်သော စူနိုင်ငံဘုရင်သည် ယန်စီမြစ်ဝှမ်းတွင်နေထိုင်ပြီး တရုတ်ပြည်တောင်ပိုင်းနှင့် အနောက်ပိုင်းအထိအုပ်ချုပ်ခဲ့သည်။ နောင်အခါ"ကရင်"

---

၁။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၃၅-၃၇။

၂။ အောင်ထွန်း (စိုင်း) ရှေးခေတ် "တိုင်း" လူမျိုးများ မူလနေထိုင်ရာအရပ်ဒေသများနှင့် အာရှအရှေ့တောင်ဘက်သို့ ဆင်းသက်ပြန့်ပွားလာပုံ။ နှာ ၂။

နှင့် "အာနန်" ဖြစ်လာကြမည့် လူမျိုးများလည်း စူနိုင်ငံဘုရင်အုပ်ချုပ်သော နယ်မြေအတွင်း၌ နေထိုင်ကြသည်။ သို့သော် စူနိုင်ငံအတွင်းရှိ လူများစုမှာ 'တိုင်း' (ရှမ်း) လူမျိုးများဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် စူနိုင်ငံစကားဖြစ်သော "Tam (to beat) - ထုထောင်းသည်၊ Lai (to confer) - ပေးအပ်သည်၊ Lam (to covet )- တပ်မက်သည်' တို့သည် ယခုခေတ် ရှမ်းစကားနှင့်တူသည်။ ထိုခေတ်က ကျွားကို Udu (သို့မဟုတ်) wutu ဟုခေါ်၍ ရှင်ဘုရင်ကို Kon ngau (Great man) ဟုခေါ်သည်။ ထို့ကြောင့် ဘာသာဗေဒပညာရှင် Mr.Terrien De Lacouperie ဆိုသူက "စူနိုင်ငံအတွင်း နေထိုင်ကြသူတို့သည် 'တိုင်း' (ရှမ်း) စကားကို ပြောဆိုကြသူများဖြစ်ကြ၍ ထိုနိုင်ငံသည် 'တိုင်း' (ရှမ်း) တို့၏ နိုင်ငံဖြစ်ကြောင်းကို မည်သူမျှမငြင်းဆိုနိုင်"ဟု အခိုင်အမာဆိုထားသည်၊ 'တိုင်'(ရှမ်း)တို့သည် တရုတ်ပြည်အလယ်ပိုင်းနှင့် အနောက်တောင်ပိုင်းတွင် တရုတ်တို့ထက်စော၍ အခြေချ နေထိုင်လာခဲ့သူများဖြစ်သည်။[၁]

ထိုအချိန်က စူနိုင်ငံတော်၏ အင်ပါယာသည် ယခုတရုတ်ပြည်အလယ်ပိုင်းကို ဗဟိုပြု၍ ဟူပေ၊ ဟိုနန်၊ ကွေချောင်နှင့် မြစ်ဝါမြစ်တောင်ဘက်အထိဖြစ်သည်။ စူနိုင်ငံတော်တွင် ဘုရင်ခံနိုင်ငံ (၂၀) ပါဝင်ဖွဲ့စည်းထားသော ပြည်ထောင်စုနိုင်ငံတော်ဖြစ်သည်။ စူနိုင်ငံအတွင်းပါဝင်၍ နာမည်တွင် ကျန်ရစ်ခဲ့သော နိုင်ငံများမှာ-

(၁) ပန် Pang (ခေါ်) ပန်ဟု Pang Hu
(၂) ပါး Pa
(၃) လုံး Lung (ခေါ်) Long
(၄) သျှင် Tsen (ခေါ်) Tien (ယခု ယူနန်နယ်)

---
[၁] Milne. Leslie (Mrs). Shan at Home. PP.2-3

(၅) တိန် Techen (ခေါ်) Tsang Ko)
(၆) နားခိ Na Khi (တိဘက်နှင့်တရုပ်နယ်စပ်)
(၇) ငူး Ngu (ခေါ်) Wu
(၈) ရွေ့ Yueh
(၉) ညို Ngio
(၁၀) ပဲ့ငိုင် Pegnai စသည်တို့ဖြစ်ကြသည်။[၁]

## ၂း၃ ။ ပန်နိုင်ငံ Pang (ခေါ်) ပန်ဟုနိုင်ငံ Pang Hu

တရုတ်ပြည်အလယ်ပိုင်းမှ တောင်ပိုင်းအထိ နေထိုင်ကြသော လူမျိုးတို့သည် 'တိုင်း' (ရှမ်း)လူမျိုးများ ပင်းဖြစ်သည်၊ သူတို့သည် မိမိကိုယ်ကို "ငေါင်" Ngao သို့မဟုတ် "ယောင်" Yao ဟုခေါ်ပြီး The Great or Powerful - ကြီးမြတ်ခြင်း (သို့မဟုတ်) အင်အားကြီးမားခြင်း ဟုအဓိပ္ပါယ်ရှိသည်၊ ပန်နိုင်ငံသည် ယခင်ကစုနိုင်ငံတော်ကို အင်အားကြီးစွာ ထောက်ပံ့ခဲ့သော နိုင်ငံဖြစ်သည်၊ ပန်နိုင်ငံသားများ သည် ဘီစီ ၂၀၀၀ ကတည်းက တရုတ်တို့နှင့် ပေါင်းသင်းဆက်ဆံလာခဲ့သည်ဟု Mr Terrien de Lacouperie က ပြောဆိုသည်၊ ပန်နိုင်ငံသည် စီချွန် မြောက်ပိုင်းနှင့် ဟူပေအားလုံး အကျုံးဝင်သည်၊ ဘီစီ ၁၂၃၁ တွင် တရုတ်ဘုရင် ရှုန်းဝုတင်း Shang Wu Ting သည် အင်မားကြီးမားသော ပန်နိုင်ငံကို တိုက်ခိုက်အောင်မြင်ခဲ့သည်၊ ပန်နိုင်ငံ ပျက်စီးသွားသော်လည်း ပန်နိုင်ငံသားများသည် လက်စားချေလိုသော စိတ်ဓာတ်ဖြင့် ပန်နိုင်ငံအတွင်း ဆက်လက်နေထိုင်ပြီး လူသူအင်အား စုဆောင်းကာ ဘီစီ ၁၁၂၂ တွင် ရှုန်းမင်းဆက် Shang-Yin Dynasty များကို တွန်းလှန်ဖြိုဖျက်နိုင်ခဲ့သည်။[၂] Shang မင်းဆက်ကို တော်လှန်နိုင်ခဲ့

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan PP.9-10
၂။ Milne. Leslie (Mrs). Shans at Home., P.3

သောကြောင့် ပန်နိုင်ငံသားများကို Shang > Shan ဟု ခေါ်လာခဲ့သည်ဟုလည်းဆိုသည်။[၁]

ရှန်းမင်းတို့ကို အောင်နိုင်ပြီးနောက် ပန်နိုင်ငံသားများသည် လွတ်လပ်သော လူမျိုးများ ဖြစ်လာပြန်သည်။ သူတို့အခြေစိုက်သော ဒေသသည် သဘာဝတောတောင်လျှိုမြောင် ပေါများပြီး တရုတ်တို့၏ လာရောက်တိုက်ခိုက်မှုကို ဟန့်တားစေနိုင်သည့် ယွန်မြစ် Yuan River ဝူမြစ် Wu River အကြားနှင့်တောင်တင်းကန် Tung Ting Lake ၏ အနောက်ဘက်၊ အနောက်တောင်ဘက်တွင် တည်ရှိသည်။ ပန်နိုင်ငံသားများသည် တရုတ်လက်အောက်သို့ အညံ့မခံလိုကြချေ။ တရုတ်ကို သူတို့၏ အရှင်သခင်အဖြစ် မသတ်မှတ်လိုကြချေ။ သို့သော် အေဒီ ၁၁ ရာစု ဆွန်မင်းဆက် Sung Dynasty သို့ ရောက်သောအခါ ဆွန်မင်းတို့၏ တောင့်တင်းသောအင်အားကို မခုခံနိုင်တော့သဖြင့် ဆွန်မင်းဆက်ကို အညံ့ခံခဲ့ရသည်။ [၂]

ဟန်မင်းဆက်လက်ထက် မှတ်တမ်းအရ ပန်နိုင်ငံစကား ရှစ်ခွန်းတွင် 'တိုင်း' (ရှမ်း) စကား ငါးခွန်း ပါဝင်ပြီး ကျန်သုံးခွန်းမှာ ရှမ်းစကားဖြစ်ကောင်းဖြစ်နိုင်သည် ဟု De Lacouperie ကဆိုသည်။ ထို့ကြောင့် ပန်နိုင်ငံသည် တိုင်း(ရှမ်း)တို့၏ နိုင်ငံဖြစ်ခဲ့သည်။ ပန်နိုင်ငံသည် တရုတ်ပြည်အလယ်ပိုင်းကို ဗဟိုပြု၍ စူချွန်နယ် Suchuan၊ ဟူပေ Hubei၊ ဟိုနန် Honam၊ ကွေချောင် Kwei Chow နှင့် မြစ်ဝါမြစ်မြောက်ဘက်အထိ ကျယ်ဝန်းခဲ့သည်။ [၃]

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan PP.9-10

၂။ Milne, Leslie (Mrs). Shans at Home.. P.3

၃။ Cochrane, W.W. The Shans. Vol.I P.8

## ၂း၄ ။ ပါးနိုင်ငံ **Pa** လုံနိုင်ငံ **Long** (ခေါ်) လုံးနိုင်ငံ **Lung**

ဘီစီ ၁၉၇၁ ခုတွင် ပါးနိုင်ငံနှင့် လုံးနိုင်ငံသည် အင်အားကြီးသောနိုင်ငံဖြစ်ပြီး စူနိုင်ငံတော်ကို ထောက်ပံ့ခဲ့သောနိုင်ငံဖြစ်သည်။ ဤပါးနှင့်လုံးနိုင်ငံသည် ဘီစီ ၃၃၉ တွင် တရုတ်ရှင်း Tsim တို့၏ တိုက်ခိုက်မှုကြောင့် ပျက်စီးခဲ့ရသည်။ တရုတ်တို့က ပါးနိုင်ငံကို အောင်နိုင်ပြီးနောက် ပါးနိုင်ငံတွင် နေထိုင်ကြသော 'တိုင်း' (ရှမ်း)များကို ပါးယိ Pa Yi ဟုခေါ်ကြသည်။[၁] "ပါးယိ"ဆိုသည်မှာ "ပါးနိုင်ငံတွင် နေထိုင်ကြသော လူမျိုးများ"၊ "အဝတ်ဖြူ"၊ "လူရိုင်း ၁၀၀" ဟူ၍ အဓိပ္ပါယ်ရှိသည်။ ရှေးခေတ် တရုတ်တို့သည် မိမိတို့လူမျိုးမှ လွဲ၍ အခြားလူမျိုးများအားလုံးကို လူရိုင်းများဟုပင်ခေါ်ကြသည်။ သို့ရာတွင် လူရိုင်းတို့အနက် ပါးယိတို့မှာ အယဉ်ကျေးဆုံးဖြစ်ကြသည်ဟု တရုတ်တို့က ဝန်ခံထားပေသည်။[၂]

ကွမ်နန်ဒေသတွင် Kwang Nan ယူနန်ဒေသ၏ အရှေ့မြောက်ပိုင်းတွင် နေထိုင်ကြသော သူများကို တရုတ်တို့က တူဂျင်း TuJen ဟုခေါ်သည်။ တူဂျင်းများသည် လုံးနိုင်ငံမှ 'တိုင်း'(ရှမ်း)များဖြစ်ကြသည်။ Mr.Dood အဆိုအရ "လုံး" နိုင်ငံသားတို့ ပြောဆိုသော စကားခွန်း (၂၅၀) တွင် (၈)ပုံ (၇) ပုံသည် 'တိုင်း' ရှမ်းလူမျိုးတို့၏ စကားဖြစ်သည်ဟု ဆိုသည်။ လုံးနိုင်ငံသားများသည် မိမိကိုယ်ကို "တိုင်းခွန်ယိုင်" ဟုခေါ်ကြသည်။ ပါးနိုင်ငံပျက်စီးသွားသော်လည်း ပါးနိုင်ငံရှမ်းများသည် ယခုတိုင် ယန်စီဒေသရှိ နမ့်ယာလုံးတွင် နေထိုင်ကြသေးသည်။[၃]

---

၁။ Milne. Leslie (Mrs). Shan at Home.. P.9

၂။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းလူမျိုး၊ နှာ ၃၉၉။

၃။ William Clifton (Dodd.D.D) The Tai Race. P.346.
Hsen (Khun) op. cit. P. 11

ပန်နိုင်ငံ၊ ပါးနိုင်ငံ၊ လုံးနိုင်ငံတို့ပျက်စီးသွား၍ စူနိုင်ငံစရိယာ ကျဉ်းသွားသော်လည်း စူနိုင်ငံတော်သည် ဆက်လက်တည်တံ့နေခဲ့သည်။ ဘီစီ ၆၆၆ တွင် စူနိုင်ငံရှိ 'တိုင်း' (ရှမ်း)များသည် ကွေချောင်ဒေသကို သိမ်းပိုက်နိုင်ခဲ့သည်။ ဘီစီ ၄၀၀-၃၀၀ တွင် စူနိုင်ငံတော်သည် အရှေ့ဘက် တွင် ပင်လယ်ဝါအထိ (Yellow Sea)၊ ငူးနိုင်ငံနှင့် ယွေ့နိုင်ငံအပါ အဝင် တောင်ဖက်တွင် နန်းလင်းတောင်အထိ၊ စူချွန်အရှေ့ပိုင်း၊ ကွေ့ ချောင်နယ်အားလုံးနှင့် ယူနန်နယ်အလယ်ပိုင်းအပါအဝင် တောင်ပိုင်း အထိ ကျယ်ပြန့်သည်။ ထိုအချိန်တွင် ယူနန်ကို "သျှင်" Tien or Tsen Kingdom ဟုခေါ်သည်။ ဘီစီ-၂၈၄-၂၂၄ တွင် 'တိုင်း' (ရှမ်း) များ အင်အားပြန်လည် တောင့်တင်းလာပြီး နိုင်ငံတော်သည်လည်း ကျယ်ဝန်း လာသည်။ "သျှင်" နိုင်ငံသည် ခြောက်ပြည်ထောင် ပေါင်းစုထားသော ပြည်ထောင်စုနိုင်ငံဖြစ်ပြီး အနှစ်ခြောက်ဆယ်ကြာအောင် တည်တံ့ခဲ့ သည်။ စီချွန်အရှေ့ပိုင်း၊ ယူနန်နယ်အားလုံးနှင့် တရုတ်ပြည် တောင်ပိုင်း ဒေသတို့သည် သျှင်နိုင်ငံထဲတွင် ပါဝင်သည်။[၁]

ဘီစီ ၃၃၈ တွင် တရုတ်တို့သည် အင်အားစုစည်း၍ သျှင်နိုင်ငံ ရှိ မိန်းခွမ်လုံကို သိမ်းပိုက်နိုင်ခဲ့ပြီး ဘီစီ ၂၇၉ တွင် ရှင်းမင်းဆက်သည် ယန်စီအနောက်ဘက်ကမ်းတွင် ရှင်းစီနန်းတော် Shensi ကို တည်ခဲ့ပြီး တရုတ်လူမျိုးများ ယန်စီအနောက်ဘက်ကမ်းသို့ ရောက်ရှိလာကြသည်။ ဘီစီ ၂၂၄ တွင် သျှင်နိုင်ငံ တစ်ခုလုံးကို တရုတ်တို့ သိမ်းပိုက်နိုင်ခဲ့လေ သည်။ ဘီစီ ၂၂၂ တွင် စူနိုင်ငံတော်သည်လည်း တရုတ်တို့၏ တိုက်ခိုက် မှုကြောင့် ပျက်စီးသွားခဲ့ရသည်။ ဘီစီ ၂၁၅ တွင် ပါးနိုင်ငံနှင့် ညူနိုင်ငံသည် တရုတ်လက်အောက်သို့ ကျရောက်သွားခဲ့လေတော့သည်။[၂]

---

၁။ Milne, Leslie (Mrs). Shan at Home., P.4
၂။ Ibit.

တရုတ်သမိုင်းမှတ်တမ်းများအရ ယူနန်၏မြို့တော်သည် "တာလီဖူး"ဖြစ်သည်။ B.C ၂၆၉-၂၃၂ တွင် သီရိဓမ္မာသောကမင်းကြီးသည် တာလီဖူးသို့ရောက်လာပြီး ယူနန်ဘုရင်၏ သမီးတော် ဆိုင်မိန်းကို Chien Meng Kui နှင့် ထိမ်းမြားလက်ထပ်ခဲ့သည်။ သားတော်သုံးပါးထွန်းကားခဲ့သည်။ အသောကမင်းကြီးသည် ယူနန်တွင်မနေထိုင်ဘဲ အိန္ဒိယသို့ ပြန်သွားခဲ့သည်။ ယူနန်အနောက်ပိုင်းကို အုပ်ချုပ်သောမင်းဆက်များသည် အသောကမင်းဆက်များဖြစ်သည်ဟု ဆိုသည်။ ယူနန်အရှေ့ပိုင်းကို အုပ်ချုပ်သောမင်းလည်း သီးသန့်ရှိသည်ဟု ဆိုသည်။[၁]

ဘီစီ ၂၈၀-၂၂၀ တွင် တရုတ်ဘုရင်သည် သူ၏တပည့်ဖြစ်သူ ခွန်ချောင် Chuan Chao အမည်ရှိ ရှမ်းစစ်ဦးစီးမှူးအား ဘုရားရှင်၏ သာသနာတော်ကို ရရှိရန်အတွက် အိန္ဒိယသို့ စေလွှတ်သည်။ ယူနန်သို့ ရောက်သောအခါ ယူနန်နယ်အနောက်ပိုင်းနှင့် အရှေ့ပိုင်းတို့ စစ်ဖြစ်နေကြသဖြင့် သူသည်ရှေ့သို့လည်းမတိုးသာ နောက်သို့လည်းမဆုတ်သာ ဖြစ်ကြသဖြင့် လူသူအင်အားစုဆောင်းပြီး ရှန်ကောင် Tein kuo မြို့ပြကို တည်ထောင်ခဲ့သည်။ ဘီစီ ၁၈၇-၁၄၀တွင်လည်း တရုတ်တို့သည် ဗုဒ္ဓသာသနာတော်ကိုရရှိရန်အတွက် အိန္ဒိယသို့ ဖြတ်လမ်းရှာရာ သျှင်နိုင်ငံသို့ ရောက်လာပြန်သည်။ သျှင်နိုင်ငံဘုရင်က တားဆီးတိုက်ခိုက်သဖြင့် တရုတ်တို့သည် သျှင်နိုင်ငံသို့ ရောက်လာပြန်သည်။ သျှင်နိုင်ငံဘုရင်က တားဆီးတိုက်ခိုက်သဖြင့် တရုတ်တို့သည် ယူနန်အရှေ့ပိုင်းနှင့် ရှန်ကောင်တို့ကို တိုက်ခိုက်သိမ်းပိုက်လိုက်သည်။ ဘီစီ ၁၂၂-၁၁၇ တွင် ယူနန် အနောက်ပိုင်း ရှန်ကောင်နှင့် ယူနန်အရှေ့ပိုင်း ချန်ချင်း Chang Chingသို့ စစ်ဖြစ်ကြရာ တရုတ်များက ယူနန်အနောက်ပိုင်းရှန်ကောင်တို့ကို ကူညီသဖြင့် ရှန်ကောင်တို့အနိုင်ရလေသည်။ ထိုအချိန်မှစ၍ ယူနန်

၁။ M.L. Manich. History of Laos. P.25.

သည် တပေါင်းတည်းဖြစ်လာပြီး ပိုင်စုကောင် Pai T'su Kuo ဟု အမည်ပြောင်းလေသည်။[၁]

## ၂း ၅ ။ အိုက်လောနိုင်ငံတော် Ai Lao AD 47-225

စုနိုင်ငံတော်ပျက်စီးပြီးနောက် တိုင်း(ရှမ်း)တို့သည် တောင်ပိုင်းဒေသသို့ ပြောင်းရွှေ့လာခဲ့ကြပြီး နယ်မြေသစ်များကို ရှာဖွေကြသည်။ အေဒီ ၄၇ ခုနှစ်တွင် ကွိုလုံ (Kiu Lung) ဆိုသူသည် လူသူအင်အားစုဆောင်းပြီး အိုက်လော (Ai Lao)@ ငေါင်လော (Ngao Lao) နိုင်ငံတော်ကို တည်ထောင်သည်။ ကွိုလုံသည် အိုက်လောတို့၏ ပထမဦးဆုံးဘုရင်ဘွဲ့ကို ခံယူသည်။ ညီအစ်ကိုဆယ်ယောက်ရှိသည့်အနက် ကွိုလုံသည် အထွေးဆုံးဖြစ်ပြီး ဉာဏ်ပညာနှင့် ရဲစွမ်းသတ္တိပြည့်စုံသောကြောင့် နိုင်ငံ၏ခေါင်းဆောင်အဖြစ်သို့ ရောက်လာခြင်းဖြစ်သည်။ အေဒီ ၄၈ ခုနှစ်တွင် အိုက်လောစစ်တပ်သည် ဟန်မြစ်နှင့် ယန်စီမြစ်ကို ဖြတ်ကျော်ပြီး တရုတ်ပိုင် နယ်မြေများကို တိုက်ခိုက်သိမ်းပိုက်နိုင်ခဲ့သည်။ တရုတ်ဘုရင်သည် 'တိုင်း' (ရှမ်း) ဘုရင်ကို အသိအမှတ်ပြုရ၍ ကင်းချောင် King Chou ဒေသ၏ အကြီးအကဲအဖြစ် ခန့်အပ်ရလေသည်။ ကင်းချောင်ဒေသသည် ကျေးရွာပေါင်း(၈၀၀၀) ရှိပြီး မြောက်ဘက်နယ်မြေသည် မြစ်ဝါမြစ်အထိဖြစ်သည်။[၂]

အေဒီ ၅၀ ခုနှစ်တွင် တရုတ်တို့က အိုက်လောတို့ကို ပြန်လည်တိုက်ခိုက်ခဲ့ရာ ပဲ့ငိုင် Pegnai ကို သိမ်းပိုက်နိုင်ခဲ့သည်။ တရုတ်နှင့် လေးနှစ်ကြာအောင် နယ်မြေပဋိပက္ခများ ဖြစ်ပွားခဲ့ပြီး အေဒီ ၅၄ ခု

---

၁။ M.L Manich. History of Laos. P.25

၂။ Cochrane (W.W) The Shans. P.19

အိုက်လောဘုရင် ဟိုင်းလီ Hein Li သည် တရုတ်တို့အား အညွှံ့ လိုက်လေသည်။ အေဒီ ၅၄ ခုတွင် အိုက်လောဘုရင် ဟိုင်းလီသည် သူ၏စစ်တပ်ကို လှေသင်္ဘောဖြင့် ယန်စီမြစ်အတိုင်း စုန်ဆင်းပြီး လူးတို Luh To လူမျိုးများကို သွားရောက်တိုက်ခိုက်စေသော်လည်း အိုက်လောတို့ စစ်ရှုံးခဲ့ရသည်။ အေဒီ ၅၅ တွင် ယန်စီမြစ်နှင့် နမ့်ယာလုံးမြစ်အကြား ရှိ ယွီရှူးနိုင်ငံကို စစ်ရှုံးပြီး အိုက်လောဘုရင်ဟိုင်းလီနှင့် သူ၏စစ်သည် (၂၀၀၀၀) တို့သည် ကျဆုံးခဲ့ရလေတော့သည်။[၁]

အေဒီ ၅၅ မှ အေဒီ ၇၁ အထိတွင် လျူမန် Liu Man သည် အိုက်လောတို့၏ ဘုရင်ဖြစ်လာသည်။ တရုတ်တို့သည် ဆက်လက်ပဋိပက္ခ ဖြစ်ပွားရာ အေဒီ ၆၉ ခုနှစ်တွင် လျူမန်ဘုရင်သည် တရုတ်ဘုရင် ဟန်မြင့်တိ Han Ming Ti ကို စစ်ရှုံးသဖြင့် သူ၏တိုင်းသူပြည်သားငါး သိန်းသည် တရုတ်တို့၏ အခွန်ပဏ္ဏာဆက်သရသူများ ဖြစ်ခဲ့ရသည်။[၁] အေဒီ ၇၁-၇၈ ခုနှစ်တွင် ခွန်လုံလီမော Khun Luang Li Mou သည် အိုက်လောတို့၏ ဘုရင်ဖြစ်လာသည်။ တရုတ်ဘုရင် ဟန်မြင့်တိ သည် အိန္ဒိယနိုင်ငံမှ ဗုဒ္ဓသာသနာကို ရရှိလာပြီး အိုက်လောတို့အား သာသနာပြန့်ပွားပေးခဲ့သည်။ မဟာယာနဗုဒ္ဓဘာသာဖြစ်သည်။[၂]

အေဒီ ၇၆ ခုတွင် အိုက်လောတို့သည် တရုတ်တို့အား တော်လှန် တိုက်ခိုက်သော်လည်း မအောင်မြင်ခဲ့ပေ။ ခွန်လုံလီမော၏ သားဖြစ်သူ ခွန်လိုင်းလော Khun Lai Lao သည် အိုက်လောတို့၏ ဘုရင်ဖြစ် လာသောအခါ တရုတ်တို့က လာရောက်တိုက်ခိုက်သည်။ အိုက်လောတို့ မခုခံနိုင်သဖြင့် အိုက်လောနိုင်ငံသားများသည် တရုတ်တို့အား အခွန်

---

၁။ Milne. Leslie (Mrs). Shan at Home., PP.6-7

၂။ Cohrane (W.W) The Shans. P.20

၃။ Hsen (Khur). The Oregin of Tais and A Short History of Shan P.16

ပဏ္ဏာဆက်သရလေသည်။ ထိုအချိန်က အိုက်လောရှမ်းတို့သည် တရုတ်တို့အား လည်ပေါက်ပါသော အကျီနှစ်ထည်နှင့် ဆားမှုန့်တို့ကို ပေးဆပ်ရသည်။ အကျီမှာ ယခုခေတ်ကရင်အကျီနှင့် တူသည်။ အေဒီ ၉၇ ခုနှစ်တွင် ယူနန်ဒေသရှိ သျှင်နိုင်ငံကို အစိုးရသော 'တိုင်း'(ရှမ်း)ဘုရင် ယောင်းယူ Yung Yuသည် တရုတ်ဘုရင်ဟိုတီ Ho Ti အား မဟာမိတ်ပြု၍ လက်ဆောင်ပဏ္ဏာအမျိုးမျိုးပေးပို့ခဲ့ရာ တရုတ်ဘုရင်သည်လည်း အပြန်အလှန် လက်ဆောင်များပေးသည့်အပြင် ရွှေတံဆိပ်တစ်ခုကိုလည်း ပေးခဲ့သည်။ ထိုတံဆိပ်ကို ခရမ်းရောင်ဖဲစဖြင့် ချည်ဖွဲ့ထားသည်ဟုဆိုသည်။ အေဒီ ၁၂၀ တွင် ယောင်းယူသည်သူ၏ သံတမန်နှင့်တကွ အိန္ဒိယမှ တတ်ကျွမ်းလာသော ဂီတပညာရှင်များကို တရုတ်ဘုရင်ဟိုတီထံသို့ ဆက်သခဲ့သည်။ တရုတ်ဘုရင်သည်လည်း သျှင်နိုင်ငံဘုရင် ယောင်းယူအား ဘွဲ့ထူးဂုဏ်ထူးများ ချီးမြှင့်ခဲ့သည်။[၁]

အေဒီ ၂၂၂ သို့ရောက်သောအခါ လို့လော Lei Lao သည် အိုက်လောတို့၏ ဘုရင်ဖြစ်လာသောအခါ တရုတ်တို့ကို ပြန်လည်တိုက်ခိုက်ခဲ့သည်။ အေဒီ ၂၂၅ တရုတ်ဘုရင် ရှုန်းဝူတီ Sheng Wu Ti သည် သူ၏စစ်သူကြီးခေါင်ဘင်း Khong Beng (ခေါ်) ချူကော်လင်း Chu Ko Liang ကို သျှင်နိုင်ငံသို့ လာရောက်တိုက်ခိုက် စေသည်။ သျှင်နိုင်ငံသည် ထိုစဉ်က ခြောက်ပြည်ထောင် ပေါင်းစည်းထားသော နိုင်ငံဖြစ်သည်။ ထိုခြောက်ပြည်ထောင်ဘုရင်တို့တွင် နာမည်ကျော်ကြားသော ဘုရင်မှာ မိန်းကောက် Meng Kuo ဖြစ်သည်။ (ယိုးဒယားသမိုင်းတွင် ထိုဘုရင်ကို ဖျဉ်းဟက် Peng Hek ဘုရင်ဟု ခေါ်ပြီး သိရိမ္ဗာသောကမင်း၏ မင်းမျိုးနွယ်ဖြစ်သည်ဟုဆိုသည်) သူ၏ ညီ

---

၁။ Milne. Leslie (Mrs). Shan at Home.. P-7

တော်မှာ ဗျဉ်းရှ Peng Hiu ဖြစ်သည်။ သူတို့ညီအစ်ကိုနှစ်ပါးသည် တရုတ်တို့နှင့် အင်အားမမျှသော်လည်း ဂျူးဂေါ် လင်းစစ်တပ်ကို ရွပ်ရွပ်ချွံချွံတိုက်ခိုက်ခဲ့သည်။ တရုတ်စစ်တပ်သည် အင်အား ၅၀၀,၀၀၀ ရှိသည်ဟု ဆိုသည်။ လျှိုမြောင်တောတောင်ထူထပ်၍ သာလျှင် အိုက်လောတို့သည် တရုတ်တပ်မတော်ကို ခုခံတိုက်ခိုက်နိုင်သည်။ သူတို့သည် ခုနစ်ကြိမ်တိုင်တိုင် တိုက်ပွဲများဖြစ်ပွားခဲ့ရသည်။ ထိုခုနစ်ကြိမ်အနက် တစ်ကြိမ်တွင် တရုတ်စစ်တပ်က သူတို့ကို ဝိုင်းရံထားကြ၍ အခက်တွေ့ကြုံ နေကြသည်။ ထိုအချိန်တွင် အမျိုးသမီးတစ်ဦး၏ အသံကိုကြားရသဖြင့် ထိုအမျိုးသမီးသည် မိန်းကောက်ဘုရင်၏ မိဖုရားချူယောင်း Chu Yong ဖြစ်ပြီး မိဖုရားသည် စစ်တပ်တစ်တပ်ကို ဦးဆောင်၍ တရုတ်တို့ကို ထိုးဖောက် တိုက်ခိုက်လာသည်။ တရုတ်စစ်ဗိုလ်နှစ်ဦးကို ဖမ်းဆီးလာခဲ့သည်။ နောက်ပိုင်းတွင် တရုတ်တို့က ပရိယာယ်ဆင်၍ မိဖုရားချူယောင်းကိုဖမ်းပြီး တရုတ်စစ်သူကြီးနှစ်ဦးနှင့် အလဲအလှယ် ပြုလုပ်ရသည်ဟု ဆိုသည်။ ထိုခေတ်က 'တိုင်း' (ရှမ်း) အမျိုးသမီးများသည် စစ်မြေတွင် ကျွမ်းကျင်ကြောင်း သမိုင်းမှတ်တိုင်အဖြစ် ကျန်ရစ်ခဲ့သည်။ (၎င်းအကြောင်းအကျယ်ကို The Romance of the Three Kingdoms By C.H Brewott Taylor & Tuttle တွင် ဖတ်ရှုနိုင်ပါသည်)။ အေဒီ ၂၂၅ ခုတွင် အိုက်လောတို့၏ အင်ပါယာသည် တရုတ်ကြောင့် ပျက်စီးသွားခဲ့ရသည်။ 'တိုင်း'(ရှမ်း)များသည် လွတ်လပ်မှုကို မြတ်နိုးစိတ်၊ တိုင်းတစ်ပါးတို့၏ ဖိနှိပ်ချုပ်ချယ်မှုကို မခံလိုသောစိတ်ကြောင့် တောင်ဘက်အရပ်သို့ ပြောင်းရွှေ့လာကြသည်။ ထိုအချိန်မှစ၍ တရုတ်တို့က တိုင်း(ရှမ်း)များအား အိုက်လော Ai Lao ဟု ခေါ်ကြသည်။[၁]

၁။ Milne, Leslie (Mrs). Shan at Home., PP.26-7

## ၂း၆ ၊ နန်ချောင်နိုင်ငံတော် Nan Chao AD 649-1235

အိုက်လောနိုင်ငံတော် ပျက်စီးသွားပြီးနောက် အိုက်လော 'တိုင်း' (ရှမ်း)များသည် တောင်ဘက်ဒေသသို့ ပြောင်းရွှေ့လာကြပြီး အသီးသီးသော နိုင်ငံ၊ မြို့ပြကျေးရွာများကို တည်ထောင်ကြသည်။ ထိုသို့ နိုင်ငံအသီးသီး ထူထောင်ကြရာ၌ အင်အားတောင့်တင်း၍ ခိုင်မာစွာလွတ်လပ်စွာ တည်ရှိသောနိုင်ငံသည် ယူနန်ဒေသအတွင်းရှိ မိန်းဆည်ဖြစ်သည်။[၁]

အေဒီ ၆၄၉ ခုတွင် စွမ်းရည်သတ္တိရှိသူ၊ နိုင်ငံနှင့်လူမျိုးကို ချစ်မြတ်နိုးသူ၊ လွတ်လပ်ရေးကို မြတ်နိုးသူဖြစ်သည့် စီနုလို Si Nu Lo သည်သူတစ်လူ ငါတစ်မင်းဖြစ်နေသော 'တိုင်း'(ရှမ်း)ခြောက်နိုင်ငံကို တစ်နိုင်ငံတည်းဖြစ်အောင် စည်းရုံး၍ နန်ချောင် Nan Chao နိုင်ငံတော်ကြီးကို တည်ထောင်သည်။ အေဒီ ၆၄၉ မှ အေဒီ ၇၂၉ အထိ ထို ခြောက်နိုင်ငံတို့သည် စုပေါင်း၍ တိုင်းပြည်နှင့်လူမျိုးတို့၏ တာဝန်ကို ထမ်းဆောင်သောကာလဖြစ်သည်။ နန်ချောင်နိုင်ငံကို ရှမ်းလူမျိုးများက မိန်းလန့်စောဝ် (သို့မဟုတ်) တိုင်းဟုတ်မိန်းခေးယိုင် "ရှမ်းခြောက်ပြည်ထောင်" ဟု ခေါ်ကြသည်။ ဤရှမ်းခြောက်ပြည်ထောင်တို့တွင် ဘုရင်စီနုလို၏နိုင်ငံသည် မိန်းဆည်ချောင် Mong She Chao ဖြစ်ပြီး 22°N & 100.6°E ဆစ်ဆောင်ပန်းနား ကျိန်းဟုန့် အနီးတွင် တည်ရှိသည်။ အင်အားအတောင့်တင်းဆုံး နိုင်ငံဖြစ်၍ အေဒီ ၆၄၉ မှ ၇၃၉ အထိ နှစ် (၉၀) ကြာအောင် နန်ချောင်နိုင်ငံ၏ မြို့တော်ဖြစ်ခဲ့သည်။[၂]

---

၁။ Cohrane (W.W) The Shans. P.22 &

အောင်ထွန်း (စိုင်း)၊ ရှေးခေတ် "တိုင်း"လူမျိုးများ မူလနေထိုင်ရာအရပ်ဒေသများနှင့် အာရှအရှေ့တောင်ဘက်သို့ ဆင်းသက်ပြန့်ပွားလာပုံ။ နှာ၊ ၆-၈။

၂။ Hsen (Khur).The Oregin of Tais and A Short History of Shan P.23

၂း၆း၁။ နန်းချောင်နိုင်ငံတော်၏ စီမံအုပ်ချုပ်မှု

နန်းချောင်နိုင်ငံတော်ခေတ်ကာလတွင် အိုက်လောတို့၏ စီမံအုပ်ချုပ်မှုသည် စနစ်တကျရှိလှကြောင်း တွေ့ရသည်။ အုပ်ချုပ်ရေးယန္တရားအထက်တွင် ဘုရင်ရှိ၏။ အုပ်ချုပ်ရေးကိုလည်း ဗဟိုအုပ်ချုပ်ရေးနှင့် ဒေသန္တရအုပ်ချုပ်ရေးဟူ၍ ခွဲခြားထားသည်ကို တွေ့ရသည်။

ယင်းစီမံအုပ်ချုပ်မှုတွင် အရေးပါ အရာရောက်သော ဌာနများကို အကျဉ်းမျှ တင်ပြပါမည်။

၂း၆း၁း၁။ မှတ်တမ်းနှင့်သန်းခေါင်စာရင်းဌာန

ဤဌာနသည် သန်းခေါင်စာရင်းကိုကောက် ယူရပြီး လုပ်ငန်းဆောင်တာများအားလုံးကို မှတ်တမ်းပြုစုရသော ဌာန ဖြစ်သည်။ ဖွင့်ဘုရင်မှ ထုတ်ပြန်သော တိုင်းရေးပြည်ရာဆိုင်ရာ အမိန့်များကို မှတ်တမ်းတင် သိမ်းဆည်းထားရသည်။[၁]

၂း၆း၁း၂။ ဘာသာရေးဆိုင်ရာဌာန

ဤဌာနသည် တိုင်း(ရှမ်း)လူမျိုးတို့၏ ယုံကြည်ကိုးကွယ်မှု ကိစ္စအဝဝကို စီမံဆောင်ရွက်ရသော ဌာနဖြစ်သည်။[၂]

၂း၆း၁း၃။ တရားရေးဌာန

ဤဌာနသည် နိုင်ငံတော်မှ ပြဋ္ဌာန်းသော ဥပဒေများကို ကျူးလွန်သူများအား အရေးယူ ဆောင်ရွက်ရသော ဌာန ဖြစ်သည်။[၃]

---

၁။ Milne, Leslie (Mrs). Shans at Home. P.8.
အောင်ထွန်း(စိုင်း)၊ ရှေးခေတ်တိုင်းလူမျိုးများ မူလနေထိုင်ရာအရပ်ဒေသများနှင့် အာရှအရှေ့တောင်ဘက်သို့ ဆင်းသက်ပြန့်ပွားပုံ၊ နှာ ၆-၇။

၂။ Ibit.

၃။ Ibit.

၂ း ၆ း ၁ း ၄ ။ ကာကွယ်ရေးဌာန

ဤဌာနသည် နိုင်ငံတော်ပြည်တွင်းပြည်ပ လုံခြုံမှုကိစ္စများကို ဆောင်ရွက်နိုင်ရန် ကာကွယ်ရေးဌာနကို ထားရှိခြင်း ဖြစ်သည်။ ဤဌာန၏ အောက်တွင် ခြေလျင်တပ်၊ မြင်းသည်တော်တပ်၊ ဆင်တပ်စသည်တို့ ရှိရပြီး စစ်ရေးလေ့ကျင့်မှုများကို လေ့ကျင့်ပေးလျက် နိုင်ငံအတွက် အမြဲတမ်း အဆင့်သင့်ရှိရသည်။[၁]

၂ း ၆ း ၁ း ၅ ။ ပြည်သူ့လုပ်ငန်းဌာန

နိုင်ငံတော်အတွင်းရှိ လမ်းပန်းဆက်သွယ်ရေး ကောင်းမွန်စေရန် လမ်း၊ တံတား၊ ဆည်မြောင်း၊ မြစ်ချောင်းစသည်တို့ကို ပြုပြင်ဆောင်ရွက်ရသည့်ဌာနဖြစ်သည်။ နိုင်ငံတော်၏ လယ်ယာစိုက်ပျိုးရေးလုပ်ငန်းများ၊ စီးပွားရေးလုပ်ငန်းများ တိုးတက်ပြန့်ပွားအောင်လည်း ဤဌာနကပင် တာဝန်ယူဆောင်ရွက်ရသည်။[၂]

၂ း ၆ း ၁ း ၆ ။ အခွန်တော်ဌာန

နိုင်ငံတော်စီမံအုပ်ချုပ်ရန် ကုန်ကျသောစရိတ်များ ရရှိရန်အတွက် နိုင်ငံသားများထံမှ မျှတသော အခွန်တော်များကို စည်းကြပ်ကောက်ခံသော စနစ်ထားရှိသည်။ အခွန်တော်ကို မျှမျှတတနှင့် စနစ်တကျကောက်ခံနိုင်ရန် သမာသမတ်ရှိသောပုဂ္ဂိုလ်များကို ရွေးချယ်ခန့်ထားကြသည်။[၃]

---

၁။ Milne, Leslie (Mrs). Shans at Home. P.8.
အောင်ထွန်း(စိုင်း)၊ ရှေးခေတ်တိုင်းလူမျိုးများ မူလနေထိုင်ရာအရပ်ဒေသများနှင့် အာရှအရှေ့တောင်ဘက်သို့ ဆင်းသက်ပြန့်ပွားပုံ၊ နှာ၊ ၆-၇။
၂။ Ibit.
၃။ Ibit.

၂း၆း၁း၇ ။ ပြည်သူ့ဝန်ထမ်း ရွေးချယ်ရေးဌာန

နန်ချောင်နိုင်ငံတော်ကို စီမံအုပ်ချုပ်ရန် နိုင်ငံတော်၏ တာဝန်ကို ကျေပွန်စွာ ထမ်းဆောင်နိုင်ရန် အရည်အချင်းရှိသူများ ရရှိနိုင်ရေး အတွက် ဤဌာနကို ဖွင့်လှစ်ထားခြင်းဖြစ်သည်။ ဤဌာနမှနေ၍ သက်ဆိုင်ရာ အရာရှိများကို ရွေးချယ်ခန့်ထားသည်။[၁]

နိုင်ငံတော်၏ အုပ်ချုပ်ရေးဌာန အသီးသီးတွင်လည်း အတိုင်ပင်ခံပုဂ္ဂိုလ်ကြီးများကို ခန့်ထားသည်။ ရှင်ဘုရင်သည် ၎င်း၏ ထီးနန်းဆက်ခံမည့်သူကို ရွေးချယ်၍ ကျမိန်း (အိမ်ရှေ့မင်းသား) အဖြစ်ခန့်ထားသည်ကို တွေ့ရသည်။ ထိုသို့ရွေးချယ်ရာတွင် အကြီးဆုံး သားတော်ကိုသာ ဦးစားပေးရွေးချယ်ခြင်းမဟုတ်ဘဲ အရည်အချင်းပြည့်ဝသော သားတော်တိုင်းကို အိမ်ရှေ့မင်းရာထူး ပေးလေ့ရှိကြောင်း တွေ့ရသည်။[၂]

နန်ချောင်ဘုရင်သည် ပြည်တွင်းရေးရာ အုပ်ချုပ်ရေးယန္တရားများကို စနစ်တကျဖွဲ့စည်းပြီးနောက် ပြည်ပစည်းရုံးရေးကိုလည်း စတင်ဆောင်ရွက်လေသည်။ အဓိက ရည်ရွယ်ချက်မှာ 'တိုင်း' (ရှမ်း) လူမျိုးတို့အား အစဉ်အဆက်ရန်ပြုနေသော တရုတ်တို့အား ပြန်လည်တိုက်ခိုက်တုံ့ပြန်ရန်ဖြစ်သည်။ တရုတ်တို့ကို ပြန်လည်တွန်းလှန်နိုင်ရန်အတွက် နန်ချောင်ဘုရင်သည် စစ်တပ်ကို အထူးတလည် ဦးစားပေးကာ ဖွဲ့စည်းကြောင်းတွေ့ရသည်။ နန်ချောင်တပ်မတော်တွင် ခြေလျင်တပ်၊ မြင်းတပ်ထားရှိပြီး၊ တပ်မတော်သားများ စစ်ရေးကျွမ်းကျင်ရန်အတွက် အထူးလေ့ကျင့်ရလေသည်။ နိုင်ငံတော်သည် လိုအပ်သော စစ်ဝတ်တန်ဆာ စစ်လက်နက်ပစ္စည်းများကို ထုတ်ပေးသည်။ စစ်ရေးလေ့ကျင့်မှု ပြီးဆုံးသွား

---

၁။ Milne. Leslie (Mrs). Shans at Home. P.8.
အောင်ထွန်း(စိုင်း)၊ ၎င်းစာ၊ နှာ၊ ၆-၇။

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan P.28

သော တပ်မတော်သားတစ်ဦးစီကို နိုင်ငံတော်မှ-

(၁) သားရေခါးပတ်တစ်ခု၊

(၂) သံခမောက်တစ်လုံး၊

(၃) ကြေးဒိုင်းတစ်ခု၊

(၄) ကြံ့သားရေဖြင့် ချုပ်ထားသော အကျီတစ်ထည်၊

(၅) လှံရှည်တစ်ချောင်း၊

(၆) လေးတစ်လက်၊

(၇) ဓားလွယ်တစ်ချောင်း၊

(၈) ဘောင်းဘီနှစ်ထည်တို့ကို ထုတ်ပေးသည်။ အရံတပ်စစ်သည်တော်များအတွက် ကြံ့သားရေအစား ကျွဲသားရေဖြင့်ပြုလုပ်ထားသော ဒိုင်းမြားကို ကိုင်ဆောင်ရသည်။[၁]

မြင်းသည်တော်တပ်သားများအတွက် မြင်းစီးကျွမ်းကျင်ရေး၊ တိုက်ခိုက်ရေးစသည်တို့ကို အထူးတလည် လေ့ကျင့်ရသည် ဟုဆိုသည်။ မြင်းသည်တော်သင်တန်း ပြီးဆုံးသွားသော တပ်မတော်သားအတွက်-

(၁) မြင်းတစ်ကောင်၊

(၂) လှံရှည်တစ်လက်၊

(၃) ဓားရှည်တစ်လက်၊

(၄) ဝမ်းဗိုက်နှင့် ရင်ကိုကာကွယ်သော သံချပ်ဝတ်စုံတစ်စုံ ထုတ်ပေးသည်။

တိုက်ပွဲတွင် ဒဏ်ရာရသော တပ်မတော်သားများအား ကောင်းမွန်စွာ ပြုစုစောင့်ရှောက်ရမည်ဟု ဥပဒေတစ်ရပ်လည်း ထုတ်ပြန်ထားသည်။ တိုက်ပွဲဖြစ်ပွားစဉ် အမိန့်မရဘဲ ဆုတ်ခွါခွင့်မပြုချေ။ ဒဏ်ရာရလာလျှင်လည်း ခန္ဓာကိုယ်၏ကြောဘက်မှ ဒဏ်ရာရလျှင် မရဲရင့်၊ ရှေ့ပိုင်း

---

၁။ Milne, Leslie (Mrs). op.cit., P.8. ဘောင်ထွန်း(ဝိုင်း)၊ ၎င်း၊စာ၊ နှာ၊ ၆-၇။

မှ ဒဏ်ရာရလျှင် ရဲရင့်သည်ဟု သတ်မှတ်သည်။ သို့သော် စစ်တိုက်ခိုက်စဉ် မိမိတပ်မှ စွန့်ခွာထွက်ပြေးသော စစ်သည်များကိုကား ချမ်းသာခွင့်မပေးချေ။[၁]

## ၂း ၆ း ၂။ စီနုလို Si Nu Lo AD 679-674

စီနုလိုသည် နန်ချောင်နိုင်ငံတော်၏ ပထမဦးဆုံးဘုရင်ဖြစ်သည်။ သူ၏လက်ထက်တွင် တိုင်းသစ်ပြည်သစ် ထူထောင်စဖြစ်သဖြင့် တရုတ်တို့နှင့်ညီညွတ်အောင် နေထိုင်ခဲ့ပြီး တရုပ်ဧကရာဇ်ဘုရင် ခေါ်ဆုံ Kao Tsung နှင့် သံတမန် အဆက်အသွယ် ပြုလုပ်ခဲ့သည်။[၂] နှစ်နိုင်ငံ မဟာမိတ်ပြုလုပ်၍ စာချုပ်များ ချုပ်ဆိုခဲ့သည်။ စီနုလိုဘုရင်သည် ရှမ်းခြောက်ပြည်ထောင် တည်ထောင်သောကာလမှာ တရုတ်ထန်မင်းဆက် Htan Dynasty လက်ထက်ဖြစ်ပြီး တရုတ်ဘုရင် တိုင်းစုန် Tai Taung နတ်ရွာစံသည့်နှစ်ဖြစ်သည်။ တိဗက်ဘုရင် စရောင်ဂျန်ဂန်ဗို Srong Sam Gam Bo လည်း နတ်ရွာစံပြီး တစ်နှစ်အလွန်ဖြစ်သည်၊ ထိုအချိန်က တရုတ်နှင့်တိဘက်တို့သည် အင်အားပြိုင်ဆိုင်နေကြသည့်အချိန်ဖြစ်သည်။ အေဒီ ၆၄၁ ခုတွင် တိဗက်တို့သည် တရုတ်တို့ကို အနိုင်ရျှိး တရုတ်ဘုရင်၏ သမီးတော်တစ်ပါးကို ဆောင်ယူသွားခဲ့သည်။ နန်ချောင်နိုင်ငံတော်သည် ထိုအခွင့်ကောင်းကို အရယူ၍ နိုင်ငံတော် အင်အားတောင့်တင်းအောင် တည်ထောင်ခဲ့ခြင်းဖြစ်သည်။ နန်ချောင်ဘုရင်စီနုလိုသည် သားတော်လိုရှုန် Lo Shang ကို အိမ်ရှေ့မင်းအရာ ထားခဲ့သည်။ မိန်းဆေချောင်တွင် နန်းစိုက်၍ နန်ချောင်နိုင်ငံတော်ကို ကွပ်ကဲစီမံအုပ်ချုပ်ခဲ့ပြီး အေဒီ ၆၇၄ တွင် နတ်ရွာစံတော် မူခဲ့သည်။[၃]

၁။ Milne, Leslie (Mrs). Shans at Home. P.8. Hsen(Khur).op.cit.,p.29

၂။ Cochrane (W.W) The Shans. P.27

၃။ Hsen (Khur).The Oregin of Tais and A Short History of Shan P.30

## ၂း၆း၃ ။ လိုရှန် Lo Shang AD 674-712

စိနုလို၏ သားတော် လိုရှန်ဘုရင်လက်ထက်တွင်လည်း နန်ချောင်နိုင်ငံ အင်အားစုဆောင်းချိန်ဖြစ်၍ မည်သူနှင့် စစ်တိုက်ခိုက်မှု မပြုခဲ့ချေ။ သားတော် ရှန်လိုပီ Shang lo Pi ကို အိမ်ရှေ့မင်းသား အရာ၌ထား၍ အေဒီ ၇၁၂ ခုတွင် နတ်ရွာစံခဲ့လေသည်။[၁]

## ၂း၆း၄ ။ ရှန်လိုပီ Shang Lo Pi AD 712-729

ဘုရင်ရှန်လိုပီ လက်ထက်တွင် နန်ချောင်တပ်များသည် ပျူနိုင်ငံ သရေခေတ္တရာကို သွားရောက်တိုက်ခိုက်ခဲ့သည်။ ပျူဘုရင်မှာ စောခွေး မင်း AD 70-706 ဖြစ်သည်။ နန်ချောင်တပ်များက ပျူတို့ကို အောင်မြင်ပြီး ပျူလူမျိုးများကို နန်ချောင်တပ်မတော်အသွင်းသို့ စစ်မှုထမ်းစေခဲ့သည်။ နန်ချောင်ဘုရင် ရှန်လုပီသည် အေဒီ ၇၁၃ ခုနှစ်တွင် ကန်စူဒေသမှ ချိအန်းလူမျိုးများကို သိမ်းပိုက်ပြီး နန်ချောင်တပ်မတော် အတွက် မြင်းထိန်းကျောင်းရေးတာဝန်ကို ထမ်းဆောင်စေသည်။ ချိအန်းတို့သည် တိရစ္ဆာန်မွေးမြူရေးတွင် ကျွမ်းကျင်သူများဖြစ်သည်ဟုဆိုသည်။ နန်ချောင်ဘုရင် ရှန်လိုပီသည် သားတော်ပီလိုခို Pi Lo Ko ကို အိမ်ရှေ့မင်းသားအရာထားခဲ့ပြီး အေဒီ ၇၂၉ တွင်နတ်ရွာစံခဲ့လေသည်။[၂]

## ၂း၆း၅ ။ ပီလိုခို Pi Lo Ko AD 729-748

ခမည်းတော်ရှန်လိုပီ နတ်ရွာစံပြီးနောက် ပီလိုခိုသည် သက်တော် (၃၁) နှစ်အရွယ်တွင် ဖခင်၏ အရိုက်အရာကို ဆက်ခံသည်။ ပီလိုခို

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.30
၂။ Ibit. P.31

နန်းတက်ဘိသိက်ခံချိန်တွင် ခမည်းတော်လက်ထက်က တိုင်းပြည်ခွဲဝေပေးခဲ့သော ညီတော်နောင်တော်များကို ဖိတ်ခေါ်၍ နန်းတက်ပွဲကို တက်ရောက်စေသည်။ ပီလိုခိုသည် ညီတော်နောင်တော်များကို အဆိပ် ခပ်၍သတ်ပြီးသော် နန်ချောင်ချောက်ပြည်ထောင်ကို ဘုရင်တစ်ပါးတည်းအဖြစ် အုပ်စိုးလေတော့သည်။ ထိုနန်းတက်ပွဲသို့ မတက်ရောက်လိုက်ရသော မိဖုရားစီရှန် Tsi Sham သည် သူမ၏တိုင်းပြည်မှ စစ်သည်များကို စုဆောင်း၍ ပီလိုခိုအား တော်လှန်တိုက်ခိုက်သည်။ သို့သော် မိဖုရားသည် အင်အားမမျှသဖြင့် စစ်ရှုံးပြီး မိမိကိုယ်ကို အဆုံး စီရင်သွားရှာသည်။[၁]

လောရာဇဝင်အရ ပီလောခိုသည် သားတော် (၇) ပါးရှိသည်ဟု ဆိုသော်လည်း တရုတ်မှတ်တမ်းတွင် သားတော် (၃၀) သမီးတော် (၃၀) ရှိပြီး တိုင်းပြည်အသီးသီးသို့ အုပ်ချုပ်စေခဲ့သည် ဟုဆိုသည်။[၂]

ထိုအချိန်မှစ၍ နန်ချောင်နိုင်ငံတော်သည် စိမ်အုပ်ချုပ်ကွပ်ကဲသူတစ်ဦး တည်းနှင့် ဆောင်ရွက်လာခဲ့လေသည်။ နန်ချောင်ဘုရင်ပီလိုခိုသည် အေဒီ ၇၂၉ ခုနှစ်တွင် တိုင်းခန်းလှည့် လှည့်ကြည့်ရှုတော်မူရာဆစ်ဆောင် ပန်းနားမှတဆင့် တောင်ပိုင်းသို့ရောက်လာပြီး မိန်းတိန် (တိန်ပင်ဖူးမြို့) ကို တည်ထောင်သည်။ ပီလိုခိုသည် သားတော်ခုနှစ်ပါး (ခိုလိုဖုန်း၊ တောဝ့်ဂမ်ဖေါင်း၊ ခွန်ဖရမ်း၊ ချာတ်ချောင်၊ ချူးဆောင်း၊ ခရွမ်အင်း) ရှိပြီး အရည်အချင်းရှိသူများဖြစ်ကြ၍ တိုင်းသစ်ပြည်သစ် တည်ထောင်စေခဲ့သည်။[၃]

---

၁။ Manich. (M.L) History of Laos. P. 28

၂။ Ibit. P.31

၃။ Ibit.

## ၂း၆း၅း၁။ ပထမသားတော် ခိုလိုဖုန်း Ko Lo Feng

အေဒီ ရှစ်ရာစုတွင် ခိုလိုဖုန်းသည် လုံဖရပန်းကို တည်ထောင်သည်။ ရှေးယခင်က လုံဖရပန်းဒေသသည် ခါ Khas လူမျိုးများနေထိုင်ခဲ့ပြီး ခိုလိုဖုန်းက သွားရောက်တိုက်ခိုက်အောင်မြင်သဖြင့် လုံဖရပန်းကို တည်ထောင်သည်။ ခိုလိုဖုန်းသည် လုံဖရပန်းတွင် အုပ်ချုပ်ကွပ်ကဲပြီး ခမည်းတော် နတ်ရွာစံသောအခါ နန်ချောင်နိုင်ငံတော်သို့ ပြန်သွားခဲ့သည်။ လုံဖရပန်းကို သူ၏သားတော် ခွန်ဆဝ Khun Sawa အားလွှဲအပ်ခဲ့သည်။[၁]

## ၂း၆း၅း၂။ ဒုတိယသားတော် တောဝ်ကမ်ဖေါင်း Thao Kam Phong

ပီလိုခို၏ သားတော် တောဝ့်ကမ်ဖေါင်း (ခေါ်) စိုင်းဖေါင်း Sai Phong {လန်နားရာဇဝင်တွင် တောဝ့်ကမ်ဖေါင်းကို ရှိန်ဟိုနဝတ် Sing honawat ဟု ရေးထားသည်။} အေဒီ ၇၇၃ ခုနှစ်တွင် ခွမ် Khoms နှင့် ဝ Wa တို့ကို အောင်နိုင်ပြီး ကျိန်းရှိန်မြို့ကို တည်ထောင်သည်။ ထိုစဉ်က ခမည်းတော်ပီလိုခိုသည် တိုင်းသူပြည်သား တစ်သိန်းတို့အား တောဝ့်ကမ်ဖေါင်းနှင့် အတူလိုက်လာစေသည်ဟု ဆိုသည်။[၂]

## ၂း၆း၅း၃။ တတိယသားတော် ခွန်ဖရမ်း Khun Phalarn

သားတော် ခွန်ဖရမ်းသည် နောင်ချယ်ကို သွားရောက်အုပ်ချုပ်ရလေသည်။[၃]

---

၁။ Manich, (M.L) History of Laos. P. 31

၂။ Ibit.

၃။ Ibit.

၂း၆း၅း၄ ။ စတုတ္ထသားတော်ချက်ချောင် Chet Chaung

သားတော် ချက်ချောင်သည် ကျိန်းခွင်ကို တည်ထောင်သည်။[၁]

၂း၆း၅း၅ ။ ပဥ္စမသားတော်ချူးဆောင်း Chu Song

သားတော် ချူးဆောင်းသည် တုံကင်းကိုတည်ထောင်ပြီး အုပ်စိုးသည်။[၂]

၂း၆း၅း၆ ။ ဆဌမသားတော်ခရွမ် Krom

ခမွန်မြို့ကို တည်ထောင်သည်။ ခမွန်မြို့သည် ယခုအခါ လောနိုင်ငံနှင့် ဗီယက်နိုင်ငံ နယ်စပ်တွင် တည်ရှိပြီး "တာခိုက်"ဟု အမည်ရှိသည်။[၃]

၂း၆း၅း၇ ။ သတ္တမသားတော် အင်း In

သားတော် 'အင်း'သည် အယုဒ္ဓယကိုတည်ထောင်ပြီး အုပ်ချုပ်ခဲ့သည်။ အယုဒ္ဓယသည် အေဒီ ၁၇၈၆ ခုနှစ်တွင် ပျက်စီးခဲ့ရသည်။[၃]

အေဒီ ၇၃၇ ခုနှစ်တွင် တိဘက်နယ်မြေအချို့ကို တရုတ်တို့က သိမ်းပိုက်ခဲ့သည်။ တိဗက်တို့သည် ပီလိုခိုထံသို့ အကူအညီတောင်းဆိုလာသည်။ နန်ချောင်တပ်များ တိဘက်တို့ကို ကူညီတိုက်ခိုက်မည် စိုးရိမ်သောကြောင့် တရုတ်စစ်တပ်တို့သည် နန်ချောင်တို့ကို လက်ဦးမှုရစေရန် နန်ချောင်သို့ ချီတက်လာကြသည်။ ပီလိုခိုသည် သားတော်ခိုလိုဖုန်းအား နန်ချောင်စစ်တပ်ကို ဦးစီးစေ၍ တရုတ်တို့ကို တိုက်ခိုက်ခဲ့သည်။ တရုတ်

၁။ Manich. (M.L.) History of Laos. P. 31
၂။ Ibit.
၃။ Ibit.

တပ်များ အများအပြားကျဆုံးရပြီး နန်ချောင်တပ်ကို မခုခံနိုင်သဖြင့် အေဒီ ၇၄၅ ခုနှစ်တွင် နန်ချောင်တို့နှင့် စစ်ပြေငြိမ်းမှုကို ရယူခဲ့သည်။ နန်ချောင်ဘုရင်ပီလိုခိုနှင့် တရုတ်ဘုရင်မြင့်တီ Ming Ti တို့ လက်ထက်တွင် တရုတ်နှင့်'တိုင်း' (ရှမ်း)တို့သည် မဟာမိတ်ဖွဲ့ကြသည်။[၁]

အေဒီ ၇၃၉ ခုနှစ်တွင် ပီလိုခိုသည် တာလိဖူးဒေသ၏တောင်ဘက်၊ အန်ဟွေ့ရေအိုင်၏ အနောက်ဘက်ရှိ တာဟို Ta Ho ကို နန်ချောင်မြို့တော်အဖြစ် ပြောင်းရွှေ့လာသည်။ ယူနန်တောင်ပိုင်းရှိ မိန်းဆည်မှ ပြောင်းရွှေ့လာခြင်းဖြစ်သည်။ တရုတ်တို့နှင့် မဟာမိတ်ပြုထားသဖြင့် တရုတ်တို့သည် တိဗက်နယ်မြေဝှချန်မှ ဗီယက်နမ် အထက်ပိုင်းရှိ တုံကင်းအထိ လမ်းပန်းဆက်သွယ်မှု ဖောက်လုပ်လိုသည်။ ထိုနယ်မြေဒေသတစ်လျှောက်တွင် လောင်းတောင်း (သို့မဟုတ်) မူးဆေးလူမျိုးတို့ ရှိနေသဖြင့် တရုတ်တို့သည် ထိုဒေသကို ဖြတ်ကျော်နိုင်ရန်အတွက် နန်ချောင်ထံသို့ အကူအညီတောင်းလာသဖြင့် နန်ချောင်ဘုရင်ပီလိုခို သွားရောက်ကူညီ ရှင်းလင်းပေးရသည်။ နန်ချောင်ဘုရင်ပီလိုခိုသည် သက်တော် (၅၁) နှစ် နန်းသက် (၂၀) တွင် နတ်ရွာစံခဲ့သည်။[၂]

## ၂ း ၆ း ၆ ။ ခိုလိုဖုန်း **Ko Lo Feng AD 748-778**

ဘုရင်ပီလိုခို၏ အရိုက်အရာကို ခံယူသော နန်ချောင်ဘုရင်ခိုလိုဖုန်းသည် နန်ချောင်ဘုရင်အားလုံးတို့တွင် အထူးချွန်ဆုံး၊ အထက်မြက်ဆုံးဘုရင်တစ်ပါးဖြစ်သည်။တရုတ်တို့သည် နန်ချောင်ဘုရင် ခိုလိုဖုန်းကို လေးစားခဲ့သည့်အပြင် တောင်ပိုင်းဘုရင်တစ်ပါးအဖြစ် အသိအမှတ် ပြုခဲ့

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan PP.32-33
၂။ Ibit.

ချပြီးတရုတ်မင်းသမီး တစ်ပါးကိုလည်း လာရောက်ဆက်သခဲ့ရသည်။[၁] အေဒီ ၇၃၉ ခုနှစ်တွင် ခိုလိုဖုန်း၏ ခမည်းတော်သည် နန်ချောင်နိုင်ငံ၏ မြို့တော်ကို တာဟိုသို့ပြောင်းရွှေ့လာခဲ့ရာ အေဒီ ၇၄၈ ခုနှစ်တွင် ခိုလိုဖုန်းသည် တာဟိုမြို့တော်၏အမည်ကို "တာလီမြို့တော်" အဖြစ်ပြောင်းလဲခေါ်စေခဲ့သည်။ တရုတ်တို့ကား ထိုတာလီမြို့ကို တာလီဖူး Talifu ဟု ခေါ်ကြသည်။[၂] ခိုလိုဖုန်းသည် နန်းတက်လျှင်တက်ခြင်း တရုတ်ပြည်အနောက်ဘက်ရှိ တိဗက်တို့ကို တိုက်ခိုက်သိမ်းပိုက်သည်။ တရုတ်နယ်စပ်တာဝန်ခံများနှင့်လည်း ပဋိပက္ခဖြစ်ပွားခဲ့သည်။[၃]

တရုတ်နှင့်'တိုင်း' (ရှမ်း) လူမျိုးတို့ကွဲပြားမှုကို တရုတ်မှတ်တမ်း "Chiu T'ang Shu, Chapter 197 on Nan Cho"က ဤသို့ရေးသားထားသည်ကို တွေ့ရသည်။

ခိုလိုဖုန်း ဘုရင်ဖြစ်လာသောအခါ တရုတ်လူမျိုးတို့၏ ချန်နန် Chien Nan နယ်မြေ တာဝန်ခံသည် ဆက်ဆံရေးမပြေလည်သော ပုဂ္ဂိုလ်ဖြစ်သည့်အပြင် စိတ်တိုလွယ်သည်။ စိတ်ထားကျဉ်းမြောင်းသည့် ယူနန်နယ်မြေနှင့် ဆက်သွယ်ရသော တာဝန်ခံတိုင်ရှိ Tai Shou Prefect သည်လည်း မုသားစကားပြောတတ်သူ၊ မျက်နှာလိုမျက်နှာရ လုပ်တတ်သူဖြစ်ပြီး နယ်မြေခံ အကြီးအကဲများကို လှည့်စား တတ်သူဖြစ်သည်။ တိုင်ရှိသည် ခိုလိုဖုန်း၏ မိဖုရားနှင့်လည်း ဖောက်ပြန်ကျူးလွန်သူဖြစ်သည်။ လိုချင်သည့်အရာများကို ခိုလိုဖုန်းထံ တောင်းဆို၍ ရလျှင်နိုင်ကျူး၊ မရလျှင်ကဲ့ရဲ့တတ်သည်။ ထို့အပြင် ခိုလိုဖုန်းဘုရင်သည် ပြည်သူလူ

---

၁။ Manich. (M.L) History of Laos. P. 29

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.33

၃။ Cochrane (W.W) The Shans. P.30

ထုတို့ကို လွှန်စွာနှိပ်စက်သည်ဟု တရုတ်အကြီးအကဲများထံသို့ တင်ပြသည်။[၁] ခိုလိုဖုန်းဘုရင်သည် ဤအကြောင်းအရာများကို သိရှိသော်လည်း အစစအရာရာ သည်းခံခဲ့သည်။ သို့သော် တိုင်ရှိသည် တစ်စထက်တစ်စ လွန်ကဲလာသဖြင့် အေဒီ ၇၅၀ ခုနှစ်တွင် ခိုလိုဖုန်းသည် သူ၏စစ်သည်အချို့ကို တာဝန်ပေး၍ တိုင်ရှိကို သတ်ပစ်လိုက်လေသည်။[၂] တရုတ်တို့က ခိုလိုဖုန်း၏ စစ်သည်များကို ဖမ်းထား၏။

အေဒီ ၇၅၁ ခုနှစ်တွင် တရုတ်စစ်ဒေသမှူးသည် တရုတ်နယ်မြေလုံခြုံရေးအတွက် တရုတ်စစ်သည်များကို နန်ချောင်နယ်စပ်သို့ ပို့လာလေသည်။ ခိုလိုဖုန်းသည် ထိုတရုတ်စစ်တပ်ထံ သံတမန်စေလွှတ်ပြီး မိမိအမှားကိုဝန်ခံလျက် ဖမ်းထားသောစစ်သည်များကို လွှတ်ပေးရန် တောင်းဆိုသော်လည်း တရုတ်တို့က သံတမန်များကို ဖမ်းဆီးထားပြန်လေသည်။ ခိုလိုဖုန်းက နောက်ထပ်သံတမန်များ စေလွှတ်ခဲ့သော်လည်း တရုတ်တို့က သံတမန်များကို ထပ်မံဖမ်းဆီးထားပြန်သည့်အပြင် တရုတ်စစ်တပ်များသည် တာလိသို့ချီတက်လာလေသည်။ ပဲ့ငိုင် Pehngai တွင် စစ်ပွဲများဖြစ်ပွားခဲ့ပြီး တရုတ်တို့သည် နန်ချောင်စစ်တပ်တို့ကို မခုခံနိုင်ကြချေ။ တရုတ်စစ်သည်တို့ အများအပြား ရှုံးဆုံးခဲ့ရပြီး တရုတ်စစ်တပ်များ ဆုတ်ခွာသွားခဲ့ရသည်။ အေဒီ ၇၅၂ ခုနှစ်တွင် နန်ချောင်ဘုရင် ခိုလိုဖုန်းသည် တိဗက်တို့နှင့်မဟာမိတ်ဖွဲ့သည်။[၃] တိဗက်တို့သည်လည်း နန်ချောင်ဘုရင်ကို ရွှေတံဆိပ်တော် တစ်ခုပေးအပ်ပြီး နေမဝင်ဘုရင် Tung Ti အဖြစ် ခေါ်ဝေါ်အသိအမှတ် ပြုလေသည်။[၄]

---

၁။ တရုတ်မှတ်တမ်း Chiu Tang Shu. Chapter 197 on Nan Cho
Hsen (Khur). The Oregin of Tais and A Short History of Shan. P.34

၂။ Cochrane (W.W) The Shans. P.30

၃။ Ibit.

၄။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.35

ပုံငိုင်တွင်တရုတ်တို့ကို တွန်းလှန်တိုက်ခိုက်အောင်နိုင်သည့် အထိမ်းအမှတ်အဖြစ် သူ၏နန်းတော်တွင် အောက်ပါအတိုင်း ကျောက်စာတိုင်တစ်ခု ရေးထိုးစိုက်ထူထားလေသည်။

"ငါ၏ ရှေးအမျိုးအနွယ်တော်များသည် တရုတ်တို့၏ လက်အောက်ခံဘဝသို့ ရောက်ခဲ့ရ၏။ တရုတ်တို့ပေးကမ်းခဲ့သော ဘွဲ့တံဆိပ်အဆောင်အယောင်များကိုလည်း ထပ်တလဲလဲ ရခဲ့ကြ၏။ငါ့အားနောက် နောင်ဆက်ခံသူများသည် ထိုအစဉ်အလာကို ပြောင်းလဲပါ။ ငါခွင့်ပြုလိုက်ပါပြီ။ အကယ်၍ တရုတ်သံများ ရောက်ရှိလာပါက ဤကျောက်စာတိုင်ကို ညွှန်ပြပြီး ငါသာလျှင် တရားခံဖြစ်ပါစေတော့၊ လက်အောက်ခံဖြစ်တိုင်း ဖိနှိပ်ချုပ်ချယ်ခံရခြင်း မဖြစ်စေအပ်"။[၁]

အေဒီ ၇၅၃ ခုနှစ်တွင် တရုတ်စစ်သူကြီး လီမိ Li Mi သည် တရုတ်စစ်သည် တစ်သိန်းကို ဦးစီးပြီး နန်ချောင်ဘုရင်ကို ဆုံးမရန်အတွက် တာလီသို့ ချီတက်လာသည်။ နန်ချောင်စစ်တပ်များသည်လည်း ရှုပ်ရှုပ်ချွံချွံ ခုခံတိုက်ခိုက်သဖြင့် တရုတ်တပ်မတော်ကြီး ပျက်စီးခဲ့ရပြီး ပြန်လည် ဆုတ်ခွာသွားရလေသည်။ တရုတ်တပ်သား (၁၀၀)တွင် အယောက်(၉၀) သေဆုံးရသည်ဟုဆို၏။[၂]

အေဒီ ၇၅၅၊ ၇၅၆ ခုတွင် တရုတ်ပြည်အနောက်ပိုင်းရှိ တာ့ခ် Turk လူမျိုးတို့၏ ခေါင်းဆောင် အန်လူရှန် An Lu Shan သည် တရုတ်တို့ကို ပုန်ကန်ကြသည်။ နန်ချောင်ဘုရင်ခိုလိုဖုန်းသည် တရုတ်ပြည်အတွင်းရှိ ဆွီချိ Sui Chou၊ ဟွေတုံ Hui Tung ကို တိုက်ခိုက်သိမ်းပိုက်ခဲ့သည်။ အနောက်ပိုင်းဒေသတွင်လည်း ယွန်ချွန် Hsun

---

၁။ Cochrane (W.W) The Shans. P.30

၂။ Ibit.

Chuan လူမျိုးများကို အောင်မြင်ခဲ့သည်။ ခိုလိုဖုန်းသည် ယူနန်နယ် အထက်ပိုင်းကို သိမ်းပိုက်နိုင်ခဲ့ပြီးနောက် တိဗက်တို့နှင့် အဆက်အသွယ် လုပ်နိုင်ရန် အနောက်ဘက်သို့ စစ်မျက်နှာဖွင့်ပြန်သည်။ နန်ချောင်နိုင်ငံ တော်၏ ထောက်ပံ့ရေးအတွက် အနောက်တောင်ဘက် သို့လည်း နယ်မြေ ချဲ့ထွင်ခဲ့သည်။[၁] ခိုလိုဖုန်းလက်ထက်တွင် နန်ချောင်ရှမ်းများ၏ စွမ်းရည် သတ္တိနှင့် စည်းလုံးညီညွတ်မှု စသည်တို့ကြောင့် ကျူးကျော်လာသော တရုတ်တပ်များကို တွန်းလှန်တိုက်ခိုက်ရာ ကျဆုံးရသော တရုတ်တပ် သားများ၏ အရေအတွက်သည် နှစ်သန်း (၂,၀၀၀, ၀၀၀) ထက်မလျော့ ဟုဆိုသည်။ တရုတ်တို့ထံမှ မြို့ရွာ ၃၂ ခုကို သိမ်းပိုက်နိုင်ခဲ့သည်။[၂]

အေဒီ ၇၅၄-၇၆၃ ခုနှစ်တွင် နန်ချောင်တပ်မတော်သည် မြန် မာပြည်မြောက်ပိုင်းရှိ တောင်ပိုင်းတိုင်းရင်းသားများကို သိမ်းသွင်းခဲ့သည်။ ပူတာအိုတွင် နန်ချောင်တပ်များ တစ်နှစ်တပ်စွဲခဲ့သည်။ ကချင်ပြည်နယ် နှင့်ချင်းတောင်တို့တွင်လည်း ထိုစဉ်ကတည်းက ရှမ်းလူမျိုးများ ရောက်ရှိ နေကြပြီးဖြစ်သည်။ နန်ချောင်တပ်သည် ပူတာအိုမှ မေခမြစ်အတိုင်း ဆန်တက်ကာ ဂေါင်တိုင် Kuang Tang ရေခဲတောင်ခြေအထိ တပ် စခန်းများ ချသွားခြင်းသည် တိဗက်တို့နှင့် အဆက်အသွယ်ပြုနိုင်ရန် ဖြစ်သည်။[၃]

ထိုအချိန်သည် သရေခေတ္တရာခေတ်ဖြစ်၍ ထွန်တွန်းမင်းသည် ပျူလူမျိုးတို့၏ ဘုရင်ဖြစ်သည်။ တိဗက်တို့နှင့် လွယ်ကူစွာ ဆက်သွယ်နိုင် ရန်အတွက် နန်ချောင်သည် ပျူနိုင်ငံနှင့် နန်ချောင်နိုင်ငံတို့ ဆက်သွယ် မိခဲ့ကြရ၏။ ဆက်သွယ်မိသည် ဆိုရာ၌ ပျူတို့သည်ဉာဏ်အားကြီးမားသော

၁။ Cochrane (W.W) The Shans. P.30

၂။ Milne. Leslie (Mrs). Shan at Home. P.28

၃။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.36

နန်ချောင်တို့၏ လွှမ်းမိုးကြီးစိုးခြင်းကို ခံရခြင်းပင်ဖြစ်သည်။ တိဗက်နှင့်နန်ချောင်တို့ ဆက်သွယ်ခြင်းအားဖြင့် ပျူတို့၏ သမိုင်းစဉ်ကို များစွာပြောင်းလဲစေခဲ့လေသည်။ နန်ချောင်တပ်တို့တွင် အတင်းသိမ်းသွင်းထားသော ပျူစစ်သည်အများအပြားပါဝင်ခဲ့သည်။[၁]

ခိုလိုဖုန်းလက်ထက်တွင် ပျူနိုင်ငံသည် နန်ချောင်နိုင်ငံသို့ အခွန်ပဏ္ဏာဆက်သရသော နိုင်ငံဖြစ်ခဲ့သည်။ မြန်မာနိုင်ငံအလယ်ပိုင်းနှင့် မြောက်ပိုင်းဒေသအထိ နန်ချောင်တို့၏ တန်ခိုးသြဇာလွှမ်းမိုးခဲ့သည်။ ခိုလိုဖုန်း၏ လက်ရုံးတစ်ဆူဖြစ်သော သားတော် ဖုန်းကျောက်ယိသည် အေဒီ ၇၆၃ ခုနှစ်တွင် ချေတုံ Che Tung စစ်ခံတပ်မြို့ကို တည်ထောင်ခဲ့သည်။ ဖုန်းကျောက်ယိသည် ခမည်းတော်ခိုလိုဖုန်းထက် စောရ၍ ကွယ်လွန်ခဲ့သဖြင့် ရှင်ဘုရင်အရိုက်အရာကို မခံရချေ။ ထို့ကြောင့် ခိုလိုဖုန်းသည် ဖုန်းကျောက်ယိ၏သားဖြစ်သူ ယိမွန်ဆွန် Imousun ကို အိမ်ရှေ့မင်း အရာခန့်ထားခဲ့လေသည်။[၂]

ခိုလိုဖုန်းသည် ချောမောလှပသော သမီးတော်တစ်ယောက် ရှိသည်။ အေဒီ ၆၇၄ ခုနှစ်တွင် သမီးတော်ပပ္ပဝတီကို အနယ်နယ်အရပ်ရပ်သော မင်းညီမင်းသားများက လာရောက်တောင်းဆိုခဲ့သဖြင့် နန်ချောင်ဘုရင်ခိုလိုဖုန်းသည် အရည်အချင်းရှိသော ခွန်တောင်ခမ်းကို အပ်နှင်းပေးခဲ့သည်။ ခွန်တောင်းခမ်းကိုလည်း မိန်းမော (မောရှမ်းပြည်)၏ စော်ဘွားအဖြစ် ခန့်အပ်ပေးလေသည်။ အေဒီ ၇၇၈ ခုနှစ်တွင် နန်ချောင်ဘုရင်ခိုလိုဖုန်းသည် နတ်ရွာစံခဲ့လေသည်။ ခိုလိုဖုန်းဘုရင်သည် နတ်ရွာစံသွားသည်အထိ တရုတ်တို့နှင့် အဆက်အသွယ်မလုပ်ခဲ့ချေ။[၃]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၇၊ ပျူလူမျိုး၊ နှာ၊ ၉၂။

၂။ Cochrane (W.W) The Shans, P.32.

၃။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.36.

## ၂း၆း၇ ။ ယိမွန်ဆွန် I Mou Sun Yi Mon Son AD 778-808

ခိုလိုဖုန်းနတ်ရွာစံပြီးသည့်နောက် ၎င်း၏မြေးဖြစ်သူ ယိမွန်ဆွန် နန်းတက်လာသည်။ ယိမွန်ဆွန် နန်းတက်စတွင် တရုတ်နှင့်တိဗက်တို့သည် ယိမွန်ဆွန်ကို လွန်စွာအထင်သေးခဲ့သည်။ ယိမွန်ဆွန်သည် နန်ချောင်ထီးနန်းကို (၁၆) နှစ်အထိ အုပ်စိုးလာသော်လည်း တရုတ်တို့နှင့် အဆက်အသွယ် မလုပ်ခဲ့ချေ။ တိဗက်တို့နှင့်သာ ဆက်သွယ်ခဲ့သည်။ အေဒီ ၇၇၉ ခုနှစ်တွင် နန်ချောင်နှင့် တိဗက်တို့ ပူးပေါင်းပြီး စစ်သည်အင်အား (၂၀၀၀၀၀) ဖြင့် တရုတ်တို့အား စစ်မျက်နှာသုံးခုဖွင့်၍ တိုက်ခိုက်သည်။ ယိမွန်ဆွန်၏ ရည်ရွယ်ချက်သည် သျှုနယ် Shuh ကို နန်ချောင်အင်ပါယာ၏ နယ်ခြားအဖြစ် သတ်မှတ်ရန်ဖြစ်သည်။[၁] ထိုတိုက်ပွဲတွင် တရုတ်တို့များစွာ ဆုံးရှုံးခဲ့ရသည်။

စစ်နိုင်၍ ရရှိလာသော လက်နက်ပစ္စည်းများအားလုံးကို တိဗက်တို့သည် သူတို့နိုင်ငံသို့ ယူဆောင်သွားခဲ့သည်။ စစ်နိုင်သည့်နယ်မြေမှ အခွန်တော်များကိုလည်း တိဗက်တို့ကသာ တိဗက်ပြည်သို့ ယူဆောင်သွားခဲ့သည်။ တရုတ်ဘုရင် တေစုန် Te sung သည် နေပြည်တော်မှ အထူးစစ်သည်တော်များ စေလွှတ်၍ နန်ချောင်တို့ကို လာရောက်တိုက်ခိုက်စေသည်။ တိဗက်တို့သည် ထိုတိုက်ပွဲတွင် နန်ချောင်တို့အား ဝင်ရောက်ကူညီခြင်း မရှိသဖြင့် နန်ချောင်စစ်သည်တော်များ အများအပြား ကျဆုံးခဲ့ရသည်။[၂]

ယိမွန်ဆွန်စစ်အင်အားသည် ယခင်ကထက် ယုတ်လျော့လာသဖြင့် တိဗက်တို့သည် နန်ချောင်အပေါ် မလေးမခန့် ပြုလာကြသည်။[၂]

---

၁။ Cochrane (W.W) The Shans. P.32.

၂။ Ibit.ob.cit.P.33.

နန်ချောင်စစ်သည် အများအပြားကိုလည်း၊ တိဗက်နယ်စပ်လုံခြုံမှု အတွက် စောင့်ရှောက်စေသည်။ နန်ချောင်ပိုင် နယ်အတွင်းတွင်လည်း အခွန်များ လာရောက်ကောက်ခံကြသည်။ ယိမွန်ဆွန်သည် တိဗက်တို့ ဗိုလ်ကျမှုအပေါ် မခံချင်သော်လည်း ဘိုးတော်ဖြစ်သူခိုလိုဖုန်းက "တရုတ်တို့နှင့်အဆက်အသွယ် မလုပ်ရ" ဟူသော ကျောက်စာတော်ကြောင့် တရုတ်တို့နှင့် ဆက်သွယ်၍လည်းမသင့်၊ တိဗက်တို့နှင့် မသင့်မမြတ်ဖြစ်မည်ကိုလည်း မလိုလားပေ။ တိဗက်တို့၏ ဖိနှိပ်မှု၊ မတရားမှုကိုလည်း မခံလိုပေ။ ယိမွန်ဆွန်သည် တိဗက်တို့အပေါ် အမြင်မကြည်မှုများ တဖွားဖွား ပေါ်ပေါက်လာတော့သည်။[၁]

တရုတ်တို့သည် နန်ချောင်နှင့်တိဗက်တို့ သိမ်းပိုက်ထားသော နယ်မြေများကို ပြန်လည်သိမ်းပိုက်နိုင်ခဲ့သည်။ ထိုနယ်မြေတွင် တရုတ်စစ်သူကြီးဝေကော Wei kao တာဝန်ယူရသဖြင့် ဝေကောသည် ယိမွန်ဆွန်၏ တိဗက်အပေါ် စိတ်မကြည်မှုကို သိရှိလေသည်။ အေဒီ ၇၈၇ ခုနှစ်တွင် ဝေကောသည် ယိမွန်ဆွန်ထံသို့ တိတ်တဆိတ်ဆက်သွယ် ခဲ့သည်။ တိဗက်တို့သည် ထိုအကြောင်းကိုသိ၍ ယိမွန်ဆွန်အား သံသယရှိလာသဖြင့် နန်ချောင်အတွင်းဝန်၏သားကို ဓားစာခံအဖြစ် တိဗက်သို့ ခေါ်ဆောင်သွားသည်။ ယိမွန်ဆွန်သည် တိဗက်တို့အပေါ် ပိုမို၍ စိတ်ထိခိုက်လာသည်။ ထို့ကြောင့် ယိမွန်ဆွန်သည် တရုတ်ဘုရင်ထံ သံတမန်စေလွှတ်၍ အဆက်အသွယ်ပြုလုပ်ခဲ့သည်။[၂]

ဝေကော၏ ဆက်သွယ်မှုကြောင့်လည်းကောင်း၊ ယိမွန်ဆွန်အား တရုတ်စာသင်ပေးသော ငယ်ဆရာဖြစ်သူ ချဲန်ဟွေ Cheng Hui၏ နားချမှုကြောင့်လည်းကောင်း ယိမွန်ဆွန်သည် အေဒီ ၇၉၄ ခုနှစ်တွင်

၁။ Cochrane (W.W) The Shans. P.33

၂။ Ibit.

တရုတ်နှင့် စစ်ပြေငြိမ်းရေး စာချုပ်ကို တာလီမြို့မြောက်ဘက်ရှိ တိန်ချွန် Tien Chuanဌ် ချုပ်ဆိုခဲ့သည်။[၁]

ထိုစာချုပ်အရ-

- တရုတ်ဘုရင်သည် ယိမွန်ဆွန်အား နန်ချောင်ဘုရင်အဖြစ် အသိအမှတ်ပြုရ၏။
- ယိမွန်ဆွန်အား ရွှေတံဆိပ်တော်တစ်ခုအားပေးအပ်၏။
- ထိုစာချုပ်အရ တရုတ်နှင့် 'တိုင်း'(ရှမ်း)တို့၏ ရန်သူဖြစ်သော တိဗက်ကို ပူးပေါင်းနှိမ်နင်းရန် သဘောတူ၏။
- တရုတ်ပြည်အတွင်း ပုန်ကန်နေကြသော တရုတ်လက်အောက် ခံနိုင်ငံများကို နှိမ်နင်းရန် နန်ချောင်ဘုရင်က သဘောတူ၏။

ထိုစာချုပ်ကို လေးမူပွား၍

- တစ်မူကို ကျောက်စေတီ၌ ဌာပနာခဲ့သည်။
- တစ်မူကို ရေထဲသို့ထားသည်ဟုဆိုရာ၌ တာလီရေကန် ဟုတ် မဟုတ်မသိနိုင်။
- တစ်မူကို မိဘဘိုးဘွားများ၏ သချိုင်းဂူတွင် ထည့်ထားသည်။
- ကျန်တစ်မူကို တရုတ်ဘုရင်ထံသို့ ပို့ခဲ့သည်ဟုဆိုသည်။[၂]

တိဗက်ကိုတိုက်ခိုက်ရန်အတွက် တရုတ်တပ်များ နယ်စပ်သို့ စေလွှတ်ရန်လည်း ယိမွန်ဆွန်က တရုတ်ဘုရင်ထံ လျှို့ဝှက်စာပို့ခဲ့သည်။ အာရှတိုက်၏ အလယ်ပိုင်း ဟွေဂူ Uiguor ဒေသအပါအဝင် တိဗက်တို့နေရာအားလုံးကို တိုက်ခိုက်နိုင်ရန်၊ တရုတ်တို့က မြောက်ပိုင်းနှင့် အရှေ့ပိုင်း တာဝန်ယူရန်၊ နန်ချောင်က အရှေ့တောင်မှနေ၍ တိဗက်တို့ကို တိုက်ခိုက်

---

၁။ Cochrane (W.W) The Shans. P.33.

၂။ Milne. Leslie (Mrs). Shan at Home. PP.10-11

ပါက တိဗက်တို့ အရေးနိမ့်မည်ဖြစ်ကြောင်း ထိုလျှို့ဝှက်ချက်ကို ပြောခဲ့သည်။

တိဗက်ကို တိုက်ခိုက်ရန် ရည်ရွယ်ချက်ရှိသဖြင့် ယီမွန်ဆွန်သည် ယူနန်နယ်အနောက်ပိုင်းရှိ တိဗက်နှင့်ရင်းနှီးသော ဝန်ဝေ့ Wang Wai Yu အုပ်စုနှင့် ဝန့်ချူ Wang Chu လူမျိုးတို့ကို ယူနန်အရှေ့ မြောက်ဘက် ချေတုန် Che Tung သို့ ပြောင်းရွှေ့စေခဲ့သည်။

အေဒီ ၇၉၄ ခုနှစ်တွင် ယီမွန်ဆွန်ညွှန်ကြားသည့်အတိုင်း တရုတ်စစ်တပ်များ တိဗက်နယ်စပ်သို့ ရောက်လာပြီး တရုတ်တို့နှင့် တိဗက်စစ်မြေကြရာ တိဗက်တို့အထိနာခဲ့ကြသဖြင့် တိဗက်တို့သည် ယီမွန်ဆွန်ထံ စစ်ကူ(၁၀၀၀၀) ပို့ပေးရန် တောင်းခံလာသည်။ ယီမွန်ဆွန်သည် တိဗက်တို့ကို ကူညီရန်ရှေ့ပြေးတပ် သုံးထောင်လွှတ်ပေးပြီး သူကိုယ်တိုင် ထိုရှေ့ပြေးတပ်သို့ မီအောင်လိုက်၍ ရှန်ချောင် Shen Chuan သို့ရောက်သောအခါ ယီမွန်ဆွန်သည် တိဗက်ကိုမကူညီတော့ပဲ သူ၏ တပ်မတော်ဖြင့် တိဗက်တို့ကို တိုက်ခိုက်လေတော့သည်။ တိဗက်တို့ အငိုက်မိသဖြင့် အထိနာခဲ့ရသည်။ တိဗက်မှ တရုတ်ပြည်သို့ ဖြတ်ကူးရာ အဓိကတံတားဖြစ်သော ထင်ချောင် Treh Chiao တံတားကိုလည်း ယီမွန်ဆွန်တို့ ဖျက်ဆီးပစ်လိုက်သည်။ ယီမွန်ဆွန်တပ်များသည် တိဗက်မြို့ (၁၆) မြို့ကို သိမ်းပိုက်နိုင်ခဲ့သည်။ တရုတ်တို့ တိုက်ခိုက်မှုကြောင့်လည်း တိဗက်တို့ အကျအဆုံးများသဖြင့် တိဗက်တို့ အင်အားယုတ်လျော့ခဲ့ရလေတော့၏။[၃]

ယီမွန်ဆွန်သည် တရုတ်နှင့်ပူးပေါင်းလိုက်သောကြောင့် သူ၏နိုင်ငံ အတွင်း တရုတ်ကို မလိုလားကြသော ပုဂ္ဂိုလ်များကိုလည်း လိုက်လံရှင်းလင်းခဲ့ရသည်။ နိုင်ငံတော်တစ်စိတ်တဝမ်းတည်းဖြစ်စေရန် အတွက်

၁။ Cochrane (W.W) The Shans. P.35

၂။ Hsen (Khur), The Oregin of Tais and A Short History of Shan P.42

၃။ Cochrane (W.W) The Shans. P.35

စည်းရုံးရေးများ ပြုလုပ်ရသည်။ ယိမွန်ဆွန်သည် ရှမ်းပြည်မြောက်ပိုင်း သိန္နီနယ်အထိ ရောက်လာခဲ့သည်။[၁]

အေဒီ ၇၉၉ ခုနှစ်တွင် ယိမွန်ဆွန်နှင့်တရုတ်ပူးပေါင်း၍ တိဗက်တို့ကို တိုက်ခိုက်ရန် စီမံကိန်းချမှတ်ခဲ့သည်။ အေဒီ ၈၀၀ ခုနှစ်တွင် တိဗက်တို့သည် စစ်သည်အင်အား (၈၀၀၀) နှင့် နန်ချောင်နိုင်ငံကို လာရောက်တိုက်ခိုက်သည်။ အေဒီ ၈၀၂ ခု (၂) နှစ်ကြာသည်အထိ မည်သူမျှ မည်သူ့ကို အနိုင်မတိုက်နိုင်ခဲ့ချေ။[၂] အေဒီ ၈၀၂ ခုနှစ်တွင် တရုတ်နှင့် အွေဂါး Uigur Turks တို့က တိဗက်ပြည်၏ အနောက်ဘက်ကို တိုက်ခိုက်အောင်မြင်သည်။[၃]

ယိမွန်ဆွန်က တိဗက်ပြည်ထဲသို့ ဝင်ရောက်တိုက်ခိုက်နိုင်ပြီး တိဗက်စစ်စခန်း (၁၅၀) တို့ကို ဖျက်ဆီးနိုင်ခဲ့၍ တိဗက်စစ်သား(၁၀၀၀၀) တို့ကို ခေါင်းဖြတ်နိုင်ကြသည်။ စစ်သုံ့ပန်း (၁၅၀၀၀) ဖမ်းဆီးရသည်။ တရုတ်တို့က တိဗက်စစ်သုံ့ပန်း (၂၀၀၀၀) ဖမ်းဆီးရမိသဖြင့် တိဗက်တို့ သည် အင်အားယုတ်လျော့ခဲ့ရလေတော့သည်။ ဤတိုက်ပွဲတွင် နန်ချောင် တို့က တိဗက်တို့၏ အချက်အချာကျသောမြို့တို့ကို တိုက်ခိုက်နိုင်ခဲ့သည့် အတွက် တရုတ်တို့က ယိမွန်ဆွန်အား လွန်စွာချီးကျူးခဲ့လေသည်။[၄] တရုတ်တို့အား မကြာခဏထိပါးလာသော တူရကီတို့နှင့်တိုက်ခိုက်ရာ နန်ချောင်ဘုရင် ယိမွန်ဆွန်သည် အာကြီးမာန်တက်ရှိလှသဖြင့် တရုတ် ဘုရင်က များစွာဂုဏ်ပြု ချီးကျူးခဲ့သည်။[၅]

---

၁။ Cochrane (W.W) The Shans. P.35

၂။ Milne, Leslie (Mrs). Shan at Home. P.13

၃။ Cochrane (W.W) The Shans. P.36

၄။ Milne. Leslie (Mrs). Shan at Home. P.13

၅။ Ibit.

နန်ချောင်ဘုရင် ယီမွန်ဆွန်သည် တိုင်းရေးပြည်ရာတွင် လိမ္မာပါးနပ်သော၊ အကြောင်းအကျိုးကို သိမြင်ဆင်ခြင်တတ်သော ပုဂ္ဂိုလ်ဖြစ်သည်။ ပြည်တွင်းစည်းလုံးညီညွတ်မှု မပျက်ပြားအောင်လည်း အခက်အခဲအကြားမှ ထိန်းသိမ်းသိမ်းသိမ်း စွမ်းဆောင်နိုင်သောပုဂ္ဂိုလ်ဖြစ်သည်၊ စည်းစနစ်ကို လျှော့နံ့မားထစ်သဘော မထားဘဲ အခြေအနေကိုကြည့်၍ အကျိုးရှိအောင်စီမံခန့်ခွဲတတ်သော ရှင်ဘုရင်တစ်ပါးဖြစ်သည်။ အေဒီ ၈၀၈ ခုနှစ်တွင် နတ်ရွာစံခဲ့ပြီး သားတော်အိမ်ရှေ့မင်း ဆွန်ခေးခွမ်နန်းတက်လေသည်။ နန်ချောင်ဘုရင်ယီမွန်ဆွန် နတ်ရွာစံသည့် သတင်းကိုကြားသိရသောအခါ တရုတ်ဘုရင်သည် များစွာဝမ်းနည်းကြောင်း သဝဏ်လွှာပို့ခဲ့၏။ တရုတ်ဘာသာရေးဌာနဆိုင်ရာ ဝန်ကြီးများအား ဦးဆောင်စေ၍ နန်ချောင်ဘုရင်ယီမွန်ဆွန်၏ သင်္ဂြိုဟ်သည့် အခမ်းအနားကို တက်ရောက်စေခဲ့သည်။[၁]

## ၂း ၆ း၈ ။ ဆွန်ခေးခွမ် Uhsun Ko Kon AD 808-809

ဆွန်ခေးခွမ်သည် နန်ချောင်ဘုရင်တစ်နှစ်သာ ဖြစ်ခဲ့ရပြီး နတ်ရွာစံသွားခဲ့ရသည်။ သားတော်သုံးပါး (ခွမ်လောရှိန်၊ ခွမ်လီ၊ ခွမ်ဖုန်းယု) ထွန်းကားခဲ့သဖြင့် သားတော်အကြီး ခွမ်လောရှိန်ကို အိမ်ရှေ့မင်းသားအဖြစ်ခန့်အပ်ခဲ့သည်။[၂]

## ၂း ၆ း၉ ။ ခွမ်လောရှိန် Kon Lo Sen AD 809-816

ခွန်လောရှိန်၏ လက်ထက်တွင် တိဗက်တို့နှင့် နိုင်ငံရေးဆက်ဆံမှု တင်းမာခဲ့သည်။ သို့သော် တိဗက်တို့၏ အင်အားမှာကား

---

၁။ Milne. Leslie (Mrs). Shan at Home. P.13

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.42

တဖြည်းဖြည်း ယုတ်လျော့လာစပြုနေသည်။ ခွမ်လောရှုန်သည် အေဒီ ၈၁၆ ခုနှစ်တွင် နတ်ရွာစံသွားခဲ့ရသည်။ သားတော်မထွန်းကားသဖြင့် ညီတော် ခွမ်လီသည် ထီးမွေနန်းမွေဆက်ဆံသည်။[၁]

## ၂း၆း၁၀။ ခွမ်လီ Kon Li AD 816-824

ခွမ်လီလက်ထက်တွင် တိဗက်တို့သည် အင်အားယုတ်လျော့နေပြီဖြစ်သဖြင့် အေဒီ ၈၂၂ တွင် တိဗက်သည် တရုတ်တို့နှင့်မဟာမိတ်ပြုခဲ့သည်။ နန်ချောင်နိုင်ငံတော်သည် မည်သူကိုမျှ အနိုင်မခံ အရှုံးမပေးဘဲ တစ်နိုင်ငံတည်းအဖြစ် ဆက်လက်ရပ်တည်ခဲ့လေသည်။ အေဒီ ၈၂၄ ခုနှစ်တွင် ခွမ်လီဘုရင် နတ်ရွာစံခဲ့သည်။ သားတော်မထွန်းကားခဲ့သဖြင့် ညီတော် ခွမ်ဖုန်းယုသည် ထီးနန်းဆက်ခံသည်။[၂]

## ၂း၆း၁၁။ ခွမ်ဖုန်းယု Kon fon Yu AD 824-859

နန်ချောင်ဘုရင်ယီမွန်ဆွန် နတ်ရွာစံပြီးနောက်ပိုင်း တရုတ်နှင့် နန်ချောင်တို့၏ ဆက်ဆံရေးမှာ ပျက်ပြားလာခဲ့သည်။ အေဒီ ၈၂၉ ခုနှစ်တွင် နန်ချောင်စစ်သူကြီးလုံတုံ Lung Tung သည် နန်ချောင်တပ်မတော်ကို ဦးစီး၍ တန်နိုင်ငံ၏ ပိုင်နက်ဖြစ်သော စူချွန်ကိုသိမ်းပိုက်ပြီး စူချွန်ဒေသ၏ အဓိကမြို့ဖြစ်သည့် ချင်တူ Cheng Tu မြို့ကို သိမ်းပိုက်နိုင်ခဲ့သည်။ ထိုနယ်များမှ လက်မှုပညာသည်များကို ဖမ်းဆီးခေါ်ဆောင်လာပြီး တောင်ပိုင်းသို့ ပြန်ဆင်းလာခဲ့သည်။ ထိုခေတ်တွင် နန်ချောင်လက်မှုပညာသည် တရုတ်ထက် အဆင့်အတန်း မနိမ့်ကျကြောင်း တွေ့ရှိရသည်။ တရုတ်ပြည်နယ်အချို့ကို သိမ်းသွင်းပြီး နန်ချောင်ဘုရင်

---

၁။ Hsen (Khur), The Oregin of Taís and A Short History of Shan. P.42

၂။ Ibit.

သည် တုန်ကင်းအရပ်ဒေသကို ဆက်လက်၍ တိုက်ခိုက်သိမ်းပိုက်ကြောင်း သိရှိရသည်။[၁] ထို့နောက် တိဗက်နှင့်တရုတ်တို့သည် နန်ချောင် အပေါ် မလေးမခန့်မှုများ လျော့ပါးသွားလေသည်။

၂ း ၆ း ၁၁ း ၁ ။ ဗျူနိုင်ငံနှင့် မိနော၊မိချဲန်းနိုင်ငံကို တိုက်ခိုက်ခြင်း

ပျူနိုင်ငံသည် အေဒီ ၇၁၃ ခုမှစ၍ အေဒီ ၈၀၈ အထိ နန်ချောင် တို့အား အခွန်ပဏ္ဏာ ဆက်သလာခဲ့ရသော နိုင်ငံဖြစ်သည်။ ယိမွန်ဆွန် နတ်ရွာစံပြီးနောက် လာရောက်ဆက်သခြင်း မရှိတော့ချေ။ နန်ချောင် ဘုရင် ခွမ်ဖုန်းယုသည် နိုင်ငံတော်အင်အား တောင့်တင်းခိုင်မာစေရန် အတွက်လည်းကောင်း ပျူနိုင်ငံမှ အင်အားကို ရယူနိုင်ရန်အတွက်လည်း ကောင်း အေဒီ ၈၃၂ ခုနှစ်တွင် ပျူနိုင်ငံကို ပစ်မှတ်အဖြစ် သတ်မှတ်လိုက် သည်။[၂]

အေဒီ ၈၃၂ ခုနှစ်တွင် နန်ချောင်တို့သည် ရွှေဘိုနယ်အတွင်းရှိ ပျူမြို့တော်ကို တိုက်ခိုက်သိမ်းယူပြီးနောက် ၃၀၀၀ ကျော်သော ပျူစစ်သုံ့ ပန်းတို့ကို ဖမ်းဆီးယူဆောင်သွားပြီးလျှင်၊ ယခု ယူနန်ဖူမြို့အရပ်၌ ထားလေသည်။[၃] ထိုခေတ်ကပျူနိုင်ငံဟု ယူဆရသော မိချဲန်နိုင်ငံမှာလည်း ပျူတို့တွေ့ခဲ့ရသော ကံကြမ္မာမျိုးကို ရင်ဆိုင်ခဲ့ကြပြန်၏။ နန်ချောင်တို့သည် ထောင်ပေါင်းများစွာသော မိချဲန်နိုင်ငံသူနိုင်ငံသားတို့ကို ဖမ်းဆီး၍ ဧရာဝတီမြစ်ဖျားဒေသတို့တွင် ရွှေကျင်ရန် ခေါ်ဆောင်သွားခဲ့သည်၊[၄] (မိနော၊မိချဲန်းနိုင်ငံ Mino & Mi Chen Kingdom သည် ယခု

---

၁။ Milne, Leslie (Mrs). Shan at Home. P.13

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan. PP.44-45.

၃။ မြန်မာ့စွယ်စုံကျမ်း အတွဲ ၇၊ ပျူလူမျိုး၊ နှာ ၉၄။

၄။ မြန်မာ့စွယ်စုံကျမ်း အတွဲ ၁၀၊ မြန်မာလူမျိုး၊ နှာ ၃၄၆။

ယိုးဒယားနိုင်ငံတွင် တည်ရှိသည်) နန်ချောင်တပ်မတော်သည် ချီအန် ဟုခေါ်သော ရှေးမြန်မာမြင်းသည်ကျော်၊ စစ်သည်ကျော်များလည်း ပါဝင် လာကြသည်။ မွန်နှင့်ပျူနိုင်ငံ ပျက်သုဉ်း၍ တိုင်းပြည်အတွင်း ကစဉ့် ကလျားဖြစ်နေချိန်၌ 'ချီအန်' ခေါ် ရှေးမြန်မာတို့သည် ရှမ်းပြည်မြောက် ပိုင်းဒေသကို ဖြတ်ကာ ကျောက်ဆည်ခရိုင်၏ အရှေ့တောင်ထောင့်ရှိ နတ်ထိပ်တောင်ကြားလမ်းအတိုင်း မြင်းတပ်များဖြင့် ကျောက်ဆည်ခရိုင် ကို ဝင်ရောက်သိမ်းပိုက်ခဲ့ဟန်တူသည်။ တစ်ချိန်တည်းလောက်မှာပင် အခြားစစ်ကြောင်း တစ်ခုသည် တောင်ဖက်သို့ ချီတက်၍ အခြားစပါးကျီ တစ်ခုဖြစ်သော မင်းဘူးနယ်ကို သိမ်းပိုက်ခဲ့ဟန်တူ၏။ အခြားစစ်ကြောင်း တစ်ခုကမူ မြောက်ဖက် မန္တလေးခရိုင်တောင်ပြုံးနယ်သို့ ချီတက် တပ်စွဲ ခဲ့ဟန်တူသည်။[၁] ရှစ်ရာစုကုန်လုနီးတွင် မြန်မာလူမျိုးများသည် တစိမ့်စိမ့် မြန်မာနိုင်ငံ အတွင်းသို့ ရွှေ့ပြောင်းလျက် နောက်ပိုင်းတွင် တိုင်းပြည်တည် ထောင်ကြသည်ဟု ယူဆဖွယ်ရာရှိပေသည်။[၂]

၂း ၆ း ၁၁ း ၂ ။ ဟရိပုဥ္စကိုတိုက်ခိုက်ခြင်း

နန်ချောင်တပ်များသည် မိချန်နိုင်ငံကို တိုက်ခိုက်ပြီးနောက် ဟရိပုဥ္စတိုင်းပြည်ကို ဆက်လက်ချီတက် တိုက်ခိုက်ကြသည်။ ဟရိပုဥ္စ သည် ယိုးဒယားနိုင်ငံ၏ မြောက်ပိုင်းတွင်တည်ရှိသည်။ နန်ချောင်မြင်း သည်တော်များ၏ တိုက်ခိုက်မှုကြောင့် မြို့တံခါးပွင့်သွားခဲ့သည်။ နန်ချောင် တပ်များ မြို့ထဲသို့ဝင်ရောက်လာသောခါ ဟရိပုဥ္စတို့က ရေတံခါးကို ဖွင့် လိုက်သဖြင့် နန်ချောင်တပ်များ ရေလွှမ်းမိုးခံရပြီး ထိုနိုင်ငံမှ ပြန်ဆုတ် ခွါခဲ့ကြ၏။[၃]

---

၁။ မြန်မာ့စွယ်စုံကျမ်း အတွဲ ၁၀၊ မြန်မာလူမျိုး၊ နှာ ၃၄၆။
၂။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.45.
၃။ Ibit.

၂း၆း၁၁း၃ ။ ကွမ်တုံနှင့်ကွမ်စီကိုတိုက်ခိုက်ခြင်း။

အေဒီ ၈၃၀-၈၃၂ တွင် ကွမ်တုံနှင့်ကွမ်စီဒေသသည် 'တိုင်း' (ရှမ်း) လူမျိုးများ နေထိုင်ရာဒေသဖြစ်သည်။ တရုတ်တို့က သိမ်းပိုက်ပြီး ပြည်သူလူထုများကို နှိပ်စက်လွန်းသဖြင့် နန်ချောင်တပ်များသည် ထိုဒေသရှိ 'တိုင်း'(ရှမ်း)များကို သွားရောက်ကူညီတိုက်ခိုက်ပေးရသည်။[၁]

၂း၆း၁၁း၄ ။ ကမ္ဘောဒီယားကို တိုက်ခိုက်ခြင်း

တရုတ်မှတ်တမ်းများအရ ကမ္ဘောဒီးယားကို တရုတ်တို့က ချဲန်းလှ Chenla ဟုခေါ်သည်။ နန်ချောင်တပ်များသည် ပင်လယ်ကမ်းစပ်ရှိ ချဲန်းလှကိုလည်း တိုက်ခိုက်သိမ်းပိုက်နိုင်ခဲ့သည်။ သို့သော် နန်ချောင်တပ်များသည် ကြာရှည်စွာမနေဘဲ ပြန်သွားကြသည်။ နန်ချောင်ဘုရင်ခွန်ဖုန်းယုသည် အရည်အချင်းရှိသော သူ၏မြေးတော် ဆွီးလုံကို အိမ်ရှေ့မင်းအရာထားခဲ့၍ အေဒီ ၈၅၉ ခုနှစ်တွင် နတ်ရွာစံခဲ့လေသည်။ နန်ချောင်စစ်သူကြီး လုံတုံ Lung Tung သည် 'ဆွီးလုံ' ပင်ဖြစ်သည်။[၂]

၂း၆း၁၂ ။ ဆွီးလုံ **Sue Lung AD 859-877**

ခွန်ဖုန်းယု နတ်ရွာစံသွားသောအခါ ဆွီးလုံသည် နန်ချောင်ဘုရင်ဖြစ်လာသည်။ ဆွီးလုံသည် စစ်သူကြီးဖြစ်ခဲ့စဥ်က စစ်ရေးစစ်ရာကျွမ်းကျင်သူဖြစ်သဖြင့် နိုင်ငံတော်၏ အင်အားကို ပိုမိုခိုင်ခဲ့အောင် ပြုလုပ်နိုင်ခဲ့သည်။ စစ်သူကြီးဘဝကပင် နန်ချောင်တပ်မတော်ကို ဦးစီးပြီး မြောက်ဘက်တွင် စီချွန်ပြည်နယ်နှင့် ချင်တူ Cheng Tu မြို့ကို သိမ်း

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.46

၂။ Ibit.

၃။ Ibit.

ပိုက်နိုင်ခဲ့သည်။ အနောက်ဘက်တွင် ပျူနိုင်ငံ၊ တောင်ဘက်တွင် ကမ္ဘောဒီး ယားအထိ တိုက်ခိုက်သိမ်းပိုက်နိုင်ခဲ့သည်။[၁]

ထိုအချိန်က ဟနွိုင် Hanoi သည် တရုတ်တို့ပိုင်ဆိုင်သော နယ်မြေဖြစ်ပြီး ရှေးအခါက အန်နန်ဖူး Annan fu ဟုခေါ်သည်။ ဟနွိုင်မြို့အုပ်ချုပ်ရေးတာဝန်ခံမှာ ရှဲန်ယီ Tsai Hsi ဖြစ်သည်။ နန်ချောင်တပ်များ တုန်ကင်းကို တိုက်ခိုက်ပြီး ဟနွိုင်ကို တိုက်ခိုက်သိမ်း ပိုက်သော အချိန်တွင် ရှဲန်ယီနှင့်သူ၏ အတွင်းရေးမှူးဖြစ်သူ ဖန်ချို Fan Cho သည် ဟနွိုင်မြို့ထဲတွင် ရှိနေသည်။ ဖန်ချိုသည် "ကိုယ်တွေ့နန် ချောင်တပ်မတော်သားများအကြောင်း"ကို မှတ်တမ်းတင်ရေးသားသူဖြစ် သည့်အပြင် ကမ္ဘာကျော်မန်ချူးသမိုင်းကိုလည်း ရေးသားသူဖြစ်သည်။[၂]

ဖန်ချို စစ်ဦးစီးဖူ Fu၊ လျင်ခို Liang Ko တို့သည် မြို့ရိုးပေါ်မှ နေ၍ နန်ချောင်တပ်မတော်တို့၏ လှုပ်ရှားမှုကိုစောင့်ကြည့်ပြီး မန်ချူး သမိုင်း၌ ဤသို့မှတ်တမ်းတင်ထားသည်။ "နန်ချောင်တပ်မတော်သားများ သည် လွန်စွာသတ္တိရှိပြီး ရဲရင့်လှသည်။ တိုက်ခိုက်မှုစွမ်းရည်လည်း ရှိကြ သည်။ စစ်တိုက်ရာတွင် မကြောက်မရွံ့ အသေခံရဲကြသည်။ သူတို့၏ စစ်စည်းကမ်းသည်လည်း လွန်စွာကြီးမားလှသည်။ စစ်တိုက်သောအခါ မကြောက်မရွံ့ နောက်မတွန့်ဘဲ တိုက်ခိုက်ကြသည်။ စစ်ပွဲတွင် တွန့်ဆုတ် တွန့်ဆုတ် လုပ်နေသူများကို သူတို့၏ ခေါင်းဆောင်များက သတ်ပစ်လိုက် ကြသည်။ နန်ချောင်တပ်မတော်သည် ကြောက်လန့်သူကို မတွေ့ရ၊ နောက်ဆုတ်သူမတွေ့ရ။ ထို့ကြောင့် နန်ချောင်တပ်မတော်သည် ဟနွိုင် မြို့ကို တိုက်ခိုက်သိမ်းပိုက်နိုင်ခဲ့သည်။ ဟနွိုင်မြို့အုပ်ချုပ်ရေး တာဝန်ခံ ရှဲန်ယီ Tsai Hsi နှင့် မိသားစုမှာလည်း ကျဆုံးခဲ့ ရသည်။ 'ဖန်ချို'မှာကား

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.46.

၂။ Ibit. P.47

သူရေးသားထားသော စာနှင့်အတူ မြို့တံတိုင်း ကိုကျော်၍ ရေကူးပြီး လွတ်လာခဲ့ရသည်"ဟုဆိုသည်။[၁]

နန်ချောင်တပ်တို့တွင် ပျူစစ်သည်များပါဝင်ခဲ့သည်။ ခရစ် ၈၆၁-၈၆၃ ခုနှစ်တွင် တရုတ်တို့ပိုင်သော ဟန္နိုင်မြို့ကို နန်ချောင်ရှမ်းတို့ သိမ်းယူစဉ်က ပျူစစ်သည်များစွာ ပါဝင်ကြောင်း ထင်ရှားသော မှတ်တမ်းများ တွေ့ရလေသည်။[၂]

ဟန္နိုင်မြို့ကို သိမ်းပြီးသည့်နောက် နန်ချောင်တပ်တို့သည် အေဒီ ၈၇၀ ခုနှစ်တွင် စီချွန်၏ မြို့တော် ချန်တူ Cheng Tu သို့ချီတက်ပြန် သည်။ သူတို့၏ ရည်ရွယ်ချက်မှာ စူနိုင်ငံတော်၏ နယ်မြေကို ပြန်လည် တိုက်ခိုက် သိမ်းပိုက်ရန်ဖြစ်သည်။ စီချွန်နယ်တွင် တိုက်ပွဲများဖြစ် ပွားခဲ့ရာ တရုတ်တို့သည် လူကြီးခလေးပါမကျန် ချန်တူမြို့တွင်းသို့ ပြေးဝင်ကြ သည်။ ချန်တူမြို့ထဲတွင် လူများလှသဖြင့် မတ်တတ်ရပ်၍သာ နေရသည် ဟုဆိုသည်။ ချန်တူမြို့သူမြို့သားများသည် လွန်စွာဒုက္ခရောက်ခဲ့ရသည်။ မိုးရွာလာသည့်အခါ အိုးစုတ်တောင်းစုတ်ဖြင့် ခေါင်းပေါ် ဆောင်းထားကြ ရပြီး မတ်တတ်ရပ်၍သာ နေကြရသည်။ စစ်ကြောင့် ထွက်ပြေးလာသူ များပြားလွန်းသဖြင့် ရေတွင်းမှ သောက်ရေများ ခန်းခြောက်ကုန်သည်။ ချောင်းရေကိုလုသောက်ကြရသဖြင့် သေကျေဒဏ်ရာရသူလည်း လွန်စွာ များသည်။ အကြောင်းအမျိုးမျိုးကြောင့် သေဆုံးသူများပြားလှသ ဖြင့် ကျင်းကြီးတူး၍ စုပေါင်းမြှုပ်နှံကြရသည်ဟု ဆိုသည်။ နန်ချောင်တို့ ဖမ်းမိသော စစ်သုံ့ပန်းများကိုလည်း နားရွက်၊ နှာခေါင်းတို့ကို ဖြတ်ပစ် ကြသဖြင့် ထိုအချိန်က ချန်တူတွင်နေထိုင်ကြသော သူတို့တွင် (စ၀)ရာခိုင် နှုန်းသည် နားပြတ်နှာခေါင်းပြတ်သူများ ဖြစ်ကြပြီး သစ်သားဖြင့် အတု

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.47
၂။ မြန်မာ့စွယ်စုံကျမ်း အတွဲ ၁၀၊ ပျူလူမျိုး၊ နှာ ၉၂။

တပ်ထားကြရသည်ဟုဆိုသည်။[၁]

အေဒီ ၈၇၃ ခုနှစ်တွင် တရုတ်တို့သည် ရန်သူဟောင်းဖြစ်သော တိဗက်တို့နှင့် ပြန်လည်ပူးပေါင်းပြီး ချန်တူမြို့ကို ပြန်လည်သိမ်းပိုက်နိုင်ခဲ့သဖြင့် နန်ချောင်တပ်များ ချန်တူမှ ဆုတ်ခွါခဲ့ရလေသည်။ အေဒီ ၈၇၅ ခုနှစ်တွင် တရုတ်စစ်သူကြီး ကောင်းဖျင့် Kao Pian သည် နန်ချောင်စစ်တပ်ကို ထပ်မံအောင်နိုင်ခဲ့သည်။ အေဒီ ၈၇၇ ခုနှစ်တွင် နန်ချောင်နှင့်တရုတ်တို့သည် စစ်ပြေငြိမ်းရေးစာချုပ်ကို တစ်ဖန်ပြန်လည် ချုပ်ဆိုကြရသည်။ ထိုအေဒီ ၈၇၇ ခုနှစ်တွင် နန်ချောင်ဘုရင်ဆွိုးလုံသည် နတ်ရွာစံခဲ့သည်။ နန်ချောင်ဘုရင် ဆွိုးလုံ၏ နောက်ပိုင်းတွင် နန်ချောင်သည် အင်အားယုတ်လျော့သွားပြီဖြစ်သဖြင့် မည်သူနှင့်မျှ စစ်ပြိုင်ဆိုင်ခြင်း မရှိတော့ချေ။[၂]

## ၂း၆း၁၃။ လုံ့ရွှင် Lung Shwen AD 877-897

နန်ချောင်ဘုရင်ဆွိုးလုံနတ်ရွာစံပြီးနောက် ၎င်း၏သားတော် လုံ့ရွှင်နန်းတက်လာခဲ့သည်။ စစ်ပင်ပန်းနေကြသော နန်ချောင်သားတို့သည် လုံ့ရွှင်လက်ထက်တွင် မည်သူနှင့်မျှ မတိုက်ခိုက်ကြတော့ပေ။ ပြည်ပနိုင်ငံများနှင့် အဆင်ပြေအောင်ဆက်ဆံခဲ့လေသည်။ အေဒီ ၈၈၄ ခုနှစ်တွင် တရုတ်ဘုရင်က သူ၏သမီးတော်တစ်ပါးကို လုံ့ရွှင်ဘုရင်၏ ချွေးမအဖြစ် ဆက်သခဲ့သည်။[၃] ထိုတရုတ်ဘုရင်သမီးတော်၏ နာမည်မှာ နန်းဖ Ngarng Fah ဖြစ်သည်။ နန်ချောင်ဘုရင်လုံ့ရွှင်သည် အေဒီ ၈၉၇ ခုနှစ်တွင် နတ်ရွာစံခဲ့သည်။[၄]

---

၁။ Milne, Leslie (Mrs). Shan at Home. P.14

၂။ Ibit.

၃။ Ibit. P.15

၄။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.48

## ၂း၆း၁၄။ ရွှင်ဖ Shwen Fa AD 897-902

ရွှင်ဖလက်ထက်တွင်လည်း မည်သူနှင့်စစ်တိုက်ခိုက်မှုမပြုတော့ဘဲ အေးအေးလူလူသာ နေခဲ့သည်။ နန်ချောင်ဘုရင်ရွှင်ဖသည် အေဒီ ၉၀၂ ခုနှစ်တွင် နတ်ရွာစံခဲ့လေသည်။ ဘုရင်ရွှင်ဖ နတ်ရွာစံပြီးသည့်နောက်ပိုင်း နန်ချောင်ဘုရင် မိန်းမင်းဆက် Mong Dynasty သည် အဆုံးသတ်ခဲ့ပြီး ရှမ်းတရုတ်နွယ်ဖြစ်သည့် နန်ချောင်ထောဝ့်မင်းဆက် Twan Dynasty တို့က အေဒီ ၉၀၂ မှ အေဒီ ၁၂၅၃ ခုအထိ နန်ချောင်ကို ဆက်လက်စိုးစံခဲ့သည်။[၁]

အေဒီ ၉၃၄ ခုနှစ်မှစ၍ နန်ချောင်၏ တန်ခိုးအင်အားသည် မှေးမှိန်စပြုလာသည်။ သို့ရာတွင် တရုတ်တို့သည် နန်ချောင်နိုင်ငံတော်ကို အပြီးအပိုင် ဖြိုခွင်းနိုင်ခြင်း မရှိခဲ့ချေ။ အဘယ်ကြောင့်ဆိုသော် တရုတ်ပြည်၌လည်း ပြည်တွင်းမငြိမ်မသက်ဖြစ်ပြီး အချင်းချင်းတိုက်ခိုက်နေသောအချိန်ဖြစ်သည်။ မြောက်ဘက်မှလည်း အင်အားကြီးလာသော မွန်ဂိုလူမျိုးတို့သည် တရုတ်နယ်မြေကို ထိပါးလာပြီး နောက်ပိုင်းတွင် တရုတ်နိုင်ငံကိုပင် တိုက်ခိုက်သိမ်းပိုက်နိုင်ခဲ့သည်။[၂] ထို့နောက် မွန်ဂိုတို့သည် အင်အားချည့်နဲ့နေပြီဖြစ်သော နန်ချောင်နိုင်ငံတော်ကိုလည်း အေဒီ ၁၂၅၃ ခုတွင် တိုက်ခိုက်နိုင်ခဲ့လေသည်။[၃]

အေဒီ ၆၄၉ ခုနှစ်မှ အေဒီ ၉၀၂ ခုနှစ်အထိ နန်ချောင်မင်းဆက်သည် မိန်းမင်းဆက် Mong Dynasty ဖြစ်ခဲ့ပြီး အုပ်ချုပ်ခဲ့သည့် ရှင်ဘုရင် (၁၃) ပါးရှိခဲ့သည်။ မိန်းမင်းဆက်သည် တိုင်းပြည်နှင့်လူမျိုးကို လွန်စွာချစ်မြတ်နိုးသည့်အပြင် စွမ်းရည်သတ္တိလည်း ပြည့်ဝကြသည်။

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P48

၂။ Ibit. P. 49

၃။ Ibit. & Luce (G.H) The early Syam in Burma's History

တရုတ်နှင့်တိဗက်တို့ကို မကြာခဏ အင်အားပြိုင်ဆိုင်ခဲ့ကြသည်။ အေဒီ ၉၀၂ မှ အေဒီ ၁၂၃၅ ခုနှစ်တွင် နန်ချောင်မင်းဆက်သည် ထောဝ့်မင်းဆက် Twan Dynasty ဖြစ်သည်။ (မြန်မာ့သမိုင်းတွင် ထင်ရှားသော ဥတည်ဘွားသည်လည်း နန်ချောင်ထောဝ့်မင်းတစ်ပါးဖြစ်သည်။) ထောဝ့်မင်းဆက်သည် တရုတ်တို့အား အခွန်ပဏ္ဏာများ ဆက်သ၍ တရုတ်တို့နှင့် သင့်မြတ်အောင် နေထိုင်သွားကြသည်။ စစ်ပွဲများကို မဆင်နွှဲခဲ့ကြချေ။ အေဒီ ၁၂၃၅ ခုနှစ်တွင် မွန်ဂိုစစ်ဘုရင် ကူဗလိုင်ခန်ကြောင့် နန်ချောင်နိုင်ငံတော်သည် ပျက်သုဉ်းခဲ့ရလေသည်။[၁]

အေဒီ ၇ ၊ ၁ ၊ ၁၂၃၅ ခုနှစ် မွန်ဂိုစစ်တပ်များ နန်ချောင်ကို လာရောက်တိုက်ခိုက်သည့်အချိန်တွင် နန်ချောင်ဘုရင်သည် ရှိန်ဆိ Hsin Ci ဖြစ်သည်။ ကူဗလိုင်ခန်သည် သူ၏ညီဖြစ်သူ ဟူပီလီ Hu Pi Li နှင့် စစ်သူကြီးဝူ Wu၊ စစ်သူကြီးဟို Ho တို့ကို နန်ချောင်မြို့တော် တာလီကိုချီတက် သိမ်းပိုက်စေသည်။ နန်ချောင်ဘုရင်သည် ယူနန်ဖူ (ကွေ့မြင်) သို့ ထွက်ပြေးတိမ်းရှောင်သွားခဲ့သဖြင့် နန်ချောင်စစ်သူကြီး ခေါင်ဖိုင်ချင် Kho Fai Chang က မွန်ဂိုစစ်တပ်များကို တိုက်ခိုက်သော်လည်း အင်အားမမျှသဖြင့် နန်ချောင်စစ်သူကြီးအပါအဝင် နန်ချောင်စစ်သားများ အများအပြားကျဆုံးခဲ့ရသည်။ မွန်ဂိုတပ်များသည်လည်း နန်ချောင်တို့၏ တိုက်ခိုက်မှုကြောင့် အကျအဆုံးများခဲ့ရသည်။ ဟူလီပီသည် နန်ချောင်စစ်သူကြီးခေါင်ဖိုင်ချင်၏ အနိုင်မခံ အရှုံးမပေးလိုသောစိတ်ဓာတ်၊ တိုင်းပြည်ချစ်စိတ်တို့ကို လွန်စွာလေးစားသွားသဖြင့် ခေါင်ဖိုင်ချင်၏ ဇနီးသားများကိုသေဒဏ်မှ ကင်းလွတ်ခွင့်ပေးခဲ့ပြီး ခေါင်ဖိုင်ချင်၏သားနှစ်ယောက်ကိုလည်း လူလားမြောက်အောင် ပြုစုပျိုးထောင်ပေးခဲ့သည် ဟုဆိုသည်။ ဟူပီလီသည် မွန်ဂိုစစ်သူကြီး 'ဝူ' နှင့် 'ဟို'ကို တာလီသို့ချီတက်စေပြီး နန်ချောင်ဘုရင်ကို ဖမ်းဆီးမိသော်

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.49

လည်း သေဒဏ်မပေးခဲ့ချေ။ နန်းကျဘုရင်အဖြစ် ဆွေတော်မျိုးတော်တို့အား တစ်သက်လုံး လွတ်ငြိမ်းချမ်းသာ ခွင့်ပေးခဲ့သည်။[၁]

နန်ချောင်နိုင်ငံတော်သည် အေဒီ ၆၄၉ ခုမှ အေဒီ ၁၂၅၅ ခုတိုင်အောင် နှစ်ပေါင်း (၅၆၈) နှစ် ရှည်ကြာခဲ့သည့် လွတ်လပ်သော 'တိုင်း'(ရှမ်း) လူမျိုးတို့ သမိုင်းမှတ်တိုင်ဖြစ်သည်။ နန်ချောင်နိုင်ငံသူနိုင်ငံသားများသည် လွတ်လပ်ရေးကို မြတ်နိုးသူများ ဖြစ်ကြသည့်အလျောက် မိမိတို့၏ လွတ်လပ်ရေးကို အသက်သွေးနှင့် ချွေးပေါင်းများစွာဖြင့် ကာကွယ်လာခဲ့ကြသည်။ အင်အားကြီးမားလှသော တရုတ်နှင့်တိဗက်တို့၏ အလယ်တွင် တိုင်းပြည်နှင့်လူမျိုး၏ဂုဏ်ကို ရဲရဲဝံ့ဝံ့ စွန့်စွန့်စားစား အားခဲပြီး မြှင့်တင်နိုင်ခဲ့ကြသည်။ ဥမကွဲသိုက်မပျက်၊ ကောင်းသူဆိုးဖက် ညီညီညာညာ လက်တွဲမပျက်စေဘဲ တိုက်ပွဲပေါင်းများစွာ ဆင်နွှဲလာခဲ့ကြရသည်။ နန်ချောင်နိုင်ငံတော်၏ ဂုဏ်ယူဖွယ်သမိုင်းသည် ထိုခေတ်နန်ချောင်နိုင်ငံသားများက သမိုင်းပေးတာဝန်ကို ကျေပွန်စွာ ထမ်းဆောင်ရင်း သတ္တိသွေး၊ ဇာတိသွေး၊ ဇာတိမာန်နှင့် ရေးထိုးလာခဲ့ကြသဖြင့် နန်ချောင် (ခေါ်) နန်ကျောဝ်သည် ခိုင်မာသော သမိုင်းမှတ်တိုင်အဖြစ် ယနေ့တိုင် သမိုင်းစာမျက်နှာတွင် ထင်ရှားနေခဲ့ခြင်းဖြစ်ပေသည်။

နန်ချောင်နိုင်ငံတော်သည်-

-ယူနန်နယ်အားလုံး

-မာဂဓတိုင်း (မြန်မာနိုင်ငံအထက်ပိုင်း၊ ရှမ်းပြည်နယ်၊ ကချင်ပြည်နယ်၊ ချင်းပြည်နယ်၊ အဟုမ်)

-စီချွန်ပြည်နယ်တောင်ပိုင်း

-ကွမ်စီပြည်နယ်အနောက်ပိုင်း

-တုံကင်းအထက်ပိုင်းမှ ကမ္ဘောဒီးယားအထိကျယ်ပြန့်ခဲ့သည်။[၂]

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.40

၂။ Milne, Leslie (Mrs). Shan at Home. PP. 7.8




အေဒီ(၆၄၉) မှ(၉၀၂) နန်ချောင်စစ်တပ်များ ရောက်ခဲ့သည့်ဒေသများ

နန်ချောင်မြို့တော်မှာ တာလီဖူးဖြစ်ပြီး အုပ်ချုပ်ခဲ့သော ဘုရင်စုစုပေါင်း (၃၂) ပါးရှိခဲ့၍ မင်းဆက်(၁၇) ဆက် ရှိခဲ့သည်။[၁၄] နန်ချောင်နိုင်ငံကို အုပ်ချုပ်သော မိန်းမင်းဆက် Mong Dynasty တို့၏ မင်းဆက်အမည်မှည့်ပုံမှာ ဖခင်အမည်၏ နောက်ဆုံးစာလုံးကိုယူ၍ သားအမည်၏ ရှေ့စာလုံးအဖြစ် အမည်မှည့်သည်ကို အောက်ပါအတိုင်း တွေ့ရသည်။

(၁) စိနုလို Si Nu Lo AD 649-674

(၂) လိုရှုန် Lo Shang AD 674-712 (စိနုလို၏သားတော်)

(၃) ရှုန်လိုပိ Shang Lo Pi AD712-728 (လိုရှုန်၏သားတော်)

(၄) ပိလိုခို Pi Lo Ko AD 728-749 (ရှုန်လိုပိ၏သားတော်)

(၅) ခိုလိုဖုန်း Ko Lo Feng AD 748-778 (ပိလိုခို၏သားတော်)

(၆) ဖုန်းကျောက်ယိ Feng Kyawg Yi (အိမ်ရှေ့မင်းသားဘဝ၌ နတ်ရွာ စံသည်)

(၇) ယိမွန်ဆွန် Yi Mon Sun AD 778-808(ဖုန်းကျောက်ယိ၏သား)

(၈) ဆွန်ခေးခွမ် Sun Ko Kon AD 808-809 (ယိမွန်ဆွန်၏သားတော်)

(၉) ခွမ်လုံးရှုန် Kon Lung Sen AD 809-816 (ဆွန်ခေးခွမ်၏ ပထမသားတော်)

(၁၀) ခွမ်လိ Kon Li AD 816-824 (ဆွန်ခေးခွမ်၏ ဒုတိယ သားတော်)

(၁၁) ခွမ်ဖုန်းယု Kon Fon Yu AD 824-859 (ဆွန်ခေးခွမ်၏ တတိယသားတော်)

---

၁၄ Hsen (Khur). The Oregin of Tais and A Short History of Shan. PP.25-6

(၁၂) ဆွီးလုံ (Sue Lung ) AD 859-877 (စစ်သူကြီးအိမ်ရှေ့မင်းသား)
(၁၃) လုံရွှင် (Lung Shwen) AD877-897 (ဆွီးလုံ၏သားတော်)
(၁၄) ရွှင်ဖ (Shwen Fa) AD 897-417 (လုံရွှင်၏သားတော်)

ဤနန်ချောင်မင်းဆက်များကဲ့သို့ အမည်မှည့်ပုံကို အေဒီ (၁၇၆-၄၁၇) ခုနှစ်အထိ ပုဂံခေတ်ဦးပိုင်း မင်းတို့တွင် တွေ့ရသည်။ အဘယ်ကြောင့် တူညီရသနည်းဟူမူကား ပျူစောထီးသည် ရှမ်းမင်းသားဖြစ်သောကြောင့် ရှမ်းမင်းတို့၏ ရှေးခေတ်အမည်မှည့်ပုံကို ပျူနိုင်ငံသို့ ရောက်ရှိလာခြင်း ဖြစ်ပေမည်။

ပျူစောထီးသည် ရှမ်းမင်းသားဖြစ်ကြောင်းကို "မြန်မာရာဇဝင်အကျဉ်းချုပ်"တွင် ဖော်ပြထားသည်ကို တွေ့ရသည်။[၁]

ပုဂံခေတ်ဦးပိုင်း မင်းတို့၏ အမည်မှည့်ပုံများနှင့် ရှမ်းဘာသာအဓိပ္ပါယ်ဖွင့်ဆိုချက်-

(၁) ပျူစောထီး (ပိဝ်လဝ်;ထီး) (ပျူတို့၏ အထွတ်အထိပ်အရှင်သခင်)
(၂) ထီးမင်းယဉ် (ထီးမိူင်းယိၼ်)(အေးချမ်းသာယာသောတိုင်းပြည်၏ အရှင်သခင်)
(၃) ယဉ်မင်းပိုက် (ယိၼ်မိူင်းပၵ်း) (အေးချမ်းသောတိုင်းပြည်ကို အုပ်ချုပ်သည့်အရှင်သခင်)
(၄) ပိုက်သေဉ်လည်(ပၵ်းသိၼ်လီ) (အုပ်ချုပ်မှုသိန်းသန်းမက ကောင်းမွန်သောအရှင်သခင်)
(၅)သေဉ်လည်ကြောင်(သိၼ်လီၵိဝ်;) (သိန်းသန်းမကထွတ်မြတ်သော ရတနာအရှင်သခင်)
(၆) ကြောင်တူရစ် (ၵိဝ်;တူလိၵ်း) (သံတံခါးကဲ့သို့ ထွတ်မြတ်လုံခြုံသော ရတနာအရှင်သခင်)

---

၁။ မြန်မာရာဇဝင်အကျဉ်း၊ နှာ၊ ၈။

ဤအစဉ်အလာနည်းအရ အမည်ပေးခြင်းမျိုးမှာ နန်ချောင်နှင့် ဗျူတို့၌သာ ရှိခဲ့သည်မဟုတ်ချေ။ ရှေးဦးမြန်မာလူမျိုးစုတွင် အပါအဝင် ဖြစ်သောမရှုနှင့်လရှိလူမျိုးတို့၌လည်း ယနေ့တိုင် ရှိနေပေသေးသည်။[၁]

နန်ချောင်နိုင်ငံတော်ပျက်စီးခဲ့ပြီးနောက် လွတ်လပ်စွာနေလိုသော စိတ်ဓာတ်ကြောင့် 'တိုင်း'(ရှမ်း)လူမျိုးတို့သည် အုပ်စုလေးစုအဖြစ် တောင် ဘက်ပိုင်းဒေသသို့ ဆက်လက်ပြောင်းရွှေ့ လာခဲ့ကြလေသည်။

(၁) တုံကင်းအုပ်စု (ဗီယက်နမ်)

(၂) လုံဖရပန်း၊ ကျိုင်းခွင်၊ ဝိန်းဂျန်း၊ ချန်ပါဆက်အုပ်စု (လော)

(၃) ကျိုင်းရှုံသည် လန္နားဖြစ်လာပြီး မောရှမ်းဘုရင် ဆေခန်ဖတိုက်ခိုက် မှုကြောင့်-

(က) ကျိုင်းရှုံသည် (ယခုအခါ ဇင်းမယ်)

(ခ) ဆုခေါ်ထိုင်း( သောက္ကတဲ)၊ ဆုခေါ်ထိုင်း၏ သမက်ဖြစ်သူ မာဂဒူးသည် ဟံသာဝတီကို တည်ထောင်ပြီး မွန်မင်းဆက်ဖြစ်လာခဲ့သည်။

(ဂ) အယုဒ္ဓယ ဟူ၍ သုံးပြည်ထောင်ဖြစ်သွားသည်။

(၄) ရှမ်းကြီး (ခေါ်) တိုင်းလုံ (ယခုမြန်မာပြည်အထက်ပိုင်း၊ အရှေ့ပိုင်း အလယ်ပိုင်းမှ အာသံအထိ နေထိုင်ကြသည်) ဟူ၍ အုပ်စုကွဲသွား လေသည်။

ဤသို့ အုပ်စုလေးစု ကွဲသွားသော်လည်း ရှေးပဝေသဏီကတည်း က တစ်မြေတည်းနေ တစ်ရေတည်းသောက် တစ်ယောက်နှင့်တစ် ယောက် ညီညာဖြိုဖြို လက်တွဲခဲ့ကြပြီး ကန္တာရခရီးကြမ်းကို အေးအတူ ပူအမျှ ဖြတ်သန်းလျှောက်လှမ်းလာခဲ့ကြသူများပင် ဖြစ်ကြသည်။[၂]

---

၁။ မြန်မာ့စွယ်စုံကျမ်း အတွဲ ၁၀၊ မြန်မာလူမျိုး၊ နှာ၊ ၃၄၄။

၂။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.50



နန်းချောင်ခေတ် ရှမ်းလူမျိုးများ နန်းစိုက်ခဲ့သည့် တာလီချောင်ပြင်ကြီး (ယူနန်ပြည်
(အလျား ၂၀ မိုင်၊ အနံ ၉ မိုင်)



နန်ချောင် တာလီမြို့ဟောင်း တံခါး



စီရှုန်၊ ကွေ့ချောင်ဒေသရှိ "ယီ" လူမျိုးတို့၏ မီးပွဲတော် (မတ်လတွင် ကျင်းပသည်)



ယီလူမျိုး၏ ပန်းနတ်သမီးပူဇော်ပွဲ



"ယီ" အမျိုးသမီးငယ်



ပွယီ (ကွေ့ချောင်ဒေသ၊ တရုတ်ပြည်)



ပူပေါင်းအမျိုးသမီး (ဗီယက်နမ်)



ဒဟား (ဗီယက်နမ်)



ဘာင် (ဗီယက်နမ်)

## ၂း ၇ ။ မောဝ်နိုင်ငံတော် (သို့မဟုတ်) မောရှမ်းတိုင်းပြည်

အေဒီ ၁၂၃၅ ခုနှစ် နန်ချောင်နိုင်ငံတော်ကြီး ပျက်စီးခဲ့ရပြီး နောက် 'တိုင်း'(ရှမ်း)လူမျိုးတို့သည် အာရှအရှေ့တောင်ဘက်သို့ အစုလိုက် အပြုံလိုက် ဝင်ရောက်နေထိုင်လာကြသည်။ မဲခေါင်မြစ်၊ မဲနမ်မြစ်၊ သံလွင်မြစ်၊ ရွှေလီမြစ်၊ ဧရာဝတီမြစ်၊ ချင်းတွင်းမြစ်၊ ဗြဟ္မပုတြမြစ်အတိုင်း စိုက်ဆင်း၍ လုပ်ကိုင်စားသောက်ရန် လွယ်ကူသော နေရာများ၌ အခြေချနေထိုင်ပြီး အိုးအိမ်မြို့ရွာများ တည်ထောင်ကြသည်၊ တစ်စုသော တိုင်း(ရှမ်း)တို့သည် ရွှေလီမြစ်ဝှမ်းတွင် နေထိုင်ပြီးမောအင်ပါယာကို တည်ထောင်နိုင်ခဲ့သည်။ အေဒီ ၁၃၁၁ မှ ၁၃၆၄ ခုနှစ်၊ မောဘုရင် ဆောခန်ဖလက်ထက်တွင် မောရှမ်းနိုင်ငံတော်သည် အထွတ်အထိပ်သို့ ရောက်ခဲ့သည်။ နန်ချောင်နိုင်ငံတော် မပျက်စီးက 'တိုင်း' (ရှမ်း) လူမျိုးတို့သည် တောင်ပိုင်းဒေသသို့ ရောက်ရှိနေပြီဖြစ်သည်။[၁]

## ၂း ၇း ၁ ။ ခွန်တောင်ခမ်း Hkun Tung Kham AD 764-851

ခွန်တောင်ခမ်း၏သမိုင်းသည် ဒဏ္ဍာရီဆန်သည်။ ထိုဒဏ္ဍာရီဆန်သော အရာသည် သမိုင်းစစ်သမိုင်းမှန်များ ပါဝင်နေသည်ကို တွေ့ရသည်။ ထိုဒဏ္ဍာရီအရ ရွှေလီမြစ်ဝှမ်းတွင် အဘိုးအို အဘွားအိုနှစ်ယောက် နေထိုင်ကြသည်။ သူတို့သား၏နာမည်သည် ခွန်အိုက်ဖြစ်၏။ ခွန်အိုက် (၁၆)နှစ်သို့ ရောက်သောအခါ ရေကန်အနီး၌ နွားကျောင်းစဉ် နဂါးမင်းသမီးတစ်ဦးနှင့် တွေ့ဆုံပြီး အပြန်အလှန်မေတ္တာရှိခဲ့ကြသည်။ ခွန်အိုက်သည် နဂါးတိုင်းပြည်သို့ လိုက်သွားခွင့်ရရှိသဖြင့် နဂါးမင်းသမီးနှင့် လိုက်

---

၁။ အောင်ထွန်း(စိုင်း) ရှေးခေတ်တိုင်းလူမျိုးများ မူလနေထိုင်ရာအရပ်ဒေသများနှင့် အာရှအရှေ့တောင်ဘက်သို့ ဆင်းသက်ပြန့်ပွားပုံ၊ နှာ ၁၂

သွားလေသည်။ နဂါးတိုင်းပြည်သို့ စွန့်စွန့်စားစား ရောက်ခဲ့ပြီး သူသည် နဂါးမင်းသမီးနှင့်အတူ သူနေထိုင်ရာလူ့ပြည်သို့ ပြန်လာခဲ့သည်။[၁]

နဂါးမသည် မကြာမီ သန္ဓေရှိလာသဖြင့် ဥတစ်လုံးဥထားခဲ့ပြီး နဂါးတိုင်းပြည်သို့ ပြန်သွားသည်။ နဂါးမသည် ခင်ပွန်းဖြစ်သူအား ထိုခလေးကို ပြုစုရန်အတွက် "နဂါးမအား သတိရတမ်းတပြီး လက်ချောင်းဖြင့်ကလေးကို စို့စေပါက နို့ရည်များထွက်လာမည်ဟု" ခွန်အိုက်ကို မှာထားခဲ့သည်။ ခွန်အိုက်သည် ထိုနဂါးဥကို သစ်ရွက်ခြောက်ဖြင့် ဖုံးလွှမ်းထားသဖြင့် ခွန်တောင်းခမ်း Lord Dry Leave, The Golden "ရွှေရွက်ဝါမင်းသား" ဟူ၍ အမည်ပေးလေသည်။ ထိုကလေးသည် ဘုန်းကံကြီးမားသူဖြစ်သဖြင့် သူတို့၏ မိသားစုသည် အစစအရာရာ ကြီးပွားတိုးတက်လာခဲ့ရသည်။[၂]

ခွန်တောင်းခမ်း (၁၆) နှစ်အရွယ်သို့ ရောက်လာသည့်အချိန် နန်ချောင်ဘုရင် ခိုလိုဖုန်းသည်လည်း လွန်စွာချောမောလှပသော သမီးတော် တစ်ပါးရှိလေသည်။ ခိုလိုဖုန်းသည် သူ၏သမီးတော်အား ရေလယ်နန်းဆောင်ပြာသာဒ်၌ ထားရှိပြီး ကြေညာချက်တစ်ရပ် ထုတ်ပြန်သည်။ သူ၏ သမီးတော်ထံသို့ လှေလည်းမစီး တံတားလည်းမခင်းဘဲ ခြောက်သွေ့သော ခြေထောက်ဖြင့် ရေနန်းပြာသာဒ်ရှိ အချက်ပြမောင်းကို တီးခေါက် နိုင်သူအား သမီးတော်နှင့် လက်ဆက်မည်ဟု ကြေညာခဲ့သည်။ ထိုအကြောင်းကို ခွန်တောင်းခမ်းကြားသိရသဖြင့် သူ၏မိခင်လက်ဆောင် ပေးထားခဲ့သော အစွမ်းထက်သည့် ယမထာတုတ်တံတစ်ခုကို ယူဆောင်ပြီး ထိုမင်းသမီး ရှိရာသို့သွားလေသည်။ ရေကန်သို့ ရောက်သောအခါ

---

၁။ Milne. Leslie (Mrs). Shan at Home. P.17 &
စံရှိ (လယ်ဝန်) သိန္နီသမိုင်းမှတ်တမ်း (ရှမ်းဘာသာလက်ရေးမူ) နှာ ၃. ၁၃
၂။ Ibit.

မင်းသားသည် သူ၏ယမထာတုတ်တံဖြင့် မြေကြီးကို သုံးကြိမ် ရိုက်ပုတ်လိုက်၏၊ ထိုအခါ မိခင်နဂါးမသည် ပေါ်ထွက်လာပြီး မင်းသမီးရှိရာ ရေနန်းပြာသာဒ်သို့ ကြောခင်းပေးလေသည်၊ မင်းသားသည် မိခင်ကြောပေါ်သို့ လျှောက်လှမ်းပြီး ရေမစိုသော ခြေထောက်နှင့် မင်းသမီးထံ ရောက်နိုင်သဖြင့် မင်းသမီးကို သိမ်းပိုက်နိုင်ခဲ့သည်ဟု ဆိုသည်၊[၁]

နန်ချောင်ဘုရင်၏ သမီးတော်ပပ္ပဝတီနှင့် ထိမ်းမြားလက်ထပ်ပြီး နန်ချောင်ဘုရင် ခိုလိုဖုန်းသည် သားမက်တော် ခွန်တောင်ခမ်းအား စစ်ထပ်နှင့်အတူ လက်ဆောင်ပေးအပ်ခဲ့၍ ရွှေလီမြစ်ဝှမ်းတွင် အုပ်ချုပ်စေခဲ့သည်၊ အေဒီ ၇၆၄ ခုနှစ်တွင် ခွန်တောင်းခမ်းသည် ရွှေလီမြစ်ဝှမ်း 'တိန်းခေါ်'* စော်ဘွားအဖြစ် ခန့်အပ်ခံရသည်၊ အေဒီ ၈၀၂ ခုနှစ်တွင်ပျူဘုရင်သည် နန်ချောင်နိုင်ငံတော်ကို လက်ဆောင်ပဏ္ဏာနှင့် ဂီတအနုပညာသည်များဖြင့် လာရောက်ဆက်သရာတွင် ခွန်တောင်ခမ်းနှင့် ပပ္ပဝတီမင်းသမီးတို့သည် နန်ချောင်နိုင်ငံသို့ပို့ပေးခဲ့ရသည်၊ ထိုအချိန်ကနန်ချောင်ဘုရင်သည် ယိမွန်ဆွန်ဖြစ်၏ အေဒီ ၈၃၂ ခုနှစ် နန်ချောင်ဘုရင် ခွန်ဖုန်းယုလက်ထက်တွင်ပျူနိုင်ငံမှ လက်ဆောင်ပဏ္ဏာများ ဆက်သခြင်း မရှိတော့သဖြင့် ခွန်ဖုန်းယုသည် နန်ချောင်စစ်တပ်ကို ခွန်တောင်ခမ်းတို့၏

---

၁။ Milne. Leslie (Mrs). Shan at Home. P.17 &

စံရီ (လယ်ဝန်) သိန္နီသမိုင်းမှတ်တမ်း (ရှမ်းဘာသာလက်ရေးမူ) နှာ ၃. ၁၃

* တိန်းခေါ်သည် တရုတ်မြန်မာနယ်စပ် ရွှေလီမြစ်၏ တစ်ဖက်ကမ်း(တရုတ်ပြည်ဘက်)တွင်တည်ရှိသည်၊ ယခုအခါ တိန်းခေါ်ရွာအဖြစ် ဆက်လက်တည်ရှိပြီး ခွန်တောင်းခမ်း (ရွှေရွက်ဝါမင်းသား)၏ မြို့ပေါ်ပတ်လည်တွင် တူးထားသော ကျုံးများ အထင်အရှား ရှိနေသေးသည်၊ (၁၂၊ ၅. ၂၀၀၁) ကျမ်းပြုသူသည် ထိုနေရာသို့ ရောက်ရှိခဲ့သည်၊ တိန်းခေါ်ရွာသူရွာသားများသည် ရှပ်ရည်သန့်ပြန့်သည့် မောရှမ်းလူမျိုးများဖြစ်ကြသည်၊

စစ်တပ်နှင့် အတူ ပျူနိုင်ငံသချိုတက်တိုက်ခိုက်စေသဖြင့် ပျူနိုင်ငံပျက်သုန်း ရသည်။ ခွန်တောင်ခမ်းသည် အေဒီ ၈၃၂ ခု၊ သက်တော် ၇၂ နှစ်တွင် နတ်ရွာစံခဲ့သည်။[၁]

## ၂း၇း၂။ ခွန်လူး HKun Lu AD 835-932

ခွန်လူးသည် ခွန်တောင်ခမ်း၏ သားတော်ဖြစ်သည်။ အသက် (၃၀)အရွယ်တွင် ဖခင်၏အရိုက်အရာကို ဆက်ခံသည်။ ခွန်လူးသည် (၁)ခွန်လူးလုံ (၂) ခွန်းလှိုင်း ဟူ၍ သားတော်နှစ်ပါးရှိ၏။ အေဒီ ၈၄၂ ခုနှစ်တွင် ဆစ်ဆောင်ပန်းနားဒေသတွင် အုပ်ချုပ်သူ မရှိတော့သဖြင့် နန်ချောင်ဘုရင် ခွန်ဖုန်းယုသည် ခွန်လူး၏ သားတော်အကြီး ခွန်လူးလုံကို ဆစ်ဆောင်ပန်းနားဒေသသို့ အုပ်ချုပ်ရန် ခန့်အပ်ခဲ့သည်။ အေဒီ ၈၅၈ ခုနှစ်တွင်ပျူတို့သည် ဘုရားဆင်းထုတော်တစ်ဆူ အပါအဝင် အခြားလက်ဆောင်ပဏ္ဏာပစ္စည်းများဖြင့် ခွန်လူးထံ သို့လာရောက်ဆက် သကြပြီး နှစ်နိုင်ငံရင်းနှီးစွာ လက်ဆောင်ပဏ္ဏာများ ပေးကမ်းကြသည်။ ခွန်လူးသည် အေဒီ ၉၃၂ ခုနှစ်တွင် နတ်ရွာစံလေသည်။[၂]

## ၂း၇း၃။ ခွန်လှိုင်း Hkun Lai AD 932-952

ခွန်လှိုင်းသည် ခွန်လူး၏ အထွေးဆုံးသားဖြစ်ပြီး ခမည်းတော်၏ အရိုက်အရာကို ဆက်ခံသည်။ အေဒီ ၉၅၂ ခုနှစ် နတ်ရွာစံသွားသောအခါ သားသမီးမထွန်းကားခဲ့သဖြင့် မင်းဆက်ပြတ်ခဲ့သည်။ တိုင်းပြည်ကို ဟိုတု Ho Tu ဒေသသို့ပြောင်းရွှေ့ပြီး အမတ်ကြီးလေးဦးဖြင့် စီမံအုပ်ချုပ်လာခဲ့ရသည်။ အေဒီ ၉၅၇ ခုနှစ်၊ ရှမ်းနှစ် 'ကတ်ပေါဝ်' ၊ တပေါင်း

---

၁။ Milne. Leslie (Mrs). Shan at Home. P.18 &
Hsen (Khur) op. cit. PP.134-135

၂။ Hsen (Khur) op.cit. p.135 & စဝ်ရိ (လယ်ဝန်) သိန္နီသမိုင်းမှတ်တမ်း နှာ ၈၈

လပြည့်ကျော် (၈) ရက်တွင် အမတ်ကြီး ထောက်လိတ်နှင့်ခန်ဟောက်တို့သည် ငွေပိဿာချိန် (၂၇) ပိဿာ၊ ရွှေ (၃) ပန်း♥၊ လူ(၁၈) ယောက်နှင့် အတူအုပ်ချုပ်သူ မင်းမျိုးမင်းနွယ်များကို ရှာဖွေလာ ခဲ့ရာမဲခေါင်မြစ်မှ တစ်ဆင့် မိုင်းလား၊ ထိုမှတစ်ဆင့် ဆစ်ဆောင်ပန်းနား၊ ထိုမှ တဆင့် မင်းကြီးဖညင်းမိန်း အုပ်ချုပ်မင်းလုပ်နေသောမိန်း ဟိမိန်းဟမ်♦ Mong Hi, Mong Ham သို့ ရောက်သွားခဲ့သည်။ ထိုနိုင်ငံသည် ကမ္ဘောဒီးယားနိုင်ငံဖြစ်သည်ဟု ဆိုသည်။ မင်းကြီးဖညင်း မိန်းသည် သားမြေးမြစ် (၁၀၀) ရှိသည် ဟုဆိုသည်။ ၎င်းတို့အနက် 'ခွန်တိုင်းခန်' ကို စေလွှတ်သဖြင့် ခွန်တိုင်းခန်သည် သူ၏သားတော် လေးပါး၊ မြေးတော် ရှစ်ပါး စုစုပေါင်း (၁၃) ဦးအပါအဝင် မောနိုင်ငံအမတ်ကြီးတို့နှင့် လိုက်လာစေခဲ့သည်။ မင်းသား (၁၃) ပါးတို့တွင် တစ်ပါးလျှင် အိမ်ထောင်စု (၈၀၀၀)ကို ဦးဆောင်သည်။ တစ်အိမ်ထောင်စုလျှင် မိသားစုသုံးယောက် ရှိသည် ဟုဆိုသည်။ မင်းသားတစ်ပါးလျှင် နောက်လိုက် (၂၄၀၀၀) ပါလာကြပြီး မင်းသား (၁၃) ပါးတို့သည် စုစုပေါင်း နောက်လိုက်နောက်ပါ (၃၁၂,၀၀၀) ဦးနှင့်အတူ အေဒီ ၉၅၇ ခုနှစ်၊ နယုန်လပြည့်နေ့တွင် ဟိုတူသို့ ရောက်လာခဲ့သည်။ ထိုကမ္ဘောဒီးယားမှ မင်းမျိုးများ ရောက်ရှိလာသောကြောင့် ရှမ်းပြည်ကို 'ကမ္ဘောဇ' ဟုခေါ်တွင်လာကြခြင်းဖြစ်သည်။[၁]

---

♥ ။ ရှမ်းအခေါ် '၁'ပန်းသည် '၈၀'ကျပ်သားရှိသည်။ ရွှေ'၃'ပန်းမှာ '၂ ပိဿာ ၄ ကျပ်သား' ဖြစ်သည်။

♦ ။ မိန့်ဟိ မိန်းဟမ်းသည် ယိုးဒယားနိုင်ငံ၏ အရှေ့မြောက်ဘက် မဲခေါင်မြစ်၏ အနောက်ဘက်ကမ်းတွင် တည်ရှိသည်။

၁။ Milne. Leslie (Mrs). Shan at Home. P.136 &
စံရီ (လယ်ဝန်) သိန္နီသမိုင်းမှတ်တမ်း၊ နှာ၊ ၉-၁၀။

## ၂း၇း၄ ။ ခွန်တိုင်းခန်[၁] Hkun Tai khan

ခွန်တိုင်းခန်သည် ရှဲန်ဆည်ကိုဗဟိုပြု၍ ရှမ်းပြည်အားလုံးကို စိုး အုပ်ချုပ်သည်။ သူနှင့်အတူလိုက်ပါလာသော မင်းညီမင်းသားများသည် သူ၏အာဏာစက်အောက်တွင် ထားရှိပြီး စော်ဘွားနယ်များအဖြစ် သတ်မှတ်အုပ်ချုပ်စေသည်။ ရှဲန်ဆည်သည် မူလမောနိုင်ငံဖြစ်၍ ရွှေလီမြစ်၏ မြောက်ဘက် ယူနန်နယ်အတွင်းတွင် တည်ရှိသည်။ ရှဲန်ဆည်တွင် အုပ်ချုပ်စော်ဘွား ၆ ဆက်ရှိခဲ့သည်။

၎င်းတို့မှာ-

| | |
|---|---|
| (၁) ခွန်တိုင်းခန် | AD 975-1068 |
| (၂) ခွန်တိုင်းပုံ | AD 1068-1179 |
| (၃) ခွန်တိုင်းလုံ | AD 1179-1309 |
| (၄) ခွန်နွဲချယ် | AD 1309-1351 |
| (၅) ခွန်တောဝ့်နွဲမြန်း | AD 1351-1391 |
| (၆) ခွန်ဆံဖ | AD 1391-1400 |

ခွန်ဆံဖသည် သားသမီးမထွန်းကားသဖြင့် ရှဲန်ဆည်ကို အုပ်ချုပ်သည့်မင်းဆက် နိဂုံးချုပ်ခဲ့ရသည်။

### ၂း၇း၄း၁ ။ ခွန်တိုင်းခန်၏ သားတော်မြေးတော်များ[၂]

(၁)သားတော်ခွန်ဆိုင်အိုက် (မိုင်းတူ'ခေါ်'သိန္နီကိုအုပ်ချုပ်သည်)

(၂) သားတော် ခွန်ခမ်းခိုင် (ကျိုင်းလောင်၊ မိန်းလျဉ်း၊ ဝန်းမော်

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.137-139

၂။ op.cit. p.135 & စံရိ (လယ်ဝန်) သိန္နီသမိုင်းမှတ်တမ်း နှာ၊ ၉-၁၀။

မိုးညင်း၊ မိုးကောင်းကို အုပ်ချုပ်သည်။
(၃) သားတော် ခွန်ခမ်းဆိုင်ဖ (ဖခင်နှင့်အတူနေစဉ် ကွယ်လွန်သည်)
(၄) သားတော် စဝ်တော်ဝ့်ခွန်ဝိုင် (မိန်းယဉ်၊ မိန်းယုတ်၊ မိန်းတတ်၊ မိန်းတော်၊ မိန်းမေ်၊ မိန်းဟုမ်းကို အုပ်ချုပ်သည်။
(၅)မြေးတော်ခွန်ခမ်းပေါင်ဖ (ကလေး၊ ဝန်းသိုကို အုပ်ချုပ်သည်)
(၆) မြေးတော် ဆိုင်ပုံဖ (မိန်းခိုင်၊ ကွဲလမ်၊ လာ့ပမ် 'လက်ပံ' ကို အုပ်ချုပ်သည်)
(၇) မြေးတော် တော်ဝ့်စဉ်ခမ်း (ညောင်ရွှေ၊ နောင်မွန်၊ မိုးမြဲ၊ သထုံ 'ရှမ်း' ကို အုပ်ချုပ်သည်)
(၈) မြေးတော် တော်ဝ့်အောင်ခွဲ (မိုးနဲ၊ ကျိုင်းတောင်း၊ ကျိုင်းခမ်း၊ မောက်မက်ကို အုပ်ချုပ်သည်)
(၉) မြေးတော် တော်ဝ့်ငါးလုမ်း (မိန်းမော၊ မိန်းဝမ်း၊ မိန်းလ၊ မိန်းတီး၊ စယ်ဖန်၊ မိန်းခွင်ကို အုပ်ချုပ်သည်)
(၁၀) မြေးတော် တော်ဝ့်လူးလျူ (ကိမ၊ မိန်းဆိန့်၊ မိန်းဆိုင်ကို အုပ်ချုပ်သည်)
(၁၁) မြေးတော် ခွန်ပါဆေလုံ (မိန်းဟိန်း၊ မိန်းယန်း၊ မိန်းခါ၊ တယားကို အုပ်ချုပ်သည်)
(၁၂) မြေးတော် ခွန်ပါဆေလုံ (မိုးကုတ်၊ မိုင်းလုံ၊ သုံးဆယ်ကို အုပ်ချုပ်သည်)

ခွန်တိုင်းခန်တို့ဆွေတော်မျိုးတော် (၁၂) ပါးတို့သည် ရှမ်းဒေသကို (၁၂) ဌာနအဖြစ်ဝေခွဲ၍ စီမံအုပ်ချုပ်ခဲ့သည်။ ဤကဲ့သို့ (၁၂) ဌာနခွဲ၍ အုပ်ချုပ်ခြင်းသည် ရှေးခေတ်ရှမ်းလူမျိုးများ၏ အုပ်ချုပ်ပုံစနစ်တစ်ခုဖြစ်သဖြင့် ဆစ်ဆောင်ပန်းနား (လူးဆယ့်နှစ်ပန်းနား) ၊ ဆစ်ဆောင်

စုတိုင်း ('တိုင်း' ရှမ်းဆယ့်ရှစ်စု) တို့သည်လည်း ဤနည်းအတိုင်း အယုံ ကြသည်ကို တွေ့ရသည်။

## ၂း၇း၅ ။ တောဝ့်ငါးလုမ်း AD 975-1057

တောဝ့်ငါးလုမ်းသည် ခွန်တိုင်းခန်၏ မြေးတော်ဖြစ်ပြီး မောရေး ကို ဦးစွာအုပ်ချုပ်ရသော စော်ဘွားဖြစ်သည်။ ဟော်နန်းတော်ကို ဝိန်းမွန်း တွင်တည်ထား၍ တိုင်းပြည်ကို စီမံအုပ်ချုပ်သည်။ အေဒီ ၁၀၅၇ ခုနှစ်တွင် နတ်ရွာစံခဲ့ပြီး သားတော် ခွန်တုံသည် ဖခင်၏ အရိုက်အရာကို ဆက်ခံ သည်။

## ၂း၇း၆ ။ ခွန်တုံ (ခေါ်) စောလုံဟုမ်မိန်း AD 1095-117

တောဝ့်ငါးလုမ်း၏ သားတော်ခွန်တုံသည် စောလုံဟုမ်မိန်းဘွဲ့ ဘွဲ့ခံ၍ မောဟော်နန်းကို ဆက်လက်စံမြန်းသည်။ သမီးတော် စောမွန် လှ နှင့် သားတော်ခွန်ကော်လန်း ထွန်းကားခဲ့သည်။ အေဒီ ၁၀၅၁ ခုနှစ် တွင် ပုဂံပြည့်ရှင် အနော်ရထာမင်းစောသည် နန်ချောင်မြို့တော် တသို့ သို့ စွယ်တော်ပင့်ရန် အပြန်တွင် မောစော်ဘွားက နှစ်ပြည်ထောင်ချစ် ကြည်ရေးအတွက် သမီးတော်စောမွန်လှကို အနော်ရထာအား ဆက်သခဲ့ သည်။ စောမွန်လှသည် ပုဂံသို့လိုက်သွားခဲ့ရသည်။ မောပြည်တော်ရှင် စောလုံဟုမ်မိန်းသည် အေဒီ ၁၀၇၇ ခုနှစ်တွင် နတ်ရွာစံခဲ့သည်။ စော မွန်လှသည် ပုဂံနန်းတော်တွင် အထင်လွဲခံခဲ့ရသဖြင့် ပုဂံမှမောပြည်သို့ အပြန်တွင် ခရီးပန်း၍ သီပေါအနီးရှိ ဘော်ကြို့အရောက်တွင် ကံကုန် ခဲ့သည်။ မောင်တော် ခွန်ကော်လန်းသည်အစ်မတော်ကို ကြိုဆိုရန် မော ပြည်မှ ဆင်းလာခဲ့ရာ ဘော်ကြို့တွင် အစ်မတော်ကံကုန်သည်ကို မြင်တွေ့

---

၁။ Hsen (Khun) The Oregin of Tais and A Short History of Shan ...

၂။ Milne, Leslie (Mrs), Shan at Home, P.20

ရသောအခါ ရင်ကွဲနာကျ၍ ဘော်ကြိုတွင် ကံကုန်ခဲ့သည်။ ထို့ကြောင့် မောပြည်တွင် မင်းမျိုးနွယ်မရှိတော့သောကြောင့် ခွန်တိုင်းပုံ၏ သားတော် ခွန်ဖန်ခမ်းကို မောပြည်အား အုပ်ချုပ်စေခဲ့သည်။[၁]

## ၂း၇း၇ ။ ခွန်ဖမ်ခမ်း (စောလုံမြို့ပုံ) AD 1177-1295

ခွန်ဖန်ခမ်းသည် ရှုန်ဆည်မှ မောပြည်၏ စော်ဘွားအဖြစ်ဝိန်းမွန်းတွင် လာရောက်အုပ်စိုးရခြင်းဖြစ်သည်။ အေဒီ ၁၁၇၈ ခုနှစ်တွင် ဟော်နန်းတော်ကို ဝိန်းဝိုင်သို့ ပြောင်းရွှေ့ခဲ့ပြီး မောပြည်ကို အုပ်ချုပ်သည်။ အေဒီ ၁၁၈၉ ခုနှစ်တွင် အတောင်(၁၂)တောင်ရှိသော ကျားတစ်ကောင်သည် နန်ချောင်ဘုရင်၏ သမီးတော်ကို ကိုက်သတ်ပြီး မောရှမ်းပြည်ဘက်သို့ တိမ်းရှောင်လာသည်။ လူထုက ထိုကျားကြီးကို ဖမ်းဆီးမိသဖြင့် ရှုန်ဆည်စော်ဘွား ခွန်တိုင်းပုံထံသို့ လာရောက်ဆက်သလေသည်။ ခွန်တိုင်းပုံသည် သူ၏သားတော် မောပြည်စော်ဘွား ခွန်ဖမ်ခမ်းအား ထိုကျားကို နန်ချောင်ဘုရင်ထံ ဆက်သစေခဲ့သည်။ ဘုရင်သည် လွန်စွာ ဝမ်းမြောက်လှသဖြင့် ဆုတော်လာဘ်တော် ပေးသနားပြီး ရွှေတံဆိပ်တုံး တစ်ခုပေးခဲ့သည်။ ထို့အပြင် ခွန်ဖန်ခမ်းအား "စောလုံမြို့ပုံ"ဟူ၍ နာမည်အသစ်ပေးသနားတော်မူသည်။[၂]

နန်ချောင်မှ ပြန်လာသောအခါ စောလုံမြို့ပုံသည် ဟော်နန်းတော်ကို ဝိန်းဝိုင်မှ နမ့်ပေါ့ချောင်း၏ တောင်ဘက်တွင် မြို့သစ်တည်၍ ဟော်နန်းစိုက်တော်မူသည်။ မောစော်ဘွားသည် နန်းယေ့ခမ်းလုံ၊ နန်းအိခမ်းလှိုင်၊ နန်းအံ့ညြ၊ နန်းဆိုင်အိုင်ဟူ၍ သမီးတော်လေးပါး ထွန်းကားခဲ့သော်လည်း သားတော်မထွန်းကားခဲ့ချေ။ စောလုံမြို့ပုံသည် သားတော်ရ

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.144

၂။ op.cit. p.135 & စံရီ (လယ်ဝန်) သိန္နီသမိုင်းမှတ်တမ်း၊ နှာ၊ ၁၆-၁၉။

ရှိနိုင်ရန်အတွက် ဒုတိယသမီးတော် နန်းအိခမ်းလှိုင်၏ သူငယ်ချင်းဖြစ်သော "နန်းဝမ်စေ့"အမည်ရှိ သူငယ်မတစ်ယောက်ကို ထပ်မံ၍ လက်ဆက်တော်မူ၏။ ထိုအမျိုးသမီးငယ်သည် ပဋိသန္ဓေရှိလာသောအခါ မနာလိုသူများက အခြားသောအမျိုးသားများနှင့် ဖောက်ပြန်လွန်ကျူးသည်ဟု ကုန်းတိုက်သဖြင့် စော်ဘွားကြီးအထင်လွဲပြီး ထိုအမျိုးသမီးငယ်ကို ဟော်နန်းမှ နှင်ထုတ်လေသည်။ မည်သူမျှ ကူညီထောက်ပံ့မှု မပြုရဟု၍ အမိန့်တော် ထုတ်ပြန်ခဲ့သည်။ ထိုအမျိုးသမီးငယ်သည် လွယ်လောတောင်ခြေရှိ နမ့်ကိုင်မော်ရွာတွင် ဆင်းရဲပင်ပန်းစွာ သွားရောက်နေထိုင်ရှာသည်။ အေဒီ ၁၂၉၀ ခုနှစ်တွင် ထိုအမျိုးသမီးငယ်သည် သုံးမြွှာပူးယောကျ်ားကို မွေးဖွားခဲ့သည်။ အမျိုးသမီးငယ်သည် ထိုကလေးတို့ကို

(၁) ခွန်အိုက်ငမ်းမိန်း

(၂) ခွန်ယီခန်ခမ်း

(၃) ခွန်ဆမ်လုံ ဟူ၍နာမည်မှည့်ခဲ့လေသည်။ ခွန်အိုက်ငမ်းမိန်းသည် (၂) နှစ်သားအရွယ်တွင် ကွယ်လွန်ခဲ့သည်။[၁]

အေဒီ ၁၂၃၅ ခုနှစ်တွင် မွန်ဂိုတပ်များ တရုတ်ပြည်ကို သိမ်းပိုက်ပြီး နန်ချောင်နိုင်ငံတော်ကိုလည်း တိုက်ခိုက်အောင်မြင်ခဲ့သည်။ မွန်ဂိုစစ်အင်များ မောပြည်သို့ ရောက်လာသောအခါ ကမ္ဘောဇရှမ်းစော်ဘွားတို့သည် မွန်ဂိုတို့ကို ယှဉ်ပြိုင်တိုက်ခိုက်နိုင်မည် မဟုတ်။ စစ်ဖြစ်လျှင် ပြည်သူပြည်သားများ ဒုက္ခရောက်မည်ဖြစ်သဖြင့် အချင်းချင်းညှိနှိုင်းတိုင်ပင်ကြ၍ မွန်ဂိုတို့အား စစ်မတိုက်ဘဲ မွန်ဂိုတို့ထံ လက်ဆောင်ပဏ္ဏာများ ပေးဆက်ပြီး မွန်ဂိုတို့၏ ဩဇာကို ခံယူလေတော့သည်။ မွန်ဂိုတို့သည် ရှမ်းပြည်တို့ကို တိုက်ခိုက်ဖျက်ဆီးမှု မပြုဘဲ စော်ဘွားများ

၁ ... စံရှိ (လယ်ဝန်) ၄င်းစာ နှာ ၁၈-၁၉။

အား မိမိ မိမိတို့၏ နယ်မြေများကို နယ်ခံစော်ဘွားအဖြစ် ပြန်လည်သတ်မှတ် ပေးခဲ့သည်။ ခွန်တိုင်းလုံ၊ စောလုံမြို့ပုံ၊ ကီမစော်ဘွားတို့အား မွန်ဂိုဘုရင်က ရွှေတံဆိပ်တော်တစ်ခုစီ ချီးမြှင့်ခဲ့သည်။ စောလုံမြို့ပုံသည် မိမိ၏ ဟော်နန်းမြို့ကို ရွှေလီမြစ်၏ မြောက်ဘက်သို့ ထပ်မံရွှေ့ပြောင်းခဲ့ပြီး ထိုမြို့သည် မိန်းမောဝ် (ရွှေလီမြို့)ဖြစ်လေသည်။ စောလုံမြို့ပုံသည် အေဒီ ၁၂၉၅ ခုနှစ်တွင် နတ်ရွာစံခဲ့လေသည်။[၁]

## ၂း၇း၈ ။ မောသခင်မ နန်းအိခမ်းလှိုင် AD 1295-1311

စော်ဘွားကြီးစောလုံမြို့ပုံသည် ထီးနန်းဆက်ခံရန် သားတော်မရှိခဲ့ချေ။ ထို့ကြောင့် မှူးမတ်နှင့်ပြည်သူများက ဒုတိယသမီးတော် နန်းအိခမ်းလှိုင်အား မောပြည်ကို အုပ်ချုပ်စေခဲ့သည်။ နန်းအိခမ်းလှိုင်သည် မောသခင်မအဖြစ် (၁၆) နှစ်အုပ်ချုပ်ပြီး အေဒီ ၁၃၁၁ ခုနှစ်တွင် ကံတော်ကုန်ခဲ့သည်။[၂]

## ၂း၇း၉ ။ မောဘုရင်ဆေခန်ဖ Hso Hkan Hpa AD 1311-1364

မောသခင်မ နန်းအိခမ်းလှိုင် နတ်ရွာစံပြီးနောက် တိုင်းပြည်ကို အုပ်ချုပ်မည့် မင်းဆက်လိုအပ်နေသဖြင့် မှူးမတ်တို့သည် လွယ်လောတောင်ခြေ နမ့်ကိုင်မော်အရပ်သို့သွားပြီး နန်းဝမ်စေတို့၏ မိသားစုကို မောပြည်ထောင်အား အုပ်ချုပ်ရန် သွားရောက်ပင့်ဆောင်ခဲ့သည်။ သား

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.144

၂။ Hsen (Khur) op.cit. p.148 & စံရိ (လယ်ဝန်) ၄င်းစာ၊ နှာ၊ ၁၉။

တော် ခွန်ယီခန်ခမ်းကို မောပြည်စော်ဘွားအဖြစ် တင်မြှောက်ကြလေ
သည်။[၁]

ခွန်ယီခန်ခမ်းနှင့် ညီတော်ခွန်ဆမ်လုံတို့သည် ငယ်ရွယ်စဉ်က
တည်းက မိခင်နှင့်အတူ ဆင်းရဲစွာ နေလာခဲ့ကြရသည်။ အရွယ်ရောက်
လာသောအခါ သူတို့ညီအစ်ကို တောင်ယာခုတ်၍ မိခင်ကို လုပ်ကျွေး
လာခဲ့ရသည်။ တစ်နေ့သ၌ ညီအစ်ကိုနှစ်ယောက်သည် သူတို့၏ တောင်
ယာအတွင်းရှိ ကျောက်တုံးကြီးတစ်လုံးကို ဖယ်ရှားရာမှ ထူးဆန်းသော
အမှတ်အသားပါရှိသည့် ပစ္စည်းတစ်ခုကို ရရှိလာသဖြင့် မိခင်ဖြစ်သူကို
လာရောက်ပြသသည်။ မိခင်က နန်းတွင်းဆိုင်ရာ အမှတ်တံဆိပ်တော်
ဖြစ်သဖြင့် သေချာစွာသိမ်းထားစေခဲ့သည်။ ထိုတံဆိပ်တော်သည် မောသ
ခင်မ နန်းအိခမ်းလှိုင်က သူမ၏သူငယ်ချင်းလည်းဖြစ် မိထွေးလည်းဖြစ်
သော နန်းဝမ်စေ့အား တိတ်တဆိတ်ပေးထားခဲ့ခြင်းဖြစ်၍ ထိုကျောက်
တုံးအောက်၌ ဝှက်ထားသည်ဟုဆိုသည်။ တစ်နေ့တွင် ခွန်ယီခန်ခမ်း
သည် သက်ငယ်ရိတ်နေစဉ် ကျားကြီးတစ်ကောင်သည် သူ၏ကျော
ကုန်းပေါ်သို့ ခုန်အုပ်လေသည်။ ခွန်ယီခန်ခမ်းသည်လည်း ထိုကျားကိုပြန်
လည်ခုခံတိုက်ခိုက်သဖြင့် ကျားကြီးမှာ ထွက်ပြေးသွား ရတော့သည်။
သူ၏ကျောတွင် ကျားကုတ် ထားသော လက်သည်းအရာ ကျန်ရှိခဲ့သဖြင့်
သူ၏ နာမည်သည်လည်း ဆေခန်ဖ (ဓားဖြင့်ခုတ်ထားသကဲ့သို့ ကျားခြစ်
ကုတ်ထားသော အရာရှိသူ) ဟူ၍ အမည်တွင်လေသည်။[၂]

အေဒီ ၁၃၁၁ တွင် ဆေခန်ဖသည် မောပြည်ဟော်နန်းဟောင်း
တွင် စံမြန်းနေထိုင်ခဲ့ပြီး အေဒီ ၁၃၁၂ ခုနှစ်တွင် ဟော်နန်းကို စေ

---

၁။ Hsen (Khun) op.cit. p.149 & စံရီ (လယ်ဝန်) ၄င်းစာ၊ နှာ ၂၀။
၂။ Hsen (Khun) op.cit. p.144 & စံရီ (လယ်ဝန်) ၄င်းစာ၊ နှာ ၂၀ ၂၁။

ဟိုင်းအရပ်၌ ပြောင်းရွှေ့တည်လေသည်။ ထိုအေဒီ ၁၃၁၂ ခုနှစ်တွင် ဆေခန်ဖသည် ရှေးခေတ် 'တိုင်း' (ရှမ်း) စာကို မောရှမ်းစာ (ပဲပင်ပေါက်စာ)သို့ ပြောင်းလဲ အသုံးပြုခဲ့သည်။ အေဒီ ၁၃၁၄ ခုနှစ်တွင် ဆေခန်ဖသည် အသက်(၂၄)နှစ်အရွယ်တွင် မောပြည်၏ ဟော်နန်းသစ်ကို စံမြန်းတော်မူသည်။ "ကမ္ဘောဇမှရှမ်းမင်းများ သူ့နေရာနှင့်သူ သူတစ်လူငါတစ်မင်း အုပ်ချုပ်နေကြခြင်းသည် မသင့်တော်၊ အချင်းချင်း သွေးစည်းညီညွတ်မှသာလျှင် သင့်တော်မည်။ ထိုကဲ့သို့ သူတစ်လူငါတစ်မင်း အုပ်ချုပ်နေခြင်းသည် တိုင်းတစ်ပါးတို့ကလည်း မလေးမခန့်၊ မိမိတို့၏ အမျိုးဇာတိဂုဏ်သည်လည်း မတောက်ပ၊ အချင်းချင်း သွေးစည်းညီညွတ်ကြရမည်"ကို ဆေခန်ဖသည် ကောင်းစွာ သဘောပေါက်လေသည်။[၁]

ဆေခန်ဖသည် စဝ်ပန်းနွဲ့(ဝိန်းနန်)နှင့် ခွန်တောဝ့်နွဲ့ချယ် (ရှန်ဆည်)တို့ထံ သံတမန်စေလွှတ်၍ 'တိုင်း'(ရှမ်း) ပြည်စည်းရုံးရေးကိစ္စ ဆွေးနွေးရန် အတန်တန်ဖိတ်ခေါ်သည်။ သို့သော် စဝ်ပန်းနွဲ့နှင့် ခွန်တောဝ့်နွဲ့ချယ်သည် လက်မခံသဖြင့် ဆေခန်ဖသည် သူ၏မောပြည်စစ်ကြောင်းဖြင့် ချီတက်တိုက်ခိုက်ရလေသည်။ ဆေခန်ဖ၏ တိုက်ခိုက်မှုကို မခံနိုင်သဖြင့် ခွန်တောဝ့်နွဲ့ချယ်တို့သည် သီပေါ(တာပုတ်)အထိ ထွက်ပြေးတိမ်းရှောင်ရသည်။ ထိုနောက် ခွန်တောဝ့်နွဲ့ချယ်တို့သည် အချင်းချင်းတိုင်ပင်ပြီး နှစ်ပြည်ထောင်ချစ်ကြည်ရေးအတွက် ၎င်း၏ညီမတော်နန်းအိုင်ခမ်းလှိုင်အား ဆေခန်ဖထံသို့ဆက်သပြီး ပြေလည်မှုကို ရယူခဲ့ကြသည်။[၂]

အေဒီ ၁၃၁၅ ခုတွင် ဆေခန်ဖသည် သံတမန် (၁၀) ဦးကို မိုးမိတ်သို့ စေလွှတ်ပြန်သည်။ မိုးမိတ်စော်ဘွား ခွန်တိုင်ခင်သည် ထိုသံတမန်

---

၁။ Hsen (Khur) op.cit, p.149 & ဝံရိ (လယ်ဝန်) ၎င်းစာ၊ နှာ၊ ၂၁-၂၂။
၂။ Ibit.

(၁၀)ဦးတွင် (၇)ဦးကို သတ်ပစ်လိုက်ပြီး သုံးဦးအားပြန်လည်လွှတ်ပေးကာ ဆေခန်ဖ၏ မောနယ်အချို့ကို တိုက်ခိုက်သိမ်းယူလေတော့သည်။ ထို့ကြောင့် ဆေခန်ဖကိုယ်တိုင် စစ်ကြောင်းတစ်ကြောင်း၊ ညီတော်ခွန်ဆမ်လုံက စစ်ကြောင်းတစ်ကြောင်းဖြင့် မိုးမိတ်သို့ ချီတက်တိုက်ခိုက်ရာ ခွန်တိုင်ခင်❀သည် ဇွန်ကိုးအထိ ထွက်ပြေးတိမ်းရှောင်ရသည်။ မှူးမတ်များက ပြည်သူလူထုများ ဒုက္ခမရောက်ရလေအောင် ဆေခန်ဖကို မတိုက်ရန် ပြောပါသော်လည်း ခွန်တိုင်ခင်သည် နားမထောင်ဘဲ တိုက်ဆင် (၁၀၀၀) ဖြင့် ဆေခန်ဖတို့အား ခုခံတိုက်ခိုက်သည်။ ဆေခန်ဖတို့ တိုက်ဆင် (၈၀၀) ရှိသည်။ မိုးမိတ်တပ်များမခံနိုင်ကြဘဲ ကစဉ့်ကလျား ထွက်ပြေးကြရာ ခွန်တိုင်ခင်ကို အရှင်ဖမ်းမိလေသည်။ မိုးမိတ်မှူးကြီးမတ်ရာများသည် လက်ဆောင်ပဏ္ဏာများ စီရင်ကြပြီး ဆေခန်ဖထံသို့ လာရောက်ဆက်သကြသည်။ ဆေခန်ဖသည် ခွန်တိုင်ခင်ကို မှူးမတ်များ လက်သို့ လွှဲအပ်ခဲ့သဖြင့် မှူးမတ်တို့က ခွန်တိုင်ခင်ကို ဇွန်ကိုးတွင် ကွပ်မျက်ပစ်လိုက်သည်။ မိုးမိတ်ပြည်သူလူထု၏ ဆန္ဒအတိုင်း ခွန်တိုင်ခင်၏ ညီတော် "ခွန်တိုင်ကိုင်"ကို မိုးမိတ်စော်ဘွားကြီးအဖြစ် ခန့်အပ်ခဲ့သည်။ ခွန်တိုင်ခင်၏ ဇနီးဖြစ်သူ နန်းအမ်ခေါင်နှင့် သမီးတော် နန်းယေ့ခင်၊ သားတော် ခွန်အိုက်ပူးခမ်းကို

---

❀ ကမ္ဘောဒီးယားမှ မိုးမိတ်သို့လာရောက်အုပ်စိုးသော စော်ဘွားမင်းဆက်သည်လည်း အောက်ပါအတိုင်း (၇)ဆက်ရှိသည်ကို တွေ့ရသည်။

| | |
|---|---|
| (၁) ခွန်ခမ်းချင်ဖ | အေဒီ ၉၅၉-၁၀၆၈ |
| (၂) ခွန်တာကာ | အေဒီ ၁၀၆၈-၁၁၈၆ |
| (၃) ခွန်ကုံး(မ်) | အေဒီ ၁၁၈၆-၁၂၇၅ |
| (၄) ခွန်ယီကွဲခမ်း | အေဒီ ၁၂၇၅-၁၃၀၆ |
| (၅) ဖေစန်ခန် | အေဒီ ၁၃၀၆-၁၃၁၅ |
| (၆) ခွန်တိုင်းခင် | အေဒီ ၁၃၀၈-၁၃၁၅ |
| (၇) ခွန်တိုင်းကိုင် | အေဒီ ၁၃၁၅-၁၃၂၀ |

ဆေခန်ဖသည် မောပြည်သို့ ခေါ်ဆောင်သွားသည်။ မောပြည်စစ်သူကြီး တောဝ့်ခန်မွန်းသည် မိုးမိတ်သို့ ရှေ့တန်းတာဝန် ထမ်းဆောင်နေစဉ် ဇနီးဖြစ်သူ ကွယ်လွန်သွားခဲ့လေသည်။ ဆေခန်ဖသည် ခွန်တိုင်ခန်၏ဇနီး နန်းအမ်ခေါင်ကို စစ်သူကြီး တောဝ့်ခန်မွန်းအား လက်ဆက်ထိမ်းမြား ပေးလေသည်။[၁]

ဆေခန်ဖသည် အေဒီ ၁၃၁၆ ခုတွင် ရှမ်းဒေသများဖြစ်ကြသော မိုးမိတ်၊ ရပ်စောက်၊ ညောင်ရွှေ မိုးဗြဲ၊ ဇင်းမယ်၊ ကျိုင်းဟုန်၊ ကျိုင်းတုံ၊ မိုးနဲ၊ ကီမ၊ မိန်းတိန်နှင့် ချိုင်းသိရိတို့ကို တိုက်ခိုက်စည်းရုံးယူရသည်။[၂]

အေဒီ ၁၃၁၇ ခုနှစ်တွင် ဆေခန်ဖသည် ရှေးခေတ် 'တိုင်' (ရှမ်း) တို့၏ တိုင်းပြည်ဖြစ်သော ယူနန်နယ်အားလုံးကို ပြန်လည်တိုက်ခိုက် သိမ်းယူလိုသောကြောင့် သူ၏လက်အောက်ခံ ရှမ်းစော်ဘွားများကို စစ်အင်အားစုစည်းစေပြီး စစ်သေနာပတိ ခွန်ဆမ်လုံ၊ စစ်သူကြီးတောဝ့်ခန်မွန်း၊ တောဝ့်ဖလော်၊ တောဝ့်ဟန်ကိုင်၊ တောဝ့်ဆေယင်းတို့ကို ဦးစီး၍ စစ်အင်အားလေးသိန်းဖြင့် ယူနန်နယ် မိန်းဆည်သို့ စစ်ချီလေသည်။ ဆိလုံတူ Se Sung Tu နှင့် မိန်းဆည်လုံ Mong Se Long (ခေါ်) You nan fu တွင် တရုတ်တို့နှင့်တိုက်ပွဲ ဖြစ်ပွားခဲ့သည်။ တာလီမြို့နှင့် မောနိုင်ငံအကြားရှိ မိန်းတိ Mong Ti မိန်းန Mong Na၊ မိန်းမှဲန်း Mong Man နှင့် ယွန်ချန် Yung Chang တို့ကို မောဘုရင် ဆေခန်ဖက သိမ်းပိုက်နိုင်ခဲ့သည်။ တရုတ်ဘုရင်ယွင် Yuan သည် ယူနန်ဘုရင်ခံထံမှတစ်ဆင့် ဆေခန်ဖတို့ စစ်လာတိုက်ခြင်း၏ အကြောင်းကို မေးမြန်းစုံစမ်းစေရာ ရှေးခေတ်ရှမ်းဘိုးဘေးတို့၏ နယ်မြေကို ပြန်ရလိုကြောင်း သိရသဖြင့် စစ်ပြေငြိမ်းစာချုပ်ချုပ်ဆိုပြီး ဆေခန်ဖအား မိန်း

---

၁။ Hsen (Khur) op.cit. PP.150-1 & စံရီ (လယ်ဝန်) ၎င်းစာ၊ နှာ ၂၂-၂၃။
၂။ Hsen (Khur) op.cit. p.151

ဆည် ယွန်ချန် မူအန် ပူးခန့်ဒေသတို့ကို ပေးအပ်ခဲ့ရသည်။ ၁၃၁၈ ခုနှစ်တွင် ဆေခန်ဖတို့သည် မောနေပြည်တော်သို့ ပြန်လာခဲ့သည်၊

ဆေခန်ဖသည် ရှမ်းပြည်အရှေ့ပိုင်းဒေသ လောနိုင်ငံသို့ချီတက်ပြီး အချက်အချာကျသော လောမြို့များကို သိမ်းပိုက်နိုင်ခဲ့သည်၊ ထို့မှ တစ်ဖန် ဆေခန်ဖသည် ယိုးဒယားသို့ ချီတက်တိုက်ခိုက်အောင်မြင်နိုင်ပြီး ကမ္ဘောဒီးယားနိုင်ငံအထိ ဆေခန်ဖ၏ တန်ခိုးသြဇာအာဏာသက်ရောက်သည်။ အောက်မြန်မာပြည်ရှိ မွန်တို့ ဒေသဖြစ်သော သထုံ ပဲခူး ရန်ကုန် မော်လမြိုင်တို့ကိုလည်း ဆေခန်ဖသိမ်းယူနိုင်ခဲ့သည်။

မောနေပြည်တော်သို့ ပြန်လာခဲ့ပြီး ဆေခန်ဖသည် ရခိုင် (ဝေသာလီ) အာသံ မဏိပူရနှင့် အထက်မြန်မာပြည် အရပ်ဒေသများသို့ စစ်ကြောင်းသုံးကြောင်းဖြင့် ချီတက်စေပြန်သည်။ အာသံ မဏိပူရနှင့် အထက်မြန်မာပြည်အရပ်ဒေသများသည် ရှမ်းမျိုးနွယ်များ မြို့ရွာ တည်ထောင်ပြီး နေထိုင်နှင့်ပြီးဖြစ်သည်။ အာသံပြည်နယ်တွင် အဟုမ်ရှမ်းများသည် အေဒီ ၁၂၂၈ ကတည်းက ဝင်ရောက်နေထိုင်ကြောင်း အာသံသမိုင်းတွင် ဆိုသည်။ မဏိပူရတွင်လည်း တိုင်းမွဲ Tai Moy (သို့မဟုတ်) တိုင်းကတည်း Tai Kas sey များ နေထိုင်နှင့်ပြီးဖြစ်သည်။ အထက်မြန်မာပြည်ဖြစ်သော တကောင်း မိုးကောင်း မိုးညှင်း ဝန်းသို ဟုမ္မလင်း ကလေး ဗန်းမော် ပူတာအိုများကို တိုင်း(ရှမ်း) များ ပင် တည်ထောင်ကြကြောင်း သမိုင်းတွင်ဆိုထားသည်။ တကောင်းမြို့သည် ရှမ်းအသံထွက်ဖြင့် ခေါ်သော် "တာကောင်"ဖြစ်သည်။ "တာ" ၏ အဓိပ္ပါယ်သည် "မြစ်ကမ်းပါးတွင်ရှိသော ကူးတို့ဆိပ်" ဟုခေါ်သည်။ "ကောင်"သည် "အိုးစည်"

---

၁။ Milne. Leslie (Mrs) Shan at Home. P.21

၂။ Ibit

၃။ Ibit. op.cit. P.22.

ဖြစ်သည်။ ထို့ကြောင့် "တကောင်း(ခေါ်) တာကောင်"သည် "အိုးစည်ကူး တို့မြို့ Drum Ferry" ဟုအဓိပ္ပါယ်ရှိသည်။[၁] ခန္တီး Khamti အရပ် ဒေသတွင်လည်း ရှမ်းများ ရှေးခေတ်ကာလကပင် ဝင်ရောက် နေထိုင်ပြီး ဖြစ်သည်။ ထိုဒေသကို ယခုအခါခန္တီးလုံ Khamti Long ဆင်က လိုင်ခန္တီး SinKaling Khamti နှင့် သောင်သွပ် Songup ဟူ၍ ခွဲခြားခေါ်ဆိုထားသည်။ ဆင်ကလိုင်ခန္တီးသည် ချင်းတွင်မြစ်၏ အထက် ပိုင်းဒေသများပါဝင်ပြီး ခန္တီးလုံနှင့် ဆောင်ဆပဲ(ပူတာအိုအရပ်ဒေသ) သည် တိဗက်နယ်စပ်နှင့် ထိတွေ့သော ဒေသများပါဝင်သည်။ ဤဒေသတွင် နေထိုင်ကြသော ရှမ်းလူမျိုးများသည် လယ်ယာစိုက်ပျိုးရေးလုပ်ငန်းဖြင့် အသက်မွေးဝမ်းကြောင်း ပြုကြသည်။[၂]

ထိုစစ်ကြောင်းသုံးကြောင်းကို မိုးကောင်းစော်ဘွားဖြစ်သည့် ခွန် ဆမ်လုံ (ဆောခန်ဖ၏ညီတော်)နှင့် စပ်သူကြီးနှစ်ဦးတို့က ဦးဆောင်သည်။ စစ်ကြောင်းတစ်ကြောင်းသည် ရခိုင်အောင်နိုင်ခဲ့သည်၊ ဒုတိယစစ် ကြောင်း မဏိပူရကို အောင်မြင်သည်။ တတိယစစ်ကြောင်းသည် အာသံ ကိုပရိယာယ်ဖြင့် အောင်နိုင်ခဲ့သည်။ ဤအောင်နိုင်မှုမှ မထင်မှတ်သော သဘောကွဲမှုတစ်ရပ် ပေါ်ပေါက်လာခဲ့သည် ဟုဆိုသည်။ ဝေသာလီ (အာသံ)သို့ရောက်စဉ် နွားကျောင်းသားများ အချို့က ကောသမ္ဗီစစ်သည် များ ရောက်လာကြောင်း သတင်းပို့သဖြင့် အာသံစားက ဆန့်ကျင် တိုက်ခိုက်ခြင်းမပြုဘဲ သုံးနှစ်တစ်ကြိမ် မြင်း(၂၅) ကောင်၊ ဆင်(၆)ကောင်၊ ရွှေပိဿာ(၁၀၀)ဆက်သရန် သဘောတူပြီး သံတမန်များကို ခွန်ဆမ်လုံ နှင့်အတူ ထည့်ပေးလိုက်လေသည်။[၃]

---

၁။ Cochrane (W.W) The Shans P.4 & အောင်ထွန်း(စိုင်း)၊ ၎င်းစာ၊ နှာ၊ ၁၃။

၂။ William Chifton (Dodd.D.D) The Tai Race. P.219

၃။ Milne, Leslie (Mrs) op.cit. P.22 & စံရှိ (လယ်ဝန်) ၎င်းစာ၊ နှာ၊ ၂၅-၂၆။

ဝေသာလီကို အောင်နိုင်ခြင်းသည် မည်သည့်တိုက်ခိုက်မှုမရှိခဲ့ဘဲ အောင်နိုင်ခဲ့သဖြင့် စစ်သူကြီးနှစ်ဦးသည် မဆင်မခြင်ခနဲ့စကားများပြောကြားနေသည်ကို ခွန်ဆမ်လုံက သူတို့နှစ်ဦးအား ထိုသို့မပြောရန်သတိပေးခဲ့သည်။ ထိုစစ်သူကြီးနှစ်ဦးသည် မိမိတို့၏ အကြောင်းကို ခွန်ဆမ်လုံက မောဘုရင်ဆေခန်ဖထံ တင်ပြမည်ကို စိုးရိမ်သဖြင့် ခွန်ဆမ်လုံလက်ထက်ဦးမှုကို ရယူနိုင်ရန် ဆေခန်ဖထံသို့ လျှို့ဝှက်စာများ ပို့ခဲ့လေသည်၊ ထိုစာတွင် ခွန်ဆမ်လုံသည် အာသံတို့နှင့် လျှို့ဝှက်တိုင်ပင်မှုရှိပြီး ဆေခန်ဖကို လုပ်ကြံရန် အစီအစဉ်ရှိကြောင်း စသည်တို့ပါဝင်သဖြင့် ဆေခန်ဖသည် ထိုစစ်သူကြီးနှစ်ဦး၏ စကားကိုယုံကြည်ပြီး ခွန်ဆမ်လုံကို အဆိပ်ခတ်၍ လုပ်ကြံလိုက်လေသည်။[၁] တချို့ကမူ ခွန်ဆမ်လုံသည် မိခင်၏သတိပေးမှုကြောင့် တရုတ်ပြည်သို့ ထွက်ပြေးသွားသည် ဟုလည်းဆိုသည်။[၂] တချို့ကမူ ရုတ်တရက်အဖမ်းခံရပြီး ရွှေလီမြစ်တွင် ကွပ်မျက်ခြင်းခံရသည်ဟုဆိုသည်။[၃]

အေဒီ ၁၃၂၀ ခုနှစ်တွင် ခွန်ဆမ်လုံသည် ဝေသာလီသို့စစ်ထွက်နေစဉ် မောဘုရင်ဆေခန်ဖသည် ခွန်ဆမ်လုံ၏ ဇနီးနန်းကန့်ခမ်းဆိုင်နှင့် စကားများခဲ့သဖြင့် နန်းကန့်ခမ်းဆိုင်သည် ကိုယ်ဝန်နှင့်တကွ မောပြည်မှ နှင်ထုတ်ခြင်း ခံခဲ့ရသည်။ သူမသည် မိန်းရှုန်(ယူနန်နယ်) တွင်သွားရောက်ခိုလှုံခဲ့ပြီး သားတော်တစ်ပါး မွေးဖွားခဲ့သည်။ ထိုသားတော်၏ နာမည်သည် ခွန်အိုက်ပူးခမ်း Khun Ai Pu Kham ဖြစ်သည်။[၄]

---

၁။ Hsen (Khur) op.cit, P.157 & စံရီ (လယ်ဝန်) ရင်းစာ၊ နှာ၊ ၂၅-၂၆။
၂။ Milne, Leslie (Mrs) Shan at Home. P.22
၃။ Cochrane (W.W) The Shans P.69
၄။ Hsen (Khur) op.cit, PP.154-155 & စံရီ (လယ်ဝန်) ရင်းစာ၊ နှာ၊ ၂၀။

အေဒီ ၁၃၆၃ ခုနှစ်တွင် မင်းမျိုးမဟုတ်သူသည် စစ်ကိုင်း၌မင်းပြုနေသည်ဟု ပင်းယမင်းနရသူက ဆောခန်ဖကို စစ်ကိုင်းသို့စစ်ထိုးရန် အရေးဆိုလာသည်။ စစ်ကိုင်းတွင် ဆန်စပါးများစွာရှိကြောင်း၊ စစ်ကိုင်းကိုရလျှင် အခွန်ကိုသာယူမည် အဆန်ကို ပေးပါမည်ဟုဆိုသည်။ ဆောခန်ဖသည် သားတော်နှစ်ပါးအား မောစစ်သည်တော်များကို ဦးစီးစေ၍ စစ်ကိုင်းသို့ စေလွှတ်လေသည်။ သတိုးမင်းဖျားက တကောင်းတွင် ခုခံတိုက်ခိုက်သော်လည်း မောရှမ်းတို့၏ တပ်ကို မခုခံနိုင်သဖြင့် စစ်ကိုင်းသို့ ဆုတ်ခွါလာသည်။ ဘထွေးတော်မင်းပျောက်လည်း ထွက်ပြေးလာသော သတိုးမင်းဖျားကို ဖမ်းပြီး ကြခတ်ဝသို့ပို့လေသည်။ စစ်ကိုင်းက ခုခံသော်လည်း မခုခံနိုင်သဖြင့် စစ်ကိုင်းပျက်စီးခဲ့ရသည်။[၁]

ပင်းယနရသူဖိတ်ခေါ်၍ မောစစ်သည်များသည် စစ်ကိုင်းသို့လာရောက်တိုက်ခိုက်သော်လည်း နရသူသည် ဝင်ရောက်ကူညီခြင်းမရှိချေ။ ထို့ကြောင့် မောရှမ်းတို့သည် ပင်းယကိုဝင်ရောက်တိုက်ခိုက်ပြီး နရသူကို မောပြည်သို့ ဖမ်းဆီးခေါ်ဆောင်သွားလေသည်။ နရသူသည်လည်း "မောပါနရသူ" ဟူ၍ အမည်တွင်လေသည်။[၂]

အေဒီ ၁၃၆၂ ခုနှစ်တွင် တရုတ်ဘုရင် မင်မင်းဆက် Ming တို့က မောရှမ်းပြည် 'လုံဆန်၊ မူအန်၊ ပူးခန့်လုံ' တို့ကို သိမ်းပိုက်ယူပြီး ပန်မုံ၊ စယ်နေ၊ မော်လိတ်၊ ဟိုခေါင်းတို့တွင် တပ်စွဲထားကြလေသည်။ ဆောခန်ဖသည် တရုတ်တို့နှင့် သုံးလကြာအောင် ရှုပ်ရှုပ်ချွံချွံ တိုက်ခိုက်ကြရာ နှစ်ဘက်စလုံး အကျအရှုံးများစွာ ရှိခဲ့သည်။ တရုတ်တို့သည် မခုခံနိုင်တော့သဖြင့် ပြန်လည်ဆုတ်ခွါသွားကြလေသည်။ အေဒီ ၁၃၆၃ ခုနှစ်တွင် မောဘုရင်ဆောခန်ဖသည် ပန်မတ်ဟူဒေသ (တာဆုတ်ဦ) တွင် နန်းတော်

---

၁။ ကုလား (ဦး) မဟာရာဇဝင်ကြီး၊ နှာ၊ ၃၃၇၊ စံရှိ(လယ်ဝန်) ရင်းစာ၊ နှာ၊ ၂၆-၂၇
၂။ ကုလား (ဦး) ရင်းစာ၊ နှာ၊ ၃၃၂

အသစ် တည်တော်မူ၍ ထိုနေရာသို့ ပြောင်းရွှေ့စံတော်မူသည်။ အေဒီ ၁၃၆၅ ခု၊ သက်တော် (၇၄) နှစ် နန်းသက် (၅၄) တွင် နတ်ရွာစံခဲ့သည်။[၁]

၂း၇း၁၀။ ဆေပိန်ဖ

## Hso Pheam Hpa AD 1365-1367

ဆေခန်ဖ၏ သားတော်အကြီးဖြစ်၍ အေဒီ ၁၃၆၅ ခုနှစ်တွင် ဖခင်၏ အရိုက်အရာကို ဆက်ခံတော်မူသည်။ သားတော် ခွန်တိုင်ပင် (သို့မဟုတ်) ဆေဝတ်ဖကို အိမ်ရှေ့မင်းအရာထား၍ အေဒီ ၁၃၆၇ ခုနှစ်တွင် နတ်ရွာစံခဲ့လေသည်။[၂]

၂း၇း၁၁။ ဆေဝတ်ဖ

## Hso Wak Hpa AD 1367-1369

အေဒီ ၁၃၆၇ ခုနှစ်တွင် နန်းတက်လာပြီးနောက် စိတ်ရောဂါဖြစ်ပြီး မည်သည့်တိုင်းရေးပြည်ရာကို မဆောင်ရွက်နိုင်သည့်အပြင် သူတစ်ပါးတို့၏ သမီးပျိုများကိုလည်း ဖျက်ဆီးလေသည်။ ဆေပိန်ဖ၏ ညီဖြစ်သူ ဆေစင်ဖ (သိုစင်ဘွား)က ထိုသို့မလုပ်ရန် တားဆီးသော်လည်း မရသဖြင့် သိုစင်ဘွားသည် အင်းဝသို့ဆင်းလာပြီး သတို့မင်းဖျားထံတွင် ခိုလှုံနေသည်။ ပြည်သူလူထုများသည်လည်း ဆေဝတ်ဖ၏ လက်အောက်တွင် မနေချင်တော့သဖြင့် အများအပြား ထွက်ပြေးတိမ်းရှောင်ကြရသည်။ အေဒီ ၁၃၆၉ ခုနှစ်တွင် မူးမတ်နှင့်မင်းအတိုင်ပင်ခံတို့က ဆေဝတ်ဖကို

---

၁။ Hsen (Khur) op.cit, P.157 & စံရီ (လယ်ဝန်) ရင်းစာ၊ နှာ၊ ၂၇။

၂။ Hsen (Khur) op.cit, P.157 & စံရီ (လယ်ဝန်) ရင်းစာ၊ နှာ၊ ၂၈။

ကွပ်မျက်လိုက်လေတော့သည်။ ဆေဝတ်ဖသည် (၁၅) လခန့် တိုင်းပြည်ကို အုပ်ချုပ်မင်းမူသွားခဲ့သည်။[၁]

၂း ၇း ၁၂။ ဆေစင်ဖ (ခေါ်) သိုစင်ဘွား

## Hso Sin Hpa AD 1369-1370

ဆေဝတ်ဖလွန်ပြီးသောအခါ နန်းအရိုက်အရာဆက်ခံမည့်သူ မရှိတော့သဖြင့် မူးမတ်များသည် 'အဝ'သို့ဆင်းကာ ဆေစင်ဖကို ပင့်ဆောင်သွားလေသည်။ ဆေစင်ဖသည် (၆) လမျှသာ မင်းဖြစ်ခဲ့ပြီး ရှူးသွပ်ကာ မိမိလည်ပင်းကို ဓားဖြင့်ထိုး၍ အနိစ္စရောက်ရလေသည်။[၂]

## ၂း ၇း ၁၃။ ခွန်ပူးငေါ (ခေါ်) ဆေဟုံဖ AD 1370-1373

သိုစင်ဘွားနတ်ရွာစံပြီးနောက် မူးမတ်များက ဆေခန်ဖလက်ထက်တွင် ခွန်ဆမ်လုံ၏ ဇနီးဖြစ်သူ နန်းကန့်ခမ်းဆိုင်သည် ကိုယ်ဝန်နှင့်တကွ နန်းတော်မှ ဆင်းသွားသည်။ သားတော်မွေးလျှင် နန်းအရိုက်အရာကို ဆက်ခံနိုင်ရန် လိုက်လံရှာဖွေကြရာ နန်းကန့်ခမ်းဆိုင်သည် သားတော် ခွန်အိုက်ပူးခမ်းတစ်ယောက် ထွန်းကားခဲ့သည်။ ခွန်အုက်ပူးခမ်းသည် တရုတ်အမျိုးသမီးတစ်ယောက်နှင့် လက်ထပ်၍ သားတော်တစ်ပါး ထွန်းကားခဲ့သည်။ ခွန်အိုက်ပူးခမ်းထံသို့ မှူးမတ်များရောက်သွားပြီး ထီးမွေနန်းမွေကိုဆက်ခံရန် ပင့်လျှောက်သောအခါ မိမိမှာ အသက်ကြီးပြီဖြစ်သောကြောင့် ၎င်း၏သားတော် "ခွန်ပူးငေါ" ကိုသာ စေလွှတ်လိုက်သည်။ ခွန်ပူးငေါသည် ဆေဟုံဖအမည်ခံပြီး မောဝ်ဟော်နန်းကို စိုးစံသည်။

---

၁။ Hsen (Khur) op.cit. P.157 & စံရိ (လယ်ဝန်) ၎င်းစာ၊ နှာ၊ ၂၈။

၂။ Hsen (Khur) op.cit, P.157

နန်းတက် ပွဲတွင် မိုးကောင်း၊ မိုးညှင်း၊ ကလေးစော်ဘွားများကို ဖိတ်ခေါ်သော်လည်း မတက်ရောက်သောကြောင့် ဆေဟုံဖသည် မိုးကောင်း၊ မိုးညှင်းသို့ စစ်ချီတိုက်ခိုက်လေသည်။ မိုးညှင်း မိုးကောင်းတို့ ခုခံတိုက်ခိုက်သော်လည်း မခံနိုင်သဖြင့် နောက်ပိုင်းတွင် အညံ့ခံကြ ရလေသည်။ အေဒီ ၁၃၇၃ ခုနှစ်တွင် ဆေဟုံဖသည် စစ်သူကြီး၏ ဇနီးကို ပြစ်မှားကျူးလွန်မိသဖြင့် စစ်သူကြီးတော၀့်ဖလော်သည် မိုးညှင်းမှနေ၍ စစ်ချီလာသည်၊ သိန္နီစော်ဘွား တော၀့်ခန်မိန်းသည်လည်း ဆေဟုံဖကို ထိုသို့မပြုလုပ်ရန် တားမြစ်ခြင်းအလို့ငှာသိန္နီမှ ရောက်လာကြသည်။ ဆေဟုံဖသည် သိန္နီစစ်တပ်များ မောဝ်ပြည်ကို တိုက်ရန် ချီတက်လာသည်ဟု ထင်မှတ်၍ မိန်းရှုံ (ယူနန်)သို့ ထွက်ပြေး တိမ်းရှောင်သွားလေသည်။ မိုးညှင်းစစ်သူကြီးသည် သူ၏သားမယားတို့ကို မိုးညှင်းသို့ခေါ် ဆောင်သွားလေသည်။[၁]

## ၂း၇း၁၄ ။ တော၀့်ခန်မိန်း (ခေါ်) ဆေယစ်ဖ

## AD 1373-1374

ဆေဟုံဖထွက်ပြေးသည့်နောက် မှူးမတ်များက သိန္နီစော်ဘွားကို ထီးနန်းလွှဲအပ်လေသည်။ တော၀့်ခန်မိန်းသည်လည်း သိန္နီဟော်နန်းကို သားတော်ခမ်းတစ်ဖအား လွှဲပေးသည်။ တော၀့်ခန်မိန်းသည် ဆေယစ်ဖ အမည်ခံ၍ မောပြည်ဟော်နန်းကို ပူးကမ်ရွာ (အနော်ရထာ စခန်းချခဲ့သော နေရာ) သို့ပြောင်းရွှေ့စိုးစံသည်။ ထွက်ပြေးသွားသော ဆေဟုံဖသည် ချဲန်တူ Cheng Tu သို့ ရောက်သွားပြီး လက်ဆောင်ပဏ္ဏာ ဆက်သ၍ အကူအညီအမျိုးမျိုး တောင်းခဲ့သည်။ ချဲန်တူအုပ်ချုပ်ရေးမှူးကလည်း ဆင်(၄)ကောင်၊ ရွှေ(၄)ပိဿာ၊ ငွေ(၄၀)ပိဿာ စီမံစေပြီး

---

၁။ Hsen (Khur) op.cit, P.160 & စံရီ (လယ်ဝန်) ရင်း၀ာ၊ နှာ၊ ၂၉။

တရုတ်ဘုရင်ထံသို့ ဆက်သစေသည်။ ဆေယစ်ဖက သူ၏ထီးနန်းကို လာရောက်လုယူကြောင်း လျှောက်တင်သည်။ တရုတ်ဘုရင်က ဆေယစ်ဖကို သိသော်လည်း ဆေဟုံဖကို မသိသဖြင့် ဆေဟုံဖသည် ဆေခန်ဖနှင့် ခွန်ဆမ်လုံတို့ ကျောက်တုံးအောက်မှ ရရှိထားသော နန်းတွင်းပစ္စည်းကို ပြသနိုင်သဖြင့် တရုတ်ဘုရင်က ထိုကျောက်တံဆိပ်တုံးကို ရွှေတံဆိပ်နှင့် လဲလှယ်ပေးလိုက်သည်။[၁]

တရုတ်ဘုရင်သည် တရုတ်စစ်သူကြီး ဝမ့်ဆုံဖျင်းကို ဆေဟုံဖနှင့်အတူ မောပြည်သို့ဆင်းစေသည်။ တရုတ်စစ်တပ်သည် မောပြည်သို့ ရောက်လာကြပြီး ဆေယစ်ဖသည်လည်း စစ်တပ်ဖြင့် တိုက်ရန်ထွက်လာသည်။ တရုတ်စစ်သူကြီးက စစ်တိုက်ရန်လာခြင်းမဟုတ်၊ တိုင်းရေးပြည်ရာ ညှိနှိုင်းရန် လာခြင်းဖြစ်သည် ဟုဆို၍ ဆေယစ်ဖထံသို့ သံတမန်စေလွှတ်လိုက်သည်။ မိတ်ဆုံစားပွဲကျင်းပပြုလုပ်စဉ် တရုတ်စစ်သူကြီးက ဆေယစ်ဖအား လုပ်ကြံသတ်ပစ်လိုက်လေသည်။ ဆေယစ်ဖသည် အေဒီ ၁၃၇၇ ခုနှစ်တွင် လုပ်ကြံခြင်းခံရပြီး ဆေဟုံဖသည် ဒုတိယအကြိမ် မောဟော်နန်းကို စံမြန်းတော်မူလေသည်။[၂]

## ၂း၇း၁၅ ။ ဆေဟုံဖ AD 1374-1405
### (ဒုတိယအကြိမ် နန်းတက်ခြင်း)

အေဒီ ၁၃၇၄ ခုနှစ်တွင် ဆေယစ်ဖနတ်ရွာစံပြီးနောက် ဆေဟုံဖသည် ဒုတိယအကြိမ်နန်းတက်ပြန်သည်။ ဆေဟုံဖသည် သိုချီဘွားနှင့် သိုင်ဘွား သားတော်နှစ်ပါးထွန်းကားခဲ့သည်။ ဆေဟုံဖနန်းပြန်တက်လာသောအခါ သိန္နီသို့ စစ်ချီတိုက်ခိုက်လေသည်။ သိန္နီစော်ဘွားသည်လည်း

---

၁။ Hsen (Khur) op.cit. P.157 & စံရီ (လယ်ဝန်) ရင်းစာ၊ နှ၁၊ ၃၁။
၂။ Ibit.

သူ၏ခမည်းတော် လုပ်ကြံခံရသည်ကို သိရှိ၍ မိမိမှာလည်း အန္တရာယ် ကျရောက်နိုင်သည်ဟု သိသဖြင့် သိန္နီမှ ထွက်ပြေးတိမ်းရှောင်ပြီး သံလွင်မြစ်အနီး ဝမ့်ဆုတ်တိန်းတွင် မြို့တည်သည်။ ဆေဟုံဖနှင့် တရုတ်စစ်သူကြီးသည် သိန္နီစော်ဘွား ခမ်းတစ်ဖကို လိုက်လံတိုက်ခိုက်နေသဖြင့် ခမ်းတစ်ဖကလည်း လူသူစုရုံး၍ ကျိုင်းတောင်းတွင် ခုခံတိုက်ခိုက်သည်၊ တရုတ်စစ်တပ်များ အများအပြားကျဆုံးခဲ့ရသဖြင့် သိန္နီသို့ဆုတ်ခွါသွားခဲ့ကြသည်။ တရုတ်စစ်သူကြီးသည် တရုတ်ဘုရင်ထံသို့ စစ်သည်များ ထပ်မံစေလွှတ်ပေးရန် တောင်းခံသည်။ ခမ်းတစ်ဖသည်လည်း တရုတ်ဘုရင်ထံသို့ ဖြစ်ပျက်သမျှအကြောင်းစုံကို တင်ပြသဖြင့် တရုတ်ဘုရင်သည် နှစ်ဘက်စလုံး စစ်ရပ်စေပြီး ရွှေလီမြစ်ကို နှစ်နိုင်ငံနယ်ခြား အဖြစ်းသတ်မှတ် ပေးလိုက်သည်။ ရွှေလီမြစ်၏မြောက်ဘက်သည် မော ပြည်၏နယ်မြေ၊ ရွှေလီမြစ်၏ တောင်ဘက်သည် သိန္နီ၏နယ်မြေအဖြစ် သတ်မှတ်ပေးပြီး တရုတ်စစ်တပ်ကို ပြန်ရုပ်သိမ်းစေခဲ့သည်။ ဆေဟုံဖ သည် အေဒီ ၁၄၀၅ ခုနှစ်တွင် နတ်ရွာစံခဲ့လေသည်။[၁]

## ၂ ႈ ၇ ႈ ၁၆ ။ သိုင်ဘွား၊ သိုချီဘွား AD 1405-1420

သိုင်ဘွားသည် မောဘုရင်ဖြစ်လာသော်လည်း တရုတ်ဘုရင်ထံသို့ အခွန်ပဏ္ဏာဆက်သခြင်းမပြုခဲ့ချေ။ အေဒီ ၁၄၁၀ ခုနှစ်တွင် တရုတ်တို့က အခွန်ပဏ္ဏာဆက်သရန် သံတမန်ဖြင့် ဆင့်ခေါ်သော်လည်း သိုင်ဘွားက 'ငါ၏ဘိုးတော် ဆေခန်ဖလက်ထက်တွင် ငါတို့သည် သူတစ်ပါးတို့၏ ကျေးကျွန်မဟုတ်၊ သူတစ်ပါးတို့အား အခွန်ပဏ္ဏာဆက်သခြင်း မရှိခဲ့။ ထို့ကြောင့် ငါအခွန်ကို မဆက်သနိုင်'ဟုဆိုသည်။ တရုတ်ဘုရင်မင်

---

၁။ Hsen (Khur) op.cit, P.160-161 & စံရိ (လယ်ဝန်) ရင်းစာ၊ နှာ၊ ၃၁-၃၂။

မင်းဆက် Ming Dynasty သည်လည်း တရုတ်စစ်တပ်ကို မောပြည်သို့ တိုက်ခိုက်ရန် စေလွှတ်တော်မူသည်။ သိုင်ဘွား သို့ချိဘွားတို့သည်လည်း တရုတ်တို့ကို ရှုပ်ရှုပ်ချွံချွံ ခုခံတိုက်ခိုက်သဖြင့် တရုတ်တပ် ပျက်ပြီး မိန်းလုံအထိ လိုက်လံတိုက်ခိုက်ခြင်းခံရသည်။ တရုတ်ဘုရင်က လည်း နောက်ထပ်စစ်ကူများထပ်မံပို့ပြီး တိုက်ခိုက်သည်။ သိုင်ဘွားတို့ ညီအစ်ကိုလည်း ကြံ့ကြံ့ခံ၍ ပြန်လည်တိုက်ခိုက်သဖြင့် တရုတ်စစ်သည်တော်များ အများအပြား ကျဆုံးပြန်သည်။ မောရှမ်းတပ်များသည် တရုတ်တို့အား သံလွင်မြစ်အညာပိုင်းအထိ လိုက်လံတိုက်ခိုက်သည်။ တရုတ်ဘုရင်သည် နောက်ထပ်စစ်သည်အင်အား များစွာထပ်မံစေလွှတ်သည့်အပြင် သိန္နီစော်ဘွားထံသို့လည်း စစ်ကူတောင်းဆိုလာခဲ့သည်။ သိုင်ဘွားတို့သည်လည်း သိန္နီထံသို့ အကူအညီတောင်းဆိုလာသည်။ သိန္နီစော်ဘွား ခမ်းကိုင်ဖသည်လည်း သိုင်ဘွားတို့အား ကူညီရန် စစ်သူကြီးနှစ်ဦးကို ဦးစီးစေ၍ စစ်သည်အင်အား အလုံးအရင်းနှင့် မောပြည်သို့ ချီလေသည်။ သို့သော် သိုင်ဘွားတို့ စစ်ရှုံးပြီး ဗန်းမော်ဘက်သို့ ထွက်ပြေးသွားလေသည်၊ နန်းတွင်းပစ္စည်းများကို ဧရာဝတီမြစ်မှတစ်ဆင့် မင်းခေါင်ငယ်ထံသို့ ပို့စေပြီး ညီအစ်ကိုနှစ်ယောက်သည် ဟူးကောင်းဘက်သို့ တိမ်းရှောင်နေသည်။ (မင်းခေါင်ငယ်၏ မိဖုရားသည် သိုင်ဘွားနှင့် ဆွေမျိုးတော်စပ်သောကြောင့် ထိုသို့ပို့ရခြင်းဖြစ်သည်) သိန္နီတပ်များ ရောက်လာချိန်၌ မောပြည်တွင် တရုတ်စစ်တပ်များ ပြည့်လျှံနေသည်ကိုသာ မြင်တွေ့ရသည်။ တရုတ်စစ်သူကြီး ဝမ့်ကျင်းရှိုးက သိန္နီတပ်များအဘယ်ကြောင့် မောပြည်သို့ ချီတက်လာရသနည်းဟု မေးမြန်းရာတွင် သိန္နီစစ်သူကြီးက တရုတ်ဘုရင်မင်းမြတ်ဆင့်ခေါ်၍ စစ်ကူရောက်လာကြောင်း ပြောဆိုသဖြင့် တရုတ်စစ်သူကြီးသည် သူတို့အား ကြိုဆိုလက်ခံကြလေသည်၊ "သိုင်ဘွားကို အရှင်ရရ အသေရရ မိအောင်ဖမ်းရမည်" ဟု တရုတ်ဘုရင်၏အမိန့်

တော်အရ တရုတ်စစ်သူကြီးနှင့် သိန္နီစစ်သူကြီးတို့သည် သိုင်ဘွားနှင့် သိုချိဘွားကို လိုက်လံရှာဖွေရလေသည်။[၁]

သိုင်ဘွားသည် အင်းဝမင်းထံခိုလှုံနေသဖြင့် တရုတ်တို့က မောမင်းသိုင်ဘွားကို တောင်းလာသည်။ အင်းဝမင်းနရပတိက မပေးသဖြင့် ကောင်းတုံတွင် စစ်ဖြစ်ကြသည်။ အစာရေစာရှားပါးမှုကြောင့် တရုတ်နှင့် သိန္နီတပ်တို့သည် မိုးဝန်းတွင်နေလေသည်။ နောက်တစ်နှစ်ခန့်အကြာ တရုတ်တို့သည် သိုင်ဘွားကို ထပ်မံတောင်းဆိုလာသဖြင့် အင်းဝသို့ ရောက်လာကြသည်။ အင်းဝမင်းသည်လည်း ရမည်းသင်းရှိ မင်းရဲကျော်ထင်ကို တိုက်နိုင်မှ သိုင်ဘွားကိုပေးမည်ဟု ပြောဆိုသဖြင့် တရုတ်တို့သည် ရမည်းသင်းကို တိုက်ခိုက်သိမ်းပိုက်သည်။ ရမည်းသင်းကို တိုက်ပြီးနောက် အင်းဝသို့ တရုတ်စစ်များရောက်လာသောအခါ သိုင်ဘွားသည် အဆိပ်သောက်၍ လွန်လေသည်။ တရုတ်တို့သည် သိုင်ဘွား၏ အလောင်းကို အခြောက်လှန်း၍ တရုတ်ပြည်သို့ ဆောင်လေသည်။[၂]

တရုတ်စစ်တပ်များ သိန္နီသို့ရောက်လာသောအခါ သိန္နီစော်ဘွားက သားတော်ခွန်ခမ်းလွတ်နှင့် ခွန်ခမ်းဟောက်အပါအဝင် အရာရှိအချို့တို့ကို တရုတ်စစ်သည်တို့အား တရုတ်ပြည်သို့ လိုက်ပို့စေသည်။ တရုတ်ဘုရင်သည် သိုင်ဘွား၏အလောင်းကို တွေ့ရ၍ လွန်စွာဝမ်းသာပြီး သိန္နီစော်ဘွားအား ဆုလာဘ်များနှင့်တကွ ရွှေတံဆိပ်တုံးတစ်ခု ပေးသနားတော်မူသည်ဟု ဆိုသည်။[၃]

တရုတ်တို့က သိုင်ဘွားအလောင်းကို ရသွားသော်လည်း သိုချိဘွားကို မဖမ်းမိချေ။ ထို့ကြောင့် သိုချိဘွားသည် လူသူအင်အား စုစည်း၍

---

၁။ Hsen (Khur) op.cit. PP.160-162 & စံနိ (လယ်ဝန်) ရင်းစာ၊ နှာ၊ ၃၄-၃၆။
၂။ ကုလား (ဦး) မဟာရာဇဝင်တော်ကြီး၊ (ဒုတိယအုပ်)၊ နှာ၊ ၇၈-၈၀။
၃။ Hsen (Khur) op.cit. PP. 163-164

တရုတ်တို့ကို ပုန်ကန်တိုက်ခိုက်ပြန်သည်။ ထိုအချိန်က တရုတ် စစ်သူကြီး ဝန်ချီသည် သူ့စစ်တပ်နှင့်အတူ သိုချီဘွားကို တိုက်ခိုက်ရာ သိုချီဘွား စစ်ရှုံး၍ ဧရာဝတီမြစ်အနောက်ဘက်ကမ်းသို့ ထွက်ပြေးလာသည်။ တရုတ်က အင်းဝမင်းထံ အကူအညီတောင်းသော်လည်း ယခင်သိုင်ဘွား အရေးတွင် မောပြည်အထိ အင်းဝကိုပေးမည်ဟု တရုတ်တို့က ဆိုသော်လည်း မပေးခဲ့သဖြင့် အင်းဝမင်းက မကူညီတော့ချေ။ တရုတ်တို့သည် ဧရာဝတီမြစ်အရှေ့ဘက်သို့ တစ်နှစ်စခန်းချသွားခဲ့သည်။ တရုတ်တို့၏ ရန်ကိုကြောက်သဖြင့် ရှမ်းပြည်သူလူထုအများအပြား ချင်းတွင်းမြစ် အတိုင်းဆန်တက်၍ အာသံအထိ ရွှေ့ပြောင်းနေထိုင်ကြသည်ဟု ဆို သည်။ မောမင်းဆက်များသည်လည်း သိုင်ဘွား၊ သိုချီဘွားတွင် အဆုံး သတ်လေတော့သည်။ ရွှေလီမြစ်၏ မြောက်ဘက်ရှိဒေသများသည်လည်း တရုတ်သြဇာခံများ ဖြစ်ခဲ့ရသည်။ ရွှေလီမြစ်တောင်ဘက်တွင် စော်ဘွား အသီးသီးရှိကြသော်လည်း သိန္နီသည် အင်အားကြီးသည့် နိုင်ငံအဖြစ် တည်ရှိခဲ့သည်။[၁]



---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.165

အေဒီ ၁၃၀၁ မှ ၁၃၆၄ ကိုးသိန်းသခင် ဆေခန်ဖ၏ မောအင်ပါယာ

# အခန်း (၃)

## ၃ း ၁ ။ မြန်မာနိုင်ငံအတွင်းရှိ ရှမ်းလူမျိုးတို့၏သမိုင်း AD ၁၂၈၀-၁၅၅၄

မြန်မာရာဇဝင်သမိုင်းများ၊ ကုန်းဘောင်သီပေါရာဇဝင်များအရ ရှမ်းပြည်ကို စတင်တည်ထောင်ခဲ့သူမှာ ဘိန္နကမင်းဖြစ်သည်ဟု ဆိုသည်။ ထို့ကြောင့် "ရှမ်းမင်းအစ ဘိန္နက"ဟုပင် ရေးသားခဲ့ကြလေသည်။ ထိုရာဇဝင်အရ တကောင်းမင်းအဘိရာဇာ၏ အဆက်အနွယ်ဖြစ်သော ဘိန္နကရာဇာမင်းလက်ထက်တွင် တကောင်းပြည်အား တရုတ်တို့ ဝင်ရောက်တိုက်ခိုက်လာသဖြင့် ထိုမင်းသည် တကောင်းနန်းကို စွန့်ခွါပြီးလျှင် ဧရာဝတီမြစ်အနောက်ဘက် မလယ်အရပ်၌ စိုးစံနေစဉ် ထိုမင်းနတ်ရွာစံ၍ ပါလာသော ဗိုလ်ချေခပင်း သုံးသင်းကွဲလေသည်။ တစ်သင်းကို ခေါင်းဆောင်သော ထိုမင်း၏ညီတော် ဘိန္နကရာဇ်သည် ရွှေလီမြစ်အထက်ပိုင်းသို့ ဆန်တက်သွားပြီးလျှင် ထိုမြစ်၏ လယ်ယာဘက်ကမ်းတွင် 'မိုင်းမော'ဟုခေါ်တွင်သော ဒေသ၌ အခြေချကာ ရှမ်းတစ်ဆဲ့ကိုးခရိုင်ကို တည်ထောင်ခဲ့သည်ဟု ဆိုသည်။ ထို့ကြောင့် "ရှမ်းပြည်ထောင်အစ မိုင်းမောက"ဟု လည်းဆိုရိုးပြုခဲ့ကြလေသည်။[၁]

## ၃ း ၂ ။ ရှမ်းညီနောင်သုံးပါး

အခါတစ်ပါး ဘိန္နကမြို့ကို အစိုးရသော စော်ဘွားကြီးတွင် သားတော်နှစ်ပါးရှိ၏။ စော်ဘွားကြီးမရှိ၍ သားတော်ကြီးက ဘိန္နကမြို့ကို

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၈၆

မင်းပြုတော်မူ၏။ နောင်တော်၏ လုပ်ကြံမှုကို စိုးရိမ်သဖြင့် ညီတော် အငယ် သိင်္ဂဗိုလ်သည် အလုပ်အကျွေးတို့နှင့်တကွ မြင်စိုင်းအရပ်သို့ တိမ်း ရှောင်လာသည်။ မြင်စိုင်းတွင် အသည်သူကြွယ်သမီးနှင့် အိမ်ထောင်ပြု ပြီး ရာဇသင်္ကြန်၊ အသင်္ခရာ၊ သီဟသူဟူသော သားတော်သုံးပါးထွန်းကား သည်။ အခါတစ်ပါး သိင်္ဂဗိုလ်သည် တူးရှင်းထမ်း၍ တောသို့ သွားရာဝယ် နောက်ကတူးရှင်းကို မိုးကြိုးပစ်လေ၏။ သိင်္ဂဗိုလ်လည်း "ငါကား အိုမင်းပြီ ငါသားမြေးတို့သည် ရှေ့သို့အထင်အရှား ကောင်းစားရစ်လိမ့်မည်" ဟူ၍ နိမိတ်ကိုဖတ်ပြီး သားသုံးယောက်ကို နရသီဟပတေ့မင်းကြီးအား ဆက်သ လေ၏။[၁]

နရပသီဟပတေ့မင်းကြီးသည်လည်း ထိုသူတို့၏ အသွင်အပြင် ကို မြင်တော်မူသည်ဖြစ်၍ အပါးတော်တွင် ခစားစေ၏။ ထိုသူသုံးယောက် တို့သည် နရသီဟပတေ့မင်း ပေးသမျှတာဝန်ကို ကျေပွန်စွာ ထမ်းဆောင် နိုင်ခဲ့သဖြင့် ကြီးစွာသော ဆုလာဘ်တော်နှင့်တကွ ကျေးရွာပေးတော်မူ၏၊ နရသီဟပတေ့မင်းကြီး မရှိ၍ သားတော်ကျော်စွာလက်ထက်တွင်လည်း အမှုတော်ကို ထမ်းသည်။ အောင်မြင်မှုများ၍ ကျေနပ်အားရတော်မူသော ကြောင့် အစ်ကိုအကြီးကို ရာဇသင်္ကြန်ဟူသော အမည်ဖြင့် မြင်စိုင်းမြို့ကို ပေးတော်မူ၏။ ညီအလတ်ကိုလည်း အသင်္ခရာဟူသောအမည်ဖြင့် မက္ခရာမြို့ကို ပေးတော်မူ၏။ ညီတော်အငယ်ကိုလည်း သီဟသူဟူသော အမည်ဖြင့် ပင်လယ်မြို့(ပင်လယ်ဘူး)ကို ပေးတော်မူ၏။[၂]

ကျော်စွာမင်း မင်းဖြစ်တော်မူလာပြီးနောက် မိဖုရားဖွားစောကို တိုင်ပင်ခြင်းမရှိသဖြင့် မင်း(၃)ဆက်တိုင်အောင် မိဖုရားဖြစ်ခဲ့သော မိဖုရား စောသည် ကျော်စွာမင်းအပေါ် မကျေနပ်မှုများ ပေါ်ပေါက်ခဲ့သည်၊

---

၁။ ကုလား(ဦး)၊ မဟာရာဇဝင်တော်ကြီး၊ (ပထမအုပ်)၊ နှာ၊ ၃၀၉-၃၁၀
၂။ ၎င်းစာ။

ထို့ကြောင့် မိဖုရားစောသည် ရှမ်းညီနောင်သုံးဦးကို တိုင်ပင်၍ ကျော်စွာမင်းကို နန်းချရန်စီစဉ်လေသည်။[၁]

အေဒီ ၁၂၈၇ ခုနှစ်တွင် မွန်ဂိုတပ်များ ပုဂံသို့ လာရောက် တိုက်ခိုက်သဖြင့် နရသီဟပတေ့မင်းသည် ပြည်သို့ထွက်ပြေး တိမ်းရှောင်ခဲ့ရသည်။ သားတော်ဖြစ်သူ သီဟသူက ခမည်းတော်ကို အဆိပ်ခတ်၍ လုပ်ကြံသဖြင့် နရသီဟပတေ့ (ခေါ်) တရုတ်ပြေးမင်း နတ်ရွာစံခဲ့သည်။ သီဟသူသည်လည်း ပဲခူးစားငပမွန်ငယ်ကို လေးနှင့်ပစ်ရာ မိမိမြားဖြင့် မိမိကိုယ်ကိုထိ၍ အနိစ္စရောက်လေသည်။ တရုတ်ပြေးမင်း နရသီဟပတေ့ နတ်ရွာစံပြီးနောက် သားတော်ငယ်ကျော်စွာမင်းသည် ၁၂၈၉ ခုနှစ်တွင် ပုဂံထီးနန်းကို သိမ်းမြန်းအုပ်စိုးသည်။[၂]

ရှမ်းညီနောင်သုံးဦးသည် အစတွင် ပုဂံ၏ ကျေးဇူးသစ္စာကို ခံယူဟန်ဆောင်ကြ၏။ မွန်ဂိုတို့ကို ကြောက်ရွံ့ရသဖြင့်လည်း ပုန်ကန်သူများအဖြစ် မခံယူလိုပေ။ သို့ရာတွင် သီဟသူသည် အေဒီ ၁၂၉၅ ခုနှစ်တွင် ဧကရာဇ်အဖြစ် ကြေညာသည်။ ကျော်စွာမင်းသည် မွန်ဂိုတို့နှင့် အဆက်အသွယ်ရှိနေရကား ရာဇသင်္ကြန်နှင့် သီဟသူတို့သည် တကောင်းတွင် ရှိနေသော မွန်ဂိုတို့ကို တိုက်ခိုက်ကြသည်။ ထို့နောက် ပုဂံကိုတိုက်၍ အေဒီ ၁၂၉၈ ခုနှစ်တွင် ကျော်စွာမင်းကို နန်းချကြသည်။ မိဖုရားဖွားစောနှင့် တိုင်ပင်ညှိနှိုင်းကာ ကျော်စွာမင်းကို သားနှင့်တကွ မြင်စိုင်းသို့ ပင့်ဆောင်၍ သင်္ကန်းဝတ်စေပြီး မြင်စိုင်း၌ အစောင့်အရှောက်နှင့်တကွ ထား၏။ ဤအတွင်း ကျောက်ဆည်ခရိုင်၏ အနောက်ဘက်ပိုင်းတွင် သီရိရာဇာ အမည်ဖြင့် မြန်မာဘုရင်တစ်ပါး ပေါ်ပေါက်၍ ရှမ်းတို့ကို တိုက်ခိုက်သည်။ ရှမ်းတို့သည် ပြပိုင်ဆိဖူ (ဇင်းမယ်)မှ စစ်ကူတောင်းကာ စားရေရိက္ခာ ||

၁။ ကုလား(ဦး)၊ မဟာရာဇဝင်တော်ကြီး၊ (ပထမအုပ်)၊ နှာ၊ ၃၀၉-၃၁၀

၂။ ၎င်းစာ၊ နှာ၊ ၃၀၆-၃၀၇

ကြွယ်ဝလှသော မြစ်သာဆယ့်တစ်ခရိုင်လုံးကို သိမ်းပိုက်ကြသည်။ ၁၂၉၉ ခုနှစ်တွင် ရှမ်းတို့သည် စောနစ်မင်းကို ပုဂံ၌ နန်းတင်၍ ရုပ်သေးရုပ် အဖြစ်ထားကာ မွန်ဂိုတို့ကို တစ်ဘက်တွင် လှည့်ဖြား၍ ပိရိစွာလိမ်လည် ထားကြသည်။[၁]

အေဒီ ၁၃၀၁ ခုနှစ်တွင် မွန်ဂိုတပ်များ မင်းရိုးကို နန်းတင်ရန် အတွက် မြင်စိုင်းသို့ ရောက်လာကြသည်။ ရှမ်းညီနောင်သုံးဦးသည် ထိုအကြောင်းကို ကြားသိသဖြင့် နန်းကျကျော်စွာကို သတ်ပြီး မင်းရိုးမရှိပြီ ဟုပြောကာ ကျော်စွာမင်း၏ ခေါင်းကို မွန်ဂိုတို့အားပြလေ၏။ မွန်ဂိုစစ် သူကြီးတို့သည်လည်း 'မင်းရိုးမရှိလျှင် ငါတို့ပြန်မည်။ လက်ဆောင်ပဏ္ဏာ ကာရသာ ပေးတော့' ဟုဆိုလာသဖြင့် ရှမ်းညီနောင်သုံးပါးတို့သည်လည်း လက်ဆောင်ပဏ္ဏာ၊ လက်နက်များစွာစီရင်၍ ပို့လေသည်။ မွန်ဂိုတို့သည် မိမိတို့၏ စစ်သည်အင်အားကို ပြသလိုသဖြင့် အလျားတာ(၇၀၀၀)၊ အနံ(၂)တာ၊ စောက်(၂)တာရှိသည့် နယ်ခြားမြောင်းကို နေဝင်ပြီးမှ စတင်တူးဖေါ်ရာ နေမထွက်ခင် တူးပြီးသည်ဟုဆိုသည်။ တူးရွင်းသွား ထိုးမိ၍ ပြတ်လေသော လက်ဖျားခြေဖျားတို့ကို ကောက်ယူစုပုံထားသဖြင့် ဆယ်တင်းဝင်ပုတ်နှင့်ပြည့်သည် ဟူ၏။[၂] ထိုမွန်ဂိုတပ်များထဲတွင် တရုတ် စစ်သည်တော်များ၊ မောရှမ်းစစ်သည်တော်များ၊ မိုးမိတ်၊ မိုးကောင်းစစ် သည်တော်များ။ ရှန်ဆည်စစ်သည်တော်များလည်း ပါဝင်လာကြသဖြင့် မြောင်းကို ဦးဆောင်တူးသည့် ပုဂ္ဂိုလ်မှာ မိုးမိတ်စော်ဘွား ခွန်ယီကွဲခမ်းနှင့် ရှန်ဆည်မှ တောဝ့်နွဲချယ်တို့ဖြစ်သည်။ မွန်ဂိုတို့သည်လည်း ကျော်စွာမင်း ၏ ဦးခေါင်းကိုယူ၍ ပြန်လေသည်။[၃]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းလူမျိုး၊ နှာ၊ ၄၀၅

၂။ ကုလား(ဦး)၊ မဟာရာဇဝင်တော်ကြီး၊ ပထမအုပ်၊ နှာ၊ ၃၄၁

၃။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.242

မြန်မာ့စွယ်စုံကျမ်းတွင်မူ အေဒီ ၁၃၀၁ ခုနှစ်တွင် မွန်ဂိုတပ်များသည် ရှမ်းညီနောင်တို့၏ မြို့တော်ဖြစ်သော မြင်စိုင်းမြို့ကို ချီတက်တိုက်ခိုက်ကြသည်။ မိမိတို့ထံ ထွက်ပြေးလာသော (နန်းကျမင်း ကျော်စွာ၏သား) ရဟန်းတော် ကုမာရကဿပကိုလည်း နန်းတင်ရန် တစ်ပါတည်း ခေါ်လာကြ၏။ မြင်စိုင်းကို ရံ၍တိုက်ရာ အောင်လုနီးပါးတွင် ရှမ်းညီနောင်တို့၏ ပရိယာယ်ကြောင့် အလံကိုဖြုတ်ပြီးလျှင် မွန်ဂိုတပ်များ ဆုတ်ခွါသွားကြလေသည်။ တက်တော်မူမင်းကြီး အမည်ခံယူသော ကုမာရကဿပသည်လည်း မွန်ဂိုတပ်များနှင့် ပြန်၍ လိုက်ပါသွားခဲ့ရလေသည်[၁] ဟု ပြဆိုထားသည်။

အေဒီ ၁၃၁၂ ခုနှစ်တွင် သီဟသူသည် မြစ်ငယ်မြစ်နှင့် ပေါင်းလောင်မြစ်ဆုံရာ၌ ပင်းယမြို့ကို တည်ထောင်စိုးစံတော်မူသည်။ ပင်းယမြို့ကိုတည်၍ (၆)နှစ်ရှိသောအခါ သားတော်ဥဇနာကို အိမ်ရှေ့ ပေးတော်မူ၏။ သားတော်အလတ် ကျော်စွာအား ပင်လယ်ဘူးမြို့ကို ပေးတော်မူ၏။ သားတော်အငယ် နော်ရထာကို ရှစ်ရှားမြို့ကို ပေးတော်မူ၏။ တစ်ရံရောအခါ တောင်ငူစား သဝန်ငယ်သည် ဆက်ကပ်မြဲ မဆက်သောကြောင့် သားတော် အိမ်ရှေ့ဥဇနာနှင့် သားတော်အလတ်ကျော်စွာကို အလုံးအရင်းဆင်မြင်းအများနှင့် ချီရလေ၏။ တောင်ငူသဝန်ငယ်သည် မထောင်ထားဝံ့သဖြင့် သစ္စာတော်ခံပြီး လက်ဆောင်ပဏ္ဏာများ ဆက်သခဲ့ရသည်။ ညီနောင်သုံးပါးတို့သည် (၁၂) နှစ်တိုင်တိုင် မြင်စိုင်း၊ မက္ခရာ၊ ပင်လယ်ဘူးတို့၌ တိုင်းပြည်ကို အပြိုင်အုပ်စိုးခဲ့သည်။ နန်းသက် (၁၂) နှစ်ရှိသောအခါ အေဒီ ၁၃၁၅ ခုတွင် ညီတော်သီဟသူသည် နောင်တော် အသင်္ခယာအား ဆေးဖြင့်အန္တရာယ်ပြုရာ အသင်္ခယာနတ်ရွာစံခဲ့သည်။[၂] အေဒီ ၁၃၂၇

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းလူမျိုး၊ နှာ၊ ၄၀၆

၂။ ကုလား(ဦး)၊ မဟာရာဇဝင်တော်ကြီး၊ ပထမအုပ်၊ နှာ၊ ၃၁၆-၃၁၉

ခုနှစ်တွင် ရာဇသကြ်န်သည် မကျန်းမာ၍ နတ်ရွာစံခဲ့လေသည်။

တစ်စီးရှင်သီဟသူသည် အိမ်နိမ့်(၃၃)၊ စည်းစိမ် (၂၂)၊ သက်တော် (၅၅)နှစ်တွင် နတ်ရွာစံခဲ့သည်။ ထို့နောက် သားတော်ဥဇနာသည် ခမည်းတော်၏ ထီးနန်းကို ဆက်ခံ၏။ ဥဇနာမင်းသည် အိမ်နိမ့်(၂၂)၊ စည်းစိမ် (၂၀)၊ သက်တော် (၄၂)နှစ်တွင် ညီတော်ကျော်စွာအား ထီးနန်းလွှဲအပ်တော်မူသည်။ ကျော်စွာမင်းသည် အိမ်နိမ့် (၃၆) ၊ စည်းစိမ် (၉)၊ သက်တော် (၄၅) တွင်နတ်ရွာစံခဲ့သည်။ ယင်းနောက် သားတော်ကျော်စွာသည် (၁၀) နှစ်မင်းဖြစ်တော်မူ၏။ ၎င်းနောက် အေဒီ (၁၃၆၃) ခုတွင် ကျော်စွာ၏ညီတော်နရသူသည် (၃) နှစ် မင်းဖြစ်ခဲ့ပြီး မောရှမ်းတို့က ဖမ်းဆီးသွား သောကြောင့် 'မောပါနရသူ'ဟူ၍ အမည်တွင်လေ၏။[၁]

အေဒီ ၁၃၁၅ ခုနှစ်တွင် သီဟသူ၏သားတော် အသခ်ရာစေယွန်း (မြောက်နန်းမိဖုရား၏သားတော်) သည် စစ်ကိုင်းမြို့ကို တည်တော်မူသည်။ (စစ်ကိုင်းကို ရှမ်းဘာသာဖြင့် 'စေကျိုင်း'ဟုခေါ်၏။ 'စေ'သည် 'ဒေသ'ဖြစ်၍၊ 'ကျိုင်း'သည် 'မန်ကျည်းပင်'ဖြစ်သည်။ ထို့ကြောင့် 'စေကျိုင်း' ဆိုသည်မှာ 'မန်ကျည်းပင် ပေါ်များသောဒေသ'ဟု အဓိပ္ပါယ်ရသည်။) အေဒီ ၁၃၆၃ ခုနှစ် ကဆုန်လတွင် နရသူ၏ဖိတ်ခေါ်ချက်အရ မောရှမ်းတို့သည် စစ်ကိုင်းကို တိုက်ခိုက်၍ ထိုနှစ် နယုန်လတွင် ပင်းယကို တိုက်ခိုက်လေသဖြင့် စစ်ကိုင်းနှင့်ပင်းယ နှစ်မြို့စလုံးပျက်ရ၏။ မောရှမ်းတို့သည် ပင်းယမြို့ကိုနိုင်ပြီး နရသူနှင့်တကွ ဆင်ဖြူ(၃)စီးကို ယူကာ ပြန်လေလျှင် နရသူ၏ နောင်တော် ဥဇနာပျောင်ကို အမှူးအမတ် အပေါင်းညီ၍ စောဥမ္မာနှင့်စုံဖက်၍ နန်းတင်ကြသည်။ ဥဇနာပျောင်နန်းတက်၍ သုံးလရှိသောအခါ သတိုးမင်းဖျားသည် ကြခတ်ဝမှလာ၍

---

၁။ ကုလား(ဦး)၊ <u>မဟာရာဇဝင်တော်ကြီး</u>၊ ပထမအုပ်၊ နှာ၊ ၃၃၂။

ဥဇနာပျောင်ကိုလုပ်ကြံပြီးသော် စောဥမ္ဘာကို မိဖုရားမြှောက်၍ ပင်းယကို မင်းပြုတော်မူ၏။ အင်းဝသည် မင်းဆက်(၆)ဆက်၊ မင်းသက်(၅၂)နှစ် ရှိခဲ့ပြီး စစ်ကိုင်းသည် မင်းဆက်(၇)ဆက်၊မင်းသက်(၃၉)နှစ်ရှိခဲ့သည်။[၁]

အင်းဝမင်းကြီးစွာစော်ကဲ (အေဒီ ၁၃၆၈-၁၄၀၁) နှင့် ယင်း၏ သားတော် မင်းခေါင် (အေဒီ ၁၄၀၁-၁၄၂၁) တို့လက်ထက်တွင် အင်းဝ နှင့် ဟံသာဝတီတို့ နှစ်ပေါင်း(၄၀) ကာလကြာစစ်ပွဲများ ဖြစ်ပွားခဲ့သော် လည်း မည်သူက မည်သူ့ကို နိုင်အောင်မတိုက်နိုင်ခဲ့ချေ။ ထိုခေတ်ဟံသာ ဝတီမင်းကား ရာဇာဓိရာဇ်မင်းဖြစ်ပေသည်။ အေဒီ ၁၄၁၇ ခုနှစ်တွင် ၎င်းတို့စစ်တိုက်မှုများ တစ်ခန်းရပ်ခဲ့လေသည်။ အင်းဝနှင့် ဟံသာဝတီတို့ စစ်ဖြစ်နေကြသောအချိန်တွင် မြန်မာလူမျိုးများသည် တောင်ငူတွင် စုံစံခဲ့ ပြီး မြန်မာနိုင်ငံတော်ကို ထူထောင်နိုင်ရန်အတွက် အင်အားစုဆောင်း သော အချိန်ဖြစ်ပေသည်။[၂]

၃ း ၃ ။ မိုးညှင်းစလုံ (စဝ်လုံ) အင်းဝကိုတိုက်ခိုက်ခြင်း။

မိုးညှင်း (မိုင်းယန်း)သည် မွန်ဂိုတို့လက်ထက် ၁၂၈၉ ခုနှစ်မှ စ၍ ရှိနေကြောင်းသိရသည်။ တရုတ်မင်မင်းခေတ် (၁၄၀၃) ခုနှစ်တွင် ရှေးဦးစွာဖော်ပြထား၏။ ဧရာဝတီနှင့် ချင်းတွင်းမြစ်နှစ်သွယ်အကြားတွင် ကျယ်ဝန်းလှသော နယ်ကြီးတစ်ခုဖြစ်ခဲ့သည်။ အေဒီ ၁၄၁၆ ခုနှစ်တွင် မိုးညှင်းနှင့် ကလေးမြို့တို့ စစ်ဖြစ်ကြရာ မင်းကြီးစွာစော်ကဲက နှစ်နယ်လုံး ကို သိမ်းပိုက်ခဲ့သည်။[၃] အေဒီ ၁၅၀၄ ခုနှစ်တွင် မိုးညှင်းစလုံသည် ဆင် မြင်းအလုံးအရင်းနှင့် ဒီပဲယင်းမြို့ကို တိုက်ခိုက်သိမ်းယူတော်မူသည်။[၄] အေဒီ ၁၅၂၃ ခုနှစ်တွင် မိုးညှင်းစလုံသည် မင်းကင်းမြို့ကို ဝန်းရံ

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.243.

၂။ Ibit.

၃။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းလူမျိုး၊ နှာ၊ ၄၀၆။

၄။ ကုလား(ဦး)၊ မဟာရာဇဝင်တော်ကြီး၊ နှာ၊ ၁၁၅-၁၁၆။

တိုက်ခိုက်သည်။ ရွှေနန်းကျော့ရှင် နရပတိတို့လည်း မြေတူးသို့ချီတက်၍ ခံတော်မူသည်။ ရွှေနန်းရှင်နရပတိတို့ မခုခံနိုင်၍ မြေတူးမြို့ကို မိုးညှင်းတို့ရလေ၏။ အေဒီ ၁၅၂၄ ခုနှစ်တွင် မိုးညှင်းစလုံသည် စစ်ကိုင်းသို့ ချီတက်သိမ်းပိုက်ပြန်သည်။[၁]

ပြည်ဘုရင်သတိုးမင်းစောသည် မိုးညှင်းစလုံနှင့်ပူးပေါင်း၍ အင်းဝကို တိုက်ခိုက်လေသည်။ အင်းဝရွှေနန်းကျော့ရှင်နရပတိနှင့် အုန်းပေါင်ခွန်မိန်းငယ်တို့ပူးပေါင်း၍ ခုခံသည်။ ပြည်ဘုရင်သတိုးမင်းစောသည် ရေကြောင်းမှနေ၍ အင်းဝကို ချီတက်တိုက်ခိုက်ပြီး မိုးညှင်းစလုံတို့က ကြည်းကြောင်းဖြင့် ဝန်းရံ၍ တိုက်ခိုက်သောကြောင့် ရွှေနန်းကျော့ရှင်နှင့် အုန်းပေါင်ခွန်မိန်းငယ်တို့သည် မခံနိုင်သဖြင့် အရှေ့ဆင်ခေါင်းသို့ ဆုတ်ခွါ၍ နေရချေ၏။ မိုးညှင်းစလုံသည် ပြည်သတိုးမင်းစောကို အင်းဝနန်းတင်လေ၏။ ဆင်ကောင်းမြင်းကောင်းကို သိမ်းယူပြီး စစ်ကိုင်းဘက်သို့ကူး၍ မိုးညှင်းသို့ပြန်လေသည်။ ပြည်ဘုရင် သတိုးမင်းစောလည်း မိုးညှင်းစလုံ ပြန်လေလျှင် အင်းဝတွင်ရှိသော လူကြီးတို့ကို သိမ်းယူ၍ စုန်တော်မူ၏။ ပြည်ဘုရင်သတိုးမင်းစော ပြည်သို့စုန်လေလျှင် ရွှေနန်းကျော့ရှင်နရပတိနှင့် အုန်းပေါင်ခွန်မိန်းငယ်သည် အင်းဝသို့ ပြန်ဝင်တော်မူသည်။ တောင်ငူဘုရင် မဟာသီရိဇေယျသူရလည်း အင်းဝကို မိုးညှင်းရှမ်းတို့ တိုက်ခိုက်ကြောင်း ကြားသိလေလျှင် အင်းဝနယ် တောင်ဘက်တလွှားမြို့ရွာတို့ကို တိုက်ခိုက်သိမ်းယူလေသည်။ ရွှေနန်းကျော့ရှင်နရပတိနှင့် အုန်းပေါင်ခွန်မိန်းသည်လည်း လူသူအင်အားစုရုံး၍ တောင်ငူမြို့အထိ ပြန်လည်တိုက်ခိုက်ခဲ့သည်။ သို့သော် တောင်ငူမြို့ကိုကား မသိမ်းနိုင်ခဲ့ချေ[၂]

---

၁။ ကုလား(ဦး)၊ မဟာရာဇဝင်တော်ကြီး၊ ဒုတိယအုပ်၊ နှာ၊ ၁၂၀။
၂။ ၎င်းစာ၊ နှာ၊ ၁၂၀-၁၂၅

ရွှေနန်းကျော့ရှင်နရပတိသည် အင်းဝတွင်ပြန်လည်အင်အား စုဆောင်းနေလေသည်။ အေဒီ ၁၅၂၇ ခုနှစ် မြန်မာသက္ကရာဇ် (၈၈၈) တွင် မိုးညှင်းစလုံသည် စစ်သည်အင်အားများစွာဖြင့် အင်းဝသို့ ချီတက်လာပြန်သည်။ ပုခန်းကြီးတွင် တိုက်ပွဲကြီးစွာဖြစ်ပွားခဲ့ပြီး အင်းဝအိမ်ရှေ့မင်း အနိစ္စရောက်ခဲ့ရသည်။ မိုးညှင်းစလုံတို့သည် ဟန်လင်းမှတစ်ဆင့် စစ်ကိုင်းသို့ချီလာ၍ အင်းဝကို ဝန်းရံလေသည်။ ရွှေနန်းကျော့ရှင်နရပတိလည်း အုန်းပေါင်ခွန်မိန်းငယ် မရောက်သေးသောကြောင့် အင်းအားမမျှသေး၍ ထွက်မတိုက်ချေ။ မိုးညှင်းတပ်များသည် အင်းဝမြို့ကို ရှစ်ရက်ဝန်းရံခဲ့ပြီး နောက်ဆုံးတွင် ဆင်မြင်းအလုံးအရင်းနှင့် မြို့တွင်းသို့ ဝင်ရောက်တိုက်ခိုက်နိုင်ခဲ့သည်။ ရွှေနန်းကျော့ရှင်သည် ရွှေစာတိုက်ဟူသော ဆင်ကို စီး၍ ထွက်တော်မူလာသောအခါ မိုးညှင်းစလုံနှင့် သားတော်အိမ်ရှေ့မင်း သိုဟန်ဘွားသည် ဆင်နှင့်ခံ၍ တိုက်လေသည်။ ရွှေနန်းကျော့ရှင်နရပတိသည် ဦးခေါင်းတွင် အမြောက်ဆံသင့်၍ နတ်ရွာစံခဲ့သည်။[၁]

## ၃ း ၄ ။ သိုဟန်ဘွား[၂] AD 1527-1543

မြန်မာသက္ကရာဇ် (၈၈၈) ခု၊ အေဒီ ၁၅၂၇ ခု အင်းဝပျက်သည့်နှစ်သည် အင်းဝမင်းရွှေနန်းကျော့ရှင်နရပတိ၊ ပြည်ဘုရင် ဆင်ဖြူရှင်သတိုးမင်းစော၊ ဟံသာဝတီမင်း ဗညားရံတို့ အနိစ္စရောက်သည့်နှစ်လည်းဖြစ်သည်။ ထိုအချိန်ကား မောရှမ်းပြည်တွင် သိုဟုံဘွားဒုတိယအကြိမ်နန်းတက်ခြင်းဖြစ်သည်။

သက္ကရာဇ် (၇၂၆)၊ အေဒီ ၁၃၆၄ ခုတွင် အင်းဝကို သတိုးမင်း

၁။ ကုလား (ဦး) မဟာရာဇဝင်တော်ကြီး၊ (ဒုတိယတွဲ)၊ နှာ၊ ၁၂၀-၁၂၅ ။
၂။ ၎င်းစာ၊ နှာ၊ ၁၃၁-၁၃၉။

များက တည်ထောင်ပြီး ဘုရင်နရပတိ တိုင်အောင် မင်း(၁၄)ပါးတွင် မင်းစဉ်ပြတ်၍ မိုးညှင်းစလုံသား သိုဟန်ဘွားသည် အင်းဝရွှေနန်းကိုတက်၍ မင်းပြုတော်မူသည်။ သိုဟန်ဘွားကို အဘစလုံပေးသော အလုံးအရင်းကား တိုက်ဆင်နှစ်ရာ၊ မြင်းလေးထောင်၊ စစ်သည်သူရဲခြောက်သောင်းပေးသောဟူ၏။ ရွှေနန်းကျော့ရှင် နရပတိတူတော် မင်းကြီးရန်နောင်သည် အင်းဝပျက်သောအခါ မြို့ပြင်တောအရပ်မှာ ရှောင်ရှားနေသည်ကို မိုးညှင်းစလုံကခေါ်၍ "ငါ့သားသိုဟန်ဘွားသည် မြန်မာအမှု၌ မလိမ္မာပါ။ မင်းကြီးသွန်သင်ပဲ့ပြင်၍ စီရင်ခင်းစီရင်ဖွယ်ရှိသောအခါ ငါးသားနှင့်တိုင်ပင်၍ စီရင်ကွပ်ညှပ်ပါ" ဟူ၍ ဆို၏။ မြင်စည်မြို့ကိုလည်းပေး၍ စားရ၏။ စလုံလည်း အင်းဝနိုင်ငံကို စီရင်တော်မူပြီးလျှင် မိုးညှင်းသို့ ပြန်လေ၏။ သိုဟန်ဘွားလည်း စလင်းမြို့ကို စည်သူကျော်ထင်အားပေး၏။ ပုဂံကို သတို့အား ပေးမြဲပေး၍ စားရ၏။ ကမ်းနီမြို့ကို နော်ရထာအား ပေး၏၊ ပေါင်းတည်ကို ပုံချိုကိုပေး၏။ အမြင့်ကို သက်တော်ရှည်အား ပေး၏။

အင်းဝဘုရင်သိုဟန်ဘွားလည်း ပြည်တောင်ငူသို့ချီ၍ သိမ်းယူမည့်အကြောင်းကို မင်းကြီးရန်နောင်အား တိုင်ပင်တော်မူသော် မင်းကြီးရန်နောင်လည်း "ဤစော်ဘွားချီ၍ လုပ်ကြံချေက ပြည်တောင်ငူမှုသည် ခံနိုင်ချိမ့်မည်မဟုတ်။ ယင်းသို့မခံနိုင်၍ ပျက်ခဲ့လျှင် မြန်မာနိုင်ငံဟူ၍ မရှိပြီ။ ရှမ်းတို့သာ မြန်မာတို့ကို အစိုးရလေတော့မည်။ ကြွင်းမိသည့် မြန်မာကြွင်းပါစေ" အမှတ်ရှိ၍ ဤသို့လျှောက်၏။ "ပြည်တောင်ငူကို ချီ၍ လုပ်ကြံတော်မူမည် မိန့်တော်မူရာမှာ ဆင်မြင်းဗိုလ်ပါသာ ပင်ပန်းတော့မည်။ ဘုန်းတော်ကြောင့် အလိုလိုညွှတ်လာလေသည်၊ အင်းဝကို အလိုတော် ပြည့်လေပြီးသည်ကို နေဝံ့မည်လော"ဟူ၍ လျှောက်၏။

"သိုဟန်ဘွားကား ကောင်းမှုမကောင်းမှုကိုမသိ။ ရတနာသုံးပါးကိုလည်း မရှိသေ။ ချီ၍ လုပ်ကြံက ပျက်ချေတော့မည်" ဟုယူဆ၍

သိုဟန်ဘွားထံ လက်ဆောင်ပဏ္ဏာအမြောက်အမြား ဆက်သပြီး ရင်းနှီးမှုကို ရယူမှ နိုင်ငံအရှည်တည်တံ့မည့် အကြောင်းကို ပြည်တောင်ငူမင်းတို့အား မင်းကြီးရန်နောင်က စကားဆိုသည်။ ပြည်တောင်ငူမင်းတို့လည်း ပဏ္ဏာကာရပို့သကြ၍ အချစ်ကိုယ်တူဖြစ်ကြ၏။ တောင်ငူနယ်စပ်နှင့် အင်းဝကျေးစပ်တွင် ရှမ်းတို့နေလာမည် စိုး၍ ကန်ချောင်းဆည်မြောင်းရှိသမျှကိုလည်း တောင်ငူမဟာသီရိဇေယျသူရက ဖျက်ဆီးရ၏။ သက္ကရာဇ် (၈၉၂) ခုတွင် တောင်ငူမဟာသီရိ ဇေယျသူရ အနိစ္စရောက် တော်မူ၍ သားတော်မင်းတရား ရွှေထီးမင်းဖြစ်တော်မူသည်။

သက္ကရာဇ် (၈၉၄) အေဒီ ၁၅၃၂ ခုနှစ်တွင် မိုးညှင်းစလုံသည် အင်းဝသို့ချီတက်လာပြီး သားသိုဟန်ဘွားကိုခေါ်ပြီး ပြည်သို့ချီလေသည်။ ပြည်ဘုရင်ထွေးလည်း မိုးညှင်းစလုံတို့ကို တိုက်ခိုက်လျှင် အင်အားမမျှသဖြင့် အထူးထူးသော ပုဆိုးကောင်းများကိုယူ၍ အခြွေအရံ (၁၀၀၀) ခန့်နှင့် မိုးညှင်းစလုံကို ဆက်သလေ၏။ မိုးညှင်းစလုံလည်း အခြွေအရံနှင့်တကွ သိမ်းပြီးလျှင် အင်းဝသို့ ပြန်လေသည်။ အင်းဝသို့ရောက်လျှင် အင်းဝတွင် စီမံခန့်ခွဲပြီး ပြန်လေ၏။ ဒီပဲယင်းသို့ရောက်လျှင် ပြည်ဘုရင်ထွေးကို အခြွေအရံနှင့်တကွ လွှတ်ပေးလေ၏။ မိုးညှင်းစလုံလည်း မြေတူးအလွန်သို့ ရောက်လျှင် အတွင်းရှမ်းအပြင်ရှမ်း အချင်းတများရှိရာတွင် မိမိကျွန်အမတ်တို့ လုပ်ကြံ၍ အနိစ္စရောက်လေ၏။

အေဒီ ၁၅၃၉ ခုနှစ်တွင် တောင်ငူဘုရင် တပင်ရွှေထီးသည် ဟံသာဝတီကို တိုက်ခိုက်သိမ်းပိုက်သည်။ မွန်ဘုရင်သူရှင်တကာရွတ်ပိ မခံနိုင်သဖြင့် ယောက်ဖတော် ပြည်ဘုရင်နရပတိထံသို့ ပူးပေါင်းလေသည်။ တပင်ရွှေထီးတို့သည် ပြည်အထိ လိုက်၍တိုက်ခိုက်သည်။ ပြည်ဘုရင်လည်း အင်းဝဘုရင်သိုဟန်ဘွားသို့ အကူအညီတောင်းသဖြင့် အင်းဝဘုရင် သိုဟန်ဘွားသည် ရေတပ်ဖြင့် ပြည်သို့ရောက်လာ၏။

ရေတပ်တိုက်ပွဲ ဖြစ်ပွားခဲ့ပြီး ထိုနှစ်ပြည်မြို့ကို တပင်ရွှေထီးတို့က မအောင် နိုင်သေးချေ။ အေဒီ ၁၅၄၁ ခုနှစ်တွင် တပင်ရွှေထီး ကြည်းတပ်ရေတပ် အလုံးအရင်းဖြင့် ပြည်ကိုချီတက်တိုက်ခိုက်တော်မူပြန်သည်။ ပြည်ကို ဝန်းရံတိုက်ခိုက်စဉ် အင်းဝဘုရင်သိုဟန်ဘွား၊ အုန်းပေါင်ခွန်မှိုင်း၊ မိုးမိတ် သိုချည်ဘွား၊ မိုးညှင်းစလုံငယ်တို့သည် ပြည်ဘုရင်ကို ကူညီရန်အတွက် ပြည်သို့ဆင်းလာစဉ် ကျော်ထင်နော်ရထာတို့က လမ်းတွင်ဆီးကြိုတိုက် ခိုက်သဖြင့် ရှမ်းစော်ဘွားတပ်များပျက်၍ အင်းဝသို့ဆုတ်ခွာကြရလေ သည်။

အင်းဝတွင် သိုဟန်ဘွားသည် “ရဟန်းသံဃာတို့သည် သားမ ယားမရှိဘဲလျက် တပည့်တပန်းထား၍ အခွေအရံဆည်းပူးကြသည်။ ပုန် ကန်သောင်းကျန်းလိုက ပုန်ကန်သောင်းကျန်းနိုင်ဖွယ်ရှိသည်” ဟုသံသယ ရှိ၍ အေဒီ ၁၅၄၂ ခုနှစ်တွင် တောင်ဘီလူး၌ ရဟန်းသံဃာတော်များကို အလျှုဒါန လုပ်ဟန်ဖြင့် ပင့်ဆောင်၍ သတ်ပစ်လေသည်။ ထို့ကြောင့် အေဒီ ၁၅၄၃ ခုနှစ်တွင် မင်းကြီးရန်နောင်က ပရိယာယ်ဆင်၍ သိုဟန် ဘွားကို လုပ်ကြံသတ်ဖြတ်ပစ်လေသည်။

## ၃ း ၅ ။ အုန်းပေါင်ခွန်မိန်း AD ၁၅၄၃-၁၆၄၆

သိုဟန်ဘွားအနိစ္စရောက်ပြီးနောက် အင်းဝတွင်ရှိသော မှူးမတ် အပေါင်းတို့က မင်းကြီးရန်နောင်အား မင်းပြုရန် တောင်းဆိုသော်လည်း မင်းကြီးရန်နောင် အလိုမရှိသဖြင့် အုန်းပေါင်ခုံမှိုင်းငယ်ကို အင်းဝ မင်းပြုစေသည်။ မင်းကြီးရန်နောင်အား တလုပ်မြို့ကို ပိုင်စားစေသော် လည်း နောက်တစ်နှစ်တွင် မင်းကြီးရန်နောင်သည် မက္ခရာအရပ်၌ ရဟန်းဝတ်သွားလေတော့သည်။ အေဒီ ၁၅၄၃ ခုနှစ် အုန်းပေါင်ခွန်မိန်း သည် အင်းဝမင်းဖြစ်သောအခါ ညောင်ရွှေ၊ မိုးနဲ၊ ဗန်းမော်၊ မိုးမိတ်၊

မိုးညှင်းစော်ဘွားများနှင့် တိုင်ပင်၍ ကြည်းအားရေအားဖြင့် ပြည်သို့ ချီတက် တိုက်ခိုက်တော်မူသည်။ ပြည်သတိုးဓမ္မရာဇာလည်း အင်အားမ မျှသောကြောင့် ထွက်၍ မတိုက်ဝံ့။ မင်းတရားတပင်ရွှေထီးသည်လည်း ရေအားကြည်းအား ဆင်မြင်းအလုံးအရင်းနှင့် ဟံသာဝတီမှ ပြည်သို့ ချီတက်လာသည်။ ထိုတိုက်ပွဲတွင် တပင်ရွှေထီးတပ်က ရှမ်းစော်ဘွား များ၏ ရေတပ်ကို စတင်တိုက်ခိုက်ရာ ရှမ်းရေတပ်ပျက်၍ ရိက္ခာများ မလုံမလောက် ဖြစ်ရသည်။ ရှမ်းစော်ဘွားများ ပြန်ဆုတ်သည့် အကြောင်း ကိုသိ၍ တပင်ရွှေထီးသည် ဘုရင့်နောင်ကျော်ထင်နော်ရထာနှင့်တကွ ငါးတပ်လုံး ဆင်ပါ မြင်းပါနှင့် လိုက်၍တိုက်လေရာ စော်ဘွားများ တပ် ပျက်၍ အင်းဝသို့ ဝင်လေသည်။ တပင်ရွှေထီးသည် အင်းဝပိုင် နယ်မြေ အချို့ကို သိမ်းပိုက်နိုင်ခဲ့သည်။ မြန်မာသက္ကရာဇ် ၉၀၇ ခု၊ အေဒီ ၁၅၄၅ တွင် အုန်းပေါင်ခွန်မှိုင်း အနိစ္စရောက်လေသည်။ ထိုနောက် အင်းဝနန်းကို ယင်း၏ သားတော် မိုးဗြဲနရပတိမင်း နန်းတက်တော်မူသည်။ အေဒီ ၁၅၄၉ ခုနှစ်တွင် တပင်ရွှေထီးသည် ယိုးဒယားသို့ ချီတက်တိုက်ခိုက်သည်။ အေဒီ ၁၅၅၀ ခုနှစ်တွင် စစ်တောင်းစား သမိန်စောထွန်းလုပ်ကြံ၍ ဘဂရှင်မင်းတရားတပင်ရွှေထီးနတ်ရွာစံခဲ့ရပြီး ဘုရင့်နောင်က တောင်ငူ ထီးနန်းကို ဆက်ခံသည်။[၁]

## ၃း၆ ။ မိုးဗြဲနရပတိမင်း AD ၁၅၄၅-၁၅၅၁

မြန်မာသက္ကရာဇ် (၉၀၇) ခု၊ အေဒီ ၁၅၄၅ ခုတွင် မိုးဗြဲမင်းသည် နရပတိဟူသောအမည်နှင့် အင်းဝရွှေနန်းကို တက်တော်မူသည်။ စစ်ကိုင်း စည်သူကျော်ထင်နှင့်လည်း စစ်မက်မပြတ်ဖြစ်ကြသည်။ မိုးဗြဲနရပတိသည်

---

၁။ ကုလား (ဦး) မဟာရာဇဝင်တော်ကြီး၊ ဒုတိယအုပ်၊ နှာ ၊ ၁၃၉-၁၄၃။

အင်းဝရွှေနန်းကိုတက်လျှင် အုန်းပေါင်ဆွေကြီးမျိုးကြီးတို့ကိုလည်း မဆက်ဆံ။ ရှမ်းအသုံးအဆောင် အကျင့်အာစာရကိုလည်း မကြိုက်၊ မင်းတရားရွှေထီးသို့ စေပါ၍ မဟာမိတ်အဆွေခင်ပွန်းပြုတော်မူ၏။ စစ်ကိုင်းစည်သူကျော်ထင်ကိုလည်း မပြတ်လှူပ်ချောက်ရ၏။ ချစ်ကျွန်လည်း ပြု၏။[၁]

၃ း ၇ ။ စစ်ကိုင်းစည်သူကျော်ထင် AD ၁၅၅၀-၁၅၅၄

တပင်ရွှေထီးလက်ထက် မြန်မာသက္ကရာဇ် (၉၀၆) ခုတွင် စလင်းစည်သူကျော်ထင်နှင့် ပဲခူးစည်သူကျော်ထင်သည် ဆင်စီးချင်းတိုက်ခိုက်ကြရာ စလင်းစည်သူကျော်ထင် အရေးမသာသဖြင့် ဆင်တစ်ကောင်နှင့်လောင်းရှည်ကြောင်း ချင်းတောင်ကိုပြေးလေ၏။ စလင်းစည်သူကျော်ထင်ကို ချင်းတို့ဖမ်းမိပြီး မိုးညှင်းစလုံငယ်သို့ ဆက်သလေ၏။ မိုးညှင်းစလုံငယ်၏ အကူအညီဖြင့် အင်းဝကို လုပ်ကြံရန်အတွက် ဆင်ခြောက်ဆယ်၊ မြင်းရှစ်ရာ၊ စစ်သည်သူရဲငါးသောင်းပေး၍ သက္ကရာဇ် (၉၀၇) ခုနှစ်တွင် ယခုစစ်ကိုင်းမြို့ကို တည်တော်မူသည်။[၂]

အေဒီ ၁၅၅၀ ခုတွင် စစ်ကိုင်းစည်သူကျော်ထင်သည် ဆင်မြင်းအလုံးအရင်းနှင့် အင်းဝသို့ချီတက် တိုက်ခိုက်သည်။ အင်းဝဘုရင်နရပတိသည် မခုခံနိုင်သဖြင့် ပြည်သို့ရောက်လာသော ဘုရင့်နောင်ထံသို့ သားတော် သမီးတော်နှင့်တကွ ဆင်မြင်းအလုံးအရင်းကိုယူ၍ ကျွန်တော်ခံလာသည်။ စစ်ကိုင်းစည်သူကျော်ထင်သည်လည်း နရပတိဟူသော အမည်ဖြင့် အင်းဝရွှေနန်းကိုတက်၍ မင်းပြုတော်မူလေသည်။[၃]

မြန်မာသက္ကရာဇ် (၉၁၅) ခုနှစ်၊ အေဒီ ၁၅၅၃ ခုတွင် ဥပရာဇာ

---

၁။ ကုလား (ဦး) ၊ မဟာရာဇဝင်တော်ကြီး၊ ဒုတိယအုပ်၊ နှာ၊ ၁၄၃။
၂။ ၎င်းစာ ၊ နှာ၊ ၁၄၂
၃။ ၎င်းစာ ၊ နှာ၊ ၁၄၅

ဦးဆောင်သော ဟံသာဝတီတပ်သည် အင်းဝသို့ချီတက်လေသည်။ အင်းဝဘုရင်လည်း အုန်းပေါင်၊ ဗန်းမော်၊ မိုးကောင်း၊ မိုးညှင်းစော်ဘွား တို့၏ အကူအညီဖြင့် အခိုင်အလုံရှိသဖြင့် ဥပရာဇာတို့ ပြန်ဆုတ်ခဲ့ကြ သည်။[၁] အေဒီ ၁၅၅၄ ခုနှစ်တွင် ဘုရင့်နောင်ကိုယ်တော်တိုင် ဦးဆောင်၍ တိုက်ခိုက်လုပ်ကြံရာ အလိုတော်ပြည့်တော်မူသည်။ အင်းဝဘုရင် နရပတိ ကိုကား အသက်အရွယ်ကြီးရင့်၍ သနားသဖြင့် သစ္စာတော် ပေးပြီးလျှင် ဟံသာဝတီသို့ပို့ကာ အလုပ်အကျွေး ၃၀ ကျော်ပေး၍ ကောင်းမွန်စွာထား သည်။ ညီတော်မင်းရဲကျော်ထင်ကိုလည်း သတိုးမင်းစော အမည်ပေး၍ အင်းဝဘုရင်ခံအဖြစ် ခန့်တော်မူပြီးလျှင် မိဖုရားခေါင်ကြီးတွင်မြင်သော သမီးတော်ကြီးနှင့် စုလျားရစ်ပတ် လက်ထပ်ပေးတော်မူသည်။[၂]

၃ း ၈ ။ ဘုရင့်နောင် ရှမ်းပြည်သို့ ချီတက်တော်မူခြင်း

ဘုရင့်နောင်သည် အင်းဝကိုရပြီးနောက် အုံးပေါင်ခွန်မှိုင်း စား သော စဉ့်ကူးမြို့ကို ရေကြောင်းဆန်၍ လုပ်ကြံစေပြန်သည်။ မြန်မာ သက္ကရာဇ် ၉၁၆၊ အေဒီ (၁၅၅၄) ခုနှစ် တပေါင်းလခန့်တွင် ဗန်းမော်ရှမ်း ပြည်ဘက်သို့ ချီတော်မူရာ စီကျည်၊ ကောင်းတုံ၊ ကောင်းစင်၊ ငရင်၊ ဗန်းမော်စသည်တို့မှ လက်ဆောင်တို့ဖြင့် ခိုဝင်လာသည်။ ထို့နောက် မိုး ကောင်း၊ မိုးညှင်း၊ မိုးနဲ၊ ညောင်ရွှေ ရပ်စောက်၊ လဲချား၊ မိုင်းကိုင်စသော ရှမ်းပြည်နယ်တစ်လွှားကို သိမ်းယူတော်မူသည်။ အေဒီ ၁၅၅၇ ခုနှစ်တွင် မိုးနဲကိုရသော် ထားစင်ဆိပ်မှ သံလွင်မြစ်ကို ကူးပြီးလျှင် ဇင်းမယ်သို့ချီ ၍ လုပ်ကြံသည်။ အေဒီ ၁၅၅၈ ခုတွင် မင်းနှင့်တကွ မြို့ကိုရသည်။ဇင်း

---

၁။ ကုလား (ဦး) မဟာရာဇဝင်တော်ကြီး၊ ဒုတိယအုပ်၊ နှာ၊ ၂၆၈

၂။ မြန်မာ့စွယ်စုံကျမ်း အတွဲ ၈၊ ဘုရင့်နောင် ၊ နှာ ၃၀၉

မယ်မင်းကို မင်းပြုမြဲပြုစေ၍ ဇင်းမယ်တွင် မြန်မာတပ်ကို အစောင့်အနေ ချထားကာ ပြန်တော်မူသည်။ အပြန်တွင် ဇင်းမယ်သားပညာသည် တို့ကို ခေါ်ခဲ့၍ ဟံသာဝတီတွင် အကွက်အရပ်ချ၍ နေစေသည်။ ထိုအခါမှစ၍ မြန်မာနိုင်ငံသို့ ဇင်းမယ်ယွန်းထည်ပညာရောက်သည် ဟုဆိုကြသည်။[၁]

ဇင်းမယ်ကိုရလျှင် သိန္နီစော်ဘွားကျွန်ခံလာသည်။ အေဒီ ၁၅၅၉ ခုနှစ်တွင် ကလေး၊ မင်းကင်းနယ်ပယ်များကို ကသည်းစော်ဘွားက ထိပါး လာသောကြောင့် ချီတက်တိုက်ခိုက်ရာ ကသည်းစော်ဘွားက သစ္စာတော် ခံ၍ သမီးတော်ကိုဆက်သည်။ အေဒီ ၁၅၆၂ ခုနှစ်တွင် တရုတ်ပိုင်ယူနန် နယ်သို့ ချင်းနင်းဝင်ရောက်ကာ မိုင်းမော၊ စည်ခွင်၊ ဟိုသာ၊ လာသာ၊ မိုးနား၊ စန္ဒား စသော ရှမ်းတရုတ်နယ်ပယ်တို့ကို သိမ်းယူတော်မူသည်၊ ထိုဒေသတို့တွင် ဘုရင့်နောင်နှင့် သားတော်အိမ်ရှေ့ ဥပရာဇာနန္ဒဘုရင် ကို အုပ်ချုပ်သော မြန်မာတပ်သားတို့၏ တိုက်ခိုက်မှုများမှာ အံ့ဖွယ်သရဲ ရှိလှကြောင်း ထိုခေတ်တရုတ်သမိုင်းတို့တွင် မှတ်တမ်းတင်ထားလေသည်၊ အမှန်မှာ ဘုရင့်နောင်လက်ထက် မြန်မာတပ်များသည် အာရှအရှေ့ပိုင်း ၌ တန်ခိုးထွားလျက်ရှိသော တရုတ်နိုင်ငံ မင်မင်းဆက်၏ စစ်တပ်များကို အောင်မြင်စွာ တိုက်ခိုက်ခဲ့သဖြင့် အာရှတိုက်အရှေ့ပိုင်းနှင့်တောင်ပိုင်းတွင် ပြိုင်ဘက်ကင်း တပ်မတော်ကြီး ဖြစ်လာခဲ့သည်ဟု ဆိုနိုင်ပေသည်။[၂]

သိမ်းသွင်းထားပြီးဖြစ်သော နယ်အသီးသီးမှ စစ်သားများကို စုဆောင်း၍ ဖွဲ့စည်းထားသောကြောင့် လွန်စွာတောင့်တင်းသည့်ဘုရင့် နောင်၏ တပ်မတော်ကြီးသည် အေဒီ ၁၅၆၃ ခုနှစ်တွင် ယိုးဒယားပြည် တောင်ပိုင်းကို ချီတက်တိုက်ခိုက်သည်။ ဘုရင့်နောင်က ယိုးဒယားသည် မြန်မာတို့၏ လက်နက်နိုင်ငံဖြစ်ကြောင်း ထင်ရှားစေလိုသည့်သဘောနှင့်

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၈၊ ဘုရင့်နောင်၊ နှာ၊ ၃၀၉-၃၁၀
၂။ ၎င်းစာ။

ယိုးဒယား၌ရှိသော ဆင်ဖြူလေးစီးမှ တစ်စီးတောင်းသည်ကို ယိုးဒယားတို့ မပေးသဖြင့် ချီတက်ခြင်းဖြစ်သည်။ ယိုးဒယားမင်းကိုယ်တိုင် ကွပ်ကဲတိုက်ခိုက်သော လုံကလိတပ်ကြီးကို သဘော်သုံးစီးနှင့်တကွ ရသည်တွင် ယိုးဒယားမင်းလက်နက်ချ၍ ဆင်ဖြူတော်များကို ဆက်သည်။ ဤတွင် ဘုရင့်နောင်မင်းတရားသည် ဟံသာဝတီဆင်ဖြူများသခင်ဘွဲ့ကို ခံယူရရှိသည်။ ယိုးဒယားကိုအောင်ပြီးနောက် ဟံသာဝတီဆင်ဖြူများသခင် ဘဝရှင်မင်းတရားကြီးသည် ယိုးဒယားတော်ကြီး ဖြမဟိန်အား ယိုးဒယားကို မင်းပြုစေပြီးလျှင် တပ်သား ၃၀၀၀ ခန့်ပါဝင်သော မြန်မာမြို့စောင့်တပ်တစ်ခုချထားခဲ့သည်။ ယိုးဒယားမင်းကြီး ဖြသာဓိရာဇာ၊ သားအငယ်ဖြရာမသွန်၊ အမတ်ကြီးအောက်ဖြစက္ကိနှင့် ဆင်ဖြူလေးစီးကို ဆောင်ယူခဲ့သည်။ ထိုမှတစ်ပါး အနုပညာဆိုင်ရာ အဖိုးတန်ပစ္စည်း၊ ယိုးဒယားသားအချက်အပြုတ်၊ အတီးအမှုတ်၊ လက်မှုပညာတို့ကို သားမယားနှင့်တကွ ဆောင်ယူခဲ့၍ အသီးသီး အကွက်အရပ်ချ၍ နေစေသည်။[၁]

ဘုရင့်နောင်သည် ရန်သူကိုပင် စိတ်ထားကြီးစွာဖြင့် ခွင့်လွှတ်တော်မူတတ်သည့် ဝါသနာအတိုင်း ယိုးဒယားဘုရင် ဖြသာဓိရာဇာအားရဟန်းဝတ်ခွင့်ပြုပြီးလျှင် ယိုးဒယားသို့ပြန်လိုသည်ဆို၍ ပြန်ခွင့်ပြုသည်။ သို့ရာတွင် ယိုးဒယားဘုရင်သည် ယိုးဒယားသို့ရောက်သော် လူသူလက်နက်စုဆောင်း၍ တော်လှန်ပုန်ကန်လေသည်။ အေဒီ ၁၅၆၈ ခုနှစ်တွင် ဘုရင့်နောင်သည် ယိုးဒယားသို့ချီတော်မူပြီး၍ ၁၀ လခန့်မြို့ကိုဝန်းရံ၍ မင်းနှင့်တကွ တစ်မြို့လုံးကိုရသည်။ ယိုးဒယားကိုရပြီးနောက် လင်းဇင်းသို့ ချီတော်မူသည်။[၂]

လင်းဇင်းမင်းဖြစ်စဲစစ် ထွက်ပြေး၍ မရသော်လည်း မိဖုရား၊ သမီး၊

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၈၊ ဘုရင့်နောင်၊ နှာ၊ ၃၁၀

၂။ ၎င်းစာ။

ကိုယ်လုပ်မောင်းမနှင့် မှူးမတ် ဆင်းမြင်းလူသူတို့ကို ရသည်။ မိဖုရားသမီး၊ ကိုယ်လုပ်တော်များကို အသုံးအဆောင် အဝတ်အစား အစေအပါးပေးတော်မူ၍ နန်းတွင်း၌ ကောင်းမွန်စွာထားတော်မူသည်။ လင်းဇင်းမင်းညီ မိုင်းခံစားစော်ဘွားအားလည်း အဆောင်အယောင် အခြံအရံ အိမ်ရာပေးတော်မူ၍ အပါးတော်တွင် မပြတ်မြဲစွဲစေသည်။ လင်းဇင်းမှရခဲ့သောလူတစ်ထောင်ကျော်ကိုလည်း အကြီးခေါင်းနှင့်အတူ အစုအကွက်ချ၍အမှုတော်ကို ထမ်းစေလေသည်။

ယင်းသို့ ဇင်းမယ်၊ ယိုးဒယား၊ လင်းဇင်းတို့သို့ ထွက်၍ တိုက်တော်မူစဉ် ဟံသာဝတီနေပြည်တော်တွင် ရှမ်းပြည်အရပ်ရပ်မှ ယူခဲ့သောသုံ့ပန်းလူအပေါင်းတို့သည် ပုန်ကန်သောင်းကျန်း၍ နေပြည်တော်ရှိဖျော်ကျောင်းကန် တန်ဆောင်းတို့ကို မီးတိုက်ကြသည်။ မင်းတရားကြီး မရှိခိုက်အင်းဝဘုရင်ဟောင်း နရပတိစည်သူနှင့် တာနေအမတ်တို့ ဦးစီး၍သူပုန်တို့ကို တိုက်ရာ သူပုန်တို့ပျက်၍ ဒလသို့ပြေးသည်။ ဘုရင့်နောင်မင်းတရားကြီး ကြားသိလေသော် ဟံသာဝတီသို့ ၉၂၇ ခုနှစ်တွင် ပြန်တော်မူရာ အပျက်အစီးများကို မြင်တော်မူ၍ ပြင်းစွာ အမျက်ထွက်တော်မူသဖြင့်ရွှေနန်းတော်သို့ မဝင်တော့ဘဲ ဒလသို့ ချီသည်။ သူပုန် ၇၀၀ ကျော်သေ၍၇၀၀၀ ကျော် လက်ရဖမ်းမိသည်။ တားတော်ဆရာတော် အမှူးရှိသောမွန်၊ မြန်မာဆရာတော်များ၏ ဟောပြောချက်အရ သူပုန်ခေါင်းဆောင် ၇ ကျိပ်ကိုသာ ကွပ်မျက်သည်။ ကျန်သူပုန်များအား ကြောက်လန့်စေရန်မီးထင်းတိုက်ဟန်ပြုပြီးမှ ဆရာတော်တို့ တောင်းပန်ချက်အရ ပြန်လွှတ်ပေးလေသည်။ ဤသို့လျှင် ဘုရင့်နောင်မင်းတရားကြီးသည် မင်းတကာတို့ပြုခဲလှစွာသောအမှုကို ပြုတော်မူသည်။[၁]

ဘုရင့်နောင်သည် ရှမ်းပြည်တစ်ခွင်လုံးကို သိမ်းသွင်းပြီးနောက်

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၈၊ ဘုရင့်နောင်၊ နှာ၊ ၃၁၀-၃၁၁

အေဒီ ၁၅၅၉ ခုနှစ်တွင် ရှမ်းကိုးပြည်ထောင်အဖြစ် အောက်ပါအတိုင်း သတ်မှတ်ပေးခဲ့သည်။-

| | |
|---|---|
| (၁) မိုးကောင်းနယ် | မြို့ပေါင်း (၉၉) မြို့ရှိသည်။ |
| (၂) မိုးညှင်းနယ် | မြို့ပေါင်း (၃၇) မြို့ရှိသည်။ |
| (၃) သောင်သွပ်နယ် | မြို့ပေါင်း (၂၈) မြို့ရှိသည်။ |
| (၄) မိုးမိတ်နယ် | မြို့ပေါင်း (၄၉) မြို့ရှိသည်။ |
| (၅) သိန္နီနယ် | မြို့ပေါင်း (၄၉) မြို့ရှိသည်။ |
| (၆) အုန်းပေါင်(သီပေါ)နယ် | မြို့ပေါင်း (၂၉) မြို့ရှိသည်။ |
| (၇) မိုးနဲနယ် | မြို့ပေါင်း (၃၇) မြို့ရှိသည်။ |
| (၈) ညောင်ရွှေနယ် | မြို့ပေါင်း (၃၉) မြို့ရှိသည်။ |
| (၉) မိုးဗြဲနယ် | မြို့ပေါင်း (၃၉) မြို့ရှိသည်။ |

ကျိုင်းတုံကား ခေမရဋ္ဌတိုင်းဖြစ်၍ ရှမ်းပြည်အရှေ့ပိုင်း အုပ်ချုပ်ရေးတွင် ပါဝင်သည်။ မောပြည်(မိန်းမော) ကား တရုတ်လက်အောက်ခံဖြစ်သဖြင့် ထို(၉)နယ်တွင် မပါဝင်ချေ။[၁]

ရှမ်းပြည်တစ်လွှား၌ စော်ဘွားတို့သေလျှင် စော်ဘွားစီးသော ဆင်မြင်း၊ ချစ်သောကျွန်တို့ကိုသတ်ပြီး တွင်း၌ အတူမြှုပ်သောအကျင့်ကိုလည်း တားမြစ်တော်မူ၍ သာသနာကိုဖြန့်ပေးသည်။[၂]

နိုင်ငံသမိုင်း၏ ထပ်တလဲလဲ ဖြစ်ပျက်တတ်သည့် သဘောတရားအလျောက် မြန်မာတို့သည် ပုဂံပျက်ပြီးနောက် အနှစ် ၂၄၀ ခန့်ကြာမျှ နိမ့်ကျခဲ့၏။ ဤကာလမှာ လူမျိုးသစ်ဖြစ်သော ရှမ်းအမျိုးသားတို့ ဝင်ရောက်ခဲ့ချိန်မှ စတင်ခဲ့သည်။ ဤကာလအတွင်း ပုဂံခေတ်မှာကဲ့သို့ မြန်မာတို့၏ အရည်အသွေးထင်ရှားခြင်း မရှိခဲ့ပေ။ အာရှအရှေ့ပိုင်းနိုင်ငံ

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.250

၂။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၈၊ ဘုရင့်နောင်၊ နှာ၊ ၃၁၂

တို့၏ လေးစားခြင်း ခံရစဉ် ထိုနိမ့်ကျကွဲပြားသည့်ခေတ် ကုန်ဆုံးပြီးနောက် အေဒီ ၁၅၃၉ ခုနှစ်တွင် မြန်မာတို့၏ ဂုဏ်နှင့်အင်အားကို ထင်ရှားစေခဲ့သည့် တောင်ငူခေတ် ပေါ်ပေါက်ထွန်းကားလာပြန်သည်။ မြန်မာတို့ပင် ဦးဆောင်၍ တိုင်းရင်းသားလူမျိုးတို့ စည်းလုံးညီညာစွာ ကြိုးစားဆောင်ရွက်နိုင်သောကြောင့် ဖြစ်သည်။ တပင်ရွှေထီးနှင့် ဘုရင့်နောင်ကျော်ထင်နော်ရထာတို့၏ ဦးစီးခေါင်းဆောင်မှုဖြင့် တောင်ငူခေတ် မြန်မာများနှင့် တိုင်းရင်းသားတို့သည် ပုဂံအစဉ်အလာတည်းဟူသော အခြေခံအုတ်မြစ်ပေါ်တွင် စွမ်းအားနှင့် တန်ခိုးတည်းဟူသော ပြာသာဒ်နှင့် စုလစ်မွန်းချွန်တို့ကို တစ်ဖန်တည်ဆောက်နိုင်ပြန်ခြင်းဖြစ်၏။ တောင်ငူခေတ် မြန်မာနိုင်ငံတိုင်းရင်းသားတို့သည် အာရှတိုက်အရှေ့ပိုင်းနှင့် အရှေ့တောင်ပိုင်းတို့တွင် အခြားနိုင်ငံတို့က အလေးဂရုပြုရသည့် အင်အားကြီးနိုင်ငံနှင့် တိုင်းရင်းသားလူမျိုးစုအဖြစ် နှစ်ပေါင်း ၃၀ ကျော် ဂုဏ်တင်ခဲ့ပြန်သည်။[၁]

တောင်ငူဘုရင်နှင့် သားတော်နန္ဒဘုရင်တို့သည် ရှမ်းတို့ကိုပါ သိမ်းသွင်းအုပ်စိုးနိုင်သည်သာမက တရုတ်ပြည်တွင်းသို့ပင် ချင်းနင်းဝင်ရောက် တိုက်ခိုက်ခဲ့ကြ၏။ ဤအချိန်မှစ၍ ရှမ်းတို့သည် မြန်မာနိုင်ငံအတွင်း၌ များသောအားဖြင့် ငြိမ်းချမ်းစွာ နေထိုင်လာခဲ့ကာ မြန်မာနိုင်ငံသမိုင်းကို မြန်မာတို့နှင့်အတူ ပူးတွဲဖန်တီးလာခဲ့ကြလေသည်။[၂]

## ၃ း ၉ ။ မြန်မာမင်းများနှင့် ရှမ်းစော်ဘွားများ

ဘုရင့်နောင်၏ ထီးနန်းကို ဆက်လက်ခံယူသော မဟာဥပရာဇာလက်ထက်တွင် ယိုးဒယားတို့ ပုန်ကန်သည်ကို ငါးကြိမ်တိုင်တိုင် သွားရောက်တိုက်ခိုက်သော်လည်း အောင်မြင်မှု မရရှိခဲ့သည့်အပြင် နောက်

---

၁။ မြန်မာ့စွယ်စုံကျမ်း-အတွဲ ၁၀၊ မြန်မာလူမျိုး၊ နှာ၊ ၃၅၁-၃၅၂

၂။ မြန်မာ့စွယ်စုံကျမ်း ၊ အတွဲ ၁၁၊ ရှမ်းလူမျိုး၊ နှာ၊ ၄၀၇

ဆုံးတိုက်ပွဲတွင် ဘုရင်မဟာဥပရာဇာကျဆုံးခဲ့ရ၍ ယိုးဒယားမှ ပြန်ဆုတ်ခွာလာခဲ့ကြသည်။[၁]

ဘုရင့်နောင်တည်ထောင်ခဲ့သော ဒုတိယမြန်မာနိုင်ငံတော်ဖြစ်သော သရေခေတ္တရာပြည်ကြီး၊ ကေတုမတီပြည်ကြီး၊ ရတနာပူရပြည်ကြီး၊ ကလေးပြည်ကြီး၊ သောင်သွပ်ပြည်ကြီး၊ မိုးကောင်းပြည်ကြီး၊ မိုးညှင်းပြည်ကြီး၊ ဗန်းမော်ပြည်ကြီး၊ မိုင်းမောပြည်ကြီး၊ စည်ခွင်ပြည်ကြီး၊ ဟိုသာပြည်ကြီး၊ လာသာပြည်ကြီး၊ စန္ဒားပြည်ကြီး၊ မိုင်းဝန်းပြည်ကြီး၊ မိုင်းလျဉ်းပြည်ကြီး၊ ကိုင်းမာပြည်ကြီး၊ သိန္နီပြည်ကြီး၊ မိုးမိတ်ပြည်ကြီး၊ အုန်းပေါင်ပြည်ကြီး၊ သီဒပါပြည်ကြီး၊ ညောင်ရွှေပြည်ကြီး၊ မိုးနဲပြည်ကြီး၊ ကျိုင်းတုံပြည်ကြီး၊ ဇင်းမယ်ပြည်ကြီး၊ လင်းဇင်းပြည်ကြီး၊ အကျော်ပြည်ကြီး၊ လဝိုက်ပြည်ကြီး၊ ယိုးဒယားပြည်ကြီး၊ တနင်္သာရီပြည်ကြီး၊ ထားဝယ်ပြည်ကြီး၊ မုတ္တမပြည်ကြီးတို့သည် အသီးသီးသောင်းကျန်းခြားနားကြလေသည်။[၂]

## ၃ း ၉ း ၁ ။ ညောင်ရမ်းမင်း

မြန်မာသက္ကရာဇ် ၉၅၉ ခု၊ (အေဒီ ၁၅၉၇) တွင် ညောင်ရမ်းမင်းသည် ညောင်ရမ်းမြို့ကို စိုးစံ၍ ရမည်းသင်း၊ ပြည်စသောမြို့များကို သိမ်းယူတော်မူပြီး အင်အားစုဆောင်းသည်။ အေဒီ ၁၅၉၉ ခုနှစ်တွင် ညောင်ရမ်းမင်းသည် အင်းဝမြို့ကို ပြုပြင်၍ အင်းဝနန်းတက်တော်မူသည်။ ထိုနှစ် တန်ဆောင်မုန်းလဆန်းတစ်ရက်နေ့တွင် သားတော်အကြီးကို မိုးကောင်းမိုးညှင်းသို့ ချီတက်သိမ်းပိုက်စေခဲ့သည်။ အေဒီ ၁၆၀၀ တွင် ညောင်ရွှေကိုလည်းကောင်း၊ အေဒီ ၁၆၀၁ ခုတွင် ဗန်းမော်ကိုလည်းကောင်း၊ အေဒီ ၁၆၀၃ ခုတွင် မိုးနဲကိုလည်းကောင်း၊ အေဒီ ၁၆၀၄

---

၁။ ကုလား (ဦး)၊ မဟာရာဇဝင်တော်ကြီး၊ တတိယအုပ်၊ နှာ၊ ၉၁

၂။ ကုလား (ဦး)၊ မဟာရာဇဝင်တော်ကြီး၊ တတိယအုပ်၊ နှာ၊ ၁၀၆-၁၀၇

ခုတွင် မိုးကောင်းကိုလည်းကောင်း ချီတက်သိမ်းပိုက်ခဲ့သည်။ အေဒီ ၁၆၀၅ ခုတွင် မိုးမိတ်စော်ဘွားတို့က သစ္စာတော်ခံလာကြပြီး သီပေါနှင့်သိန္နီကို အောင်တော်မူသည်။ သိန္နီရောက်စဉ် ညောင်ရမ်းမင်းတရားကြီး မကျန်းမာသဖြင့် နေပြည်တော်သို့ ပြန်လာရာတွင် သီပေါအလွန် ရွှေသာလျောင်းတော်တွင် နတ်ရွာစံခဲ့လေသည်။[၁]

## ၃း ၉း ၂။ အနောက်ဘက်လွန်မင်းတရားကြီး

ညောင်ရမ်းမင်းကြီး နတ်ရွာစံပြီးနောက် မြန်မာသက္ကရာဇ် ၉၆၇ ခု၊ (အေဒီ ၁၆၀၅) သားတော်အကြီး မဟာဥပရာဇာသည် ရတနာပူရ အင်းဝနန်းကို သိမ်းမြန်းစိုးစံသည်။ အေဒီ ၁၆၀၇ ခုနှစ်တွင် အနောက်ဘက်လွန်မင်းသည် ပြည်ကို တိုက်ခိုက်အောင်မြင်ခဲ့သည်။ တောင်ငူသို့ ဆက်လက်ချီတက်ရာတွင် ခမည်းတော်မင်းကြီး လက်ထက်က စည်းရုံးသိမ်းသွင်းထားသော မိုးနဲ၊ ညောင်ရွှေ၊ မိုးမိတ်၊ မိုးကောင်း၊ မိုးညှင်းတပ်များလည်း ပါဝင်လေသည်။ သို့သော်တောင်ငူတိုက်ပွဲတွင် ရဟန်းသံဃာတော်များက စေ့စပ်ပေး၍ စစ်ပြေငြိမ်းမှု ရရှိခဲ့ကြသည်။ အေဒီ ၁၆၁၂ တွင် သံလျင်စား ဇေင်ကာ၊ မုတ္တမစား ဗညားဒလသည် တောင်ငူကို တိုက်ခိုက်သိမ်းပိုက်သဖြင့် အနောက်ဘက်လွန်မင်းတရားကြီးသည် ရှမ်းပြည်၊ မြန်မာပြည်အားလုံးရှိ စစ်သည်များစုဆောင်း၍ သံလျင်သို့ချီတက်တိုက်ခိုက်တော်မူသည်။ မြန်မာသက္ကရာဇ် ၉၇၄ ခု တန်ခူးလပြည့်ကျော်သုံးရက် စနေနေ့တွင် သံလျင်စားဇေင်ကာကို သံတံကျင်လျှိုး၍ သတ်လေသည်။ သံလျင်မြို့ကျပြီးနောက် သက္ကရာဇ် ၉၇၆ ခုတွင် မုတ္တမစား ဗညားဒလသည် လက်ဆောင်ပဏ္ဏာနှင့်တကွ မင်းတရားကြီးထံ

---

၁။ ကုလား(ဦး)၊ မဟာရာဇဝင်တော်ကြီး၊ တတိယအုပ်၊ နှာ၊ ၁၁၂-၁၃၆။

ကျွန်တော်ခံလာသည်။ ထို့နောက် ထားဝယ်ကိုလည်း သိမ်းပိုက်တော်မူသည်။ မင်းတရားသည် မုတ္တမတွင်ရှိခိုက် ယိုးဒယားမင်းသည် တနင်္သာရီတွင်ရှိသော အင်းဝစစ်ကို လာရောက်တိုက်ခိုက်လေသည်။ မင်းရဲသီဟသူနှင့် မင်းရဲကျော်ထင်တို့က ခုခံတိုက်ခိုက်သဖြင့် ယိုးဒယားပျက်၍ ဆုတ်ခွာသွားကြသည်။ မင်းတရားကြီးသည်လည်း ထိုမှတစ်ဆင့် ဇင်းမယ်ကို ချီတက် တိုက်ခိုက်တော်မူသည်။ ဇင်းမယ်ကို အလိုတော်ပြည့်၍ မြန်မာသက္ကရာဇ် ၉၇၇ ခု၊ (အေဒီ ၁၆၁၅) ကဆုန်လပြည့်ကျော် (၈) ရက်တနင်္လာနေ့တွင် ဇင်းမယ်ဘုရင်၊ သားတော်၊ အမှုးအမတ်၊ ဆင်မြင်း၊ ဗိုလ်ပါတို့ကို ယူတော်မူ၍ ဇင်းမယ်မှပြန်တော်မူသည်။[၁]

မုတ္တမမှ ဇင်းမယ်ကိုချီတက်စဉ် မိုးနဲစော်ဘွားထွက်ပြေးခဲ့သဖြင့် သီပေါစော်ဘွားတစ်တပ်၊ သီရိဓမ္မာသောကတစ်တပ်၊ တောင်ငူမင်းရဲကျော်ထင်တစ်တပ်၊ ညီတော်မင်းရဲကျော်စွာတစ်တပ်တို့အား ဘယဂါမဏိကို စစ်ကဲခန့်၍ မိုးနဲစော်ဘွားကို လိုက်လံဖမ်းဆီးစေခဲ့သည်။ မိုးနဲစော်ဘွားသည် လင်းဇင်းထံ စစ်ကူတောင်းသည်။ လင်းဇင်းစစ်တို့လည်း ထွက်ပြေးတိမ်းရှောင်သွားကြသဖြင့် မိုးနဲစော်ဘွားသည် လက်ဆောင်နှင့်တကွဆက်သတော်မူလာသည်။ ထွက်ပြေးသွားသော လင်းဇင်းစစ်သည်များကို လိုက်လံမတိုက်ခိုက်သောကြောင့် သီပေါစော်ဘွားနှင့် မင်းရဲကျော်ထင်တို့သည် ကွပ်မျက်အပြစ်ပေးခြင်း ခံရလေသည်။ အေဒီ ၁၆၂၂ ခုတွင် မင်းရဲကျော်စွာ၊ မင်းရဲသီဟသူ၊ ကျိုင်းတုံစော်ဘွားတို့သည် ကျိုင်းရုံးနှင့် မိုင်းစည်သို့ ချီတက်သော်လည်း ကျိုင်းရုံးစော်ဘွားက တိုက်ခိုက်ခြင်းမရှိသဖြင့် မိုင်းစည်သို့ ချီတက်ပြန်သည်။ မိုင်းစည်ကိုဝန်းရံထားကြစဉ် မင်းတရားကြီးက ညီတော်သတိုးဓမ္မရာဇာ၏ စစ်တပ်ကိုထပ်မံ၍ စေလွှတ်

၁။ ကုလား(ဦး)၊ မဟာရာဇဝင်တော်ကြီး၊ တတိယအုပ်၊ နှာ၊ ၁၄၁-၁၇၆

လာလေသည်။ မိုင်းစည်တွင် မင်းရဲသီဟသူအနိစ္စ ရောက်လေသည်၊ မိုင်းစည်ကို နှစ်လခန့်ဝန်းရံထားရပြီး စားနပ်ရိက္ခာ ပြတ်လတ်တော့သဖြင့် မိုင်းစည်တို့ အညံ့ခံလာကြလေတော့သည်။ အေဒီ ၁၆၂၃ ခုနှစ်တွင် ကျိုင်းခေါင်းပုန်ကန်သဖြင့် ညီတော်သတိုးဓမ္မရာဇာသည် ကျိုင်းရုံးမှတဆင့် ကျိုင်းခေါင်းသို့ ချီတက်တိုက်ခိုက်လေသည်။ ကျိုင်းခေါင်းတို့က အန်းမြို့တွင် အခိုင်အမာဖြင့် ခုခံကြသည်၊ အေဒီ ၁၆၂၄ ခု တန်ဆောင်မုန်းလမှ ကျိုင်းခေါင်းကိုရလေသည်။ အေဒီ ၁၆၂၅ ခုနှစ်တွင် ကျိုင်းရုံးစားနှင့် မိုင်းစည်စားတို့က ပြန်လည်ပုန်ကန်ကြသဖြင့် ကျိုင်းခေါင်းမှတစ်ဆင့် ကျိုင်းရုံးသို့ ချီတက်ရပြန်သည်။ အေဒီ ၁၆၂၆ ခုနှစ်၊ နတ်တော်လတွင် မိုင်းစည်ပျက်၍ ကျိုင်းရုံးနှင့်တကွ ရတော်မူပြန်သည်။ ကျိုင်းရုံးစားနှင့် မိုင်းစည်စားတို့ကို မကောင်းသော အစီအရင်ဖြင့် ကွပ်မျက်တော်မူသည်၊ အေဒီ ၁၆၂၈ ခုနှစ်၊ မင်းတရားကြီး၏ ကိုယ်လုပ်တော်ဖြစ်သူ ကျိုင်းတုံစော်ဘွားသမီး 'နှင်းခန်းပေါ'သည် သားတော်မင်းရဲဒိဗ္ဗနှင့် စွဲ၍ ကိုယ်ဝန်ရှိသည်ကို မင်းတရားသိလေသည်။ သားတော်မင်းရဲဒိဗ္ဗသည် ခမည်းတော်၏ လက်ဦးမှုကို ရယူပြီး မြန်မာသက္ကရာဇ် ၉၉၀ ပြည့်နှစ် ပထမဝါဆိုလဆန်း (၈) ရက်နေ့တွင် ခမည်းတော်ကို လုပ်ကြံလေတော့သည်။[1]

အေဒီ ၁၆၀၀ ပြည့်လောက်တွင် ပဲခူးမြို့ပျက်ခဲ့ရာတွင် မြန်မာတို့၏အင်အားသည် ယာယီအားဖြင့် ယိမ်းယိုင်ခဲ့၏။ အေဒီ ၁၆၅၈ ခုနှစ်နောက်ပိုင်း နှိုးကြားမှု၊ ကြိုးစားလှုံ့ဆော် ဆောင်ရွက်မှုတို့တွင် လူမျိုးတစ်မျိုး၊ နိုင်ငံတစ်နိုင်ငံအနေနှင့် မြန်မာတို့၏ ဆောင်ရွက်မှုတို့မှာ ထူးခြားထင်ရှားခြင်း မရှိပေ။ အေဒီ ၁၇၃၀ ပြည့်နှစ် နောက်ပိုင်းတွင်ကား နိုင်ငံသားတို့အစုအစုကွဲပြားခဲ့ကြ၏။ မြန်မာတစ်စု၊ မွန်တစ်စု ကွေ့ရှမ်းတစ်စု ဟူ၍

---

၁။ ကုလား (ဦး)၊ မဟာရာဇဝင်တော်ကြီး၊ တတိယအုပ်၊ နှာ-၁၈၄-၁၈၈။

ထင်ရှားသော အစုသုံးစု ရှိခဲ့သည်။ ယင်းအစုတို့ ကွဲပြားကြသဖြင့် တိုင်းရေးပြည်ရာနိမ့်ကျခဲ့ရ၏။ ဤသို့နိမ့်ကျသည့်အချိန်တွင် တိုင်းပြည်ကို စိုးမိုးအုပ်ချုပ်နိုင်ရန် မွန်၊ ကွေ့ရှမ်းနှင့် မြန်မာတို့သည် အသီးသီး အပြိုင် အဆိုင်ကြိုးစားခဲ့၏။ ဦးစွာ၌ မွန်တို့သည် အင်းဝကို သိမ်းပိုက်မိသည်အထိ အောင်ပွဲရခဲ့ကြ၏။ ကွေ့ရှမ်းတို့မှာကား တဖြည်းဖြည်းနှင့် မှေးမှိန်သွား ခဲ့ကြ၍ မကြာမီအတွင်း အလောင်းမင်းတရားကြီးဦးအောင်ဇေယျ ပေါ်ပေါက်လာ၍ ပြိုင်ပွဲတွင် လုံးဝအနိုင်ယူကာ တိုင်းရင်းသားတို့ကို စည်း လုံးပေးခဲ့၏။ ဤသို့ဖြင့် မြန်မာ့သမိုင်းတွင် ကုန်းဘောင်ခေတ်ကြီး ပေါ် ပေါက်လာခဲ့ပေသည်။[၁]

## ၃း၉း၃ ။ ကုန်းဘောင်ခေတ်နှင့် ရှမ်းပြည် (၁၇၅၂-၁၈၂၄)

အေဒီ ၁၇၅၁ ခုနှစ်တွင် တရုတ်စစ်တပ်များ ရှမ်းပြည်အတွင်းသို့ ဝင်ရောက်တိုက်ခိုက်လုယက်ကြသည့်အပြင် အင်းဝအထိရောက်လာကြ သည်။ ထိုအချိန်တွင် သိန္နီစော်ဘွား ခွန်ခမ်းဟိန်း (အေဒီ ၁၇၃၇-၁၇၅၂) သည် သားတော်မန်းကဲနှင့် သားတော် ခွန်ခမ်းလှိုင်အား စစ်သည်အင် အားစုဆောင်း၍ တရုတ်တို့အား သီပေါသို့စစ်ကြောင်းတစ်ကြောင်း၊ မော် ပန်ယုံးသို့ စစ်ကြောင်းတစ်ကြောင်းဖြင့် သွားရောက်တိုက်ခိုက်စေသည်။ မန်းကဲသည် သီပေါရှိတရုတ်တို့ကို တိုက်ခိုက်အောင်မြင်ပြီး သီပေါစော် ဘွားကိုဖမ်း၍ ကိုရှင်ဘို လက်သို့အပ်ပြီး အင်းဝသို့ယူသွားစေသည်။ သီ ပေါစော်ဘွားထွက်ပြေးရန် ကြံစည်သဖြင့် ကိုရှင်ဘိုက သတ်ဖြတ်ပစ် လိုက်လေသည်။ မန်းကဲသည် မိန်းပတ်ရှိတရုတ်တို့ကိုလည်း တိုက်ခိုက် နိုင်ပြီး မိန်းပတ်စော်ဘွားကိုလည်း ကိုရှင်ဘိုလက်သို့ လွှဲအပ်ခဲ့လေသည်။ ကိုရှင်ဘိုသည်လည်း မိန်းပတ်စော်ဘွားကို အင်းဝသို့ခေါ်ဆောင်သွားရာ

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၀၊ မြန်မာလူမျိုး၊ နှာ၊ ၃၅၂

တရုတ်များက လမ်းတွင်တိုက်ခိုက်လုယူပြီး ကိုရှင်ဘိုလည်းသေဆုံးလေသည်။ ခွန်ခမ်းလှိုင်သည် မော်ပန်ယုံးတွင် အရေးမလှသဖြင့် သိန္နီစော်ဘွားက သားတော်ကြီး မန်းကဲအား မော်ပန်ယုံးသို့ စစ်ကူလွှတ်လေသည်။ မန်းကဲသည် တရုတ်တို့အား ရွပ်ရွပ်ချွံချွံတိုက်ခိုက်သဖြင့် တရုတ်တို့မခံနိုင်ကြတော့ပဲ ဆုတ်ခွာထွက်ပြေးသွားရလေသည်။ တိုင်းပြည်အေးချမ်းသွားသောအခါ သိန္နီစော်ဘွားစောခမ်းဟိန်းသည် အနိစ္စရောက်လေသည်။[၁]

အေဒီ ၁၇၅၂ ခုနှစ်တွင် ဟံသာဝတီတပ်များ အင်းဝကိုလာရောက် တိုက်ခိုက်စဉ် အင်းဝကို ကူညီရန်အတွက် သိန္နီစော်ဘွားမန်းကဲသည် သိန္နီတပ်နှင့်အတူ ဆင်ခေါင်းအရပ်သို့ ရောက်လာသည်။ သို့သော်ဆင်ခေါင်းမှ ပြန်ဆုတ်ခွာခဲ့လေသည်။ အေဒီ ၁၇၅၆ ခုနှစ်တွင် အလောင်းဘုရား ဦးအောင်ဇေယျသည် ရှမ်းပြည်စော်ဘွားများကို ရတနာသိခ်သို့ ဖိတ်ခေါ်သော်လည်း မန်းကဲသည် မတက်ရောက်သဖြင့် အေဒီ ၁၇၅၇ ခုနှစ်တွင် မန်းကဲစော်ဘွားသည် ရပ်စောက်၌ မင်းကြီးကျော်စွာတို့နှင့် တိုက်ခိုက်လေသည်။ မင်းကြီးကျော်စွာတို့ ဆုတ်ခွာခဲ့ရပြီး မန်းကဲသည် သုံးဆယ်မှ တစ်ဆင့် ရွှေရန်ပြေစေတီအထိ ရောက်လာကြသည်။ အလောင်းဘုရား ဦးအောင်ဇေယျသည်လည်း စော်ဘွားအပေါင်းတို့ကို ဆင့်ခေါ်၍ မင်းကြီးကျော်စွာတပ်နှင့်အတူ သိန္နီသို့ ချီတက်လေသည်။ စစ်အင်အားများပြားလွန်းသဖြင့် မန်းကဲသည် တရုတ်ပြည်သို့ တိမ်းရှောင်ထွက်ပြေးရလေသည်။ အေဒီ ၁၇၅၉ ခုနှစ်တွင် စစ်သူကြီးမင်းကြီးကျော်စွာသည် သိန္နီမြို့တွင် မြို့ဝန်ကြီးအဖြစ်အုပ်စိုးလေသည်။[၂]

အေဒီ ၁၇၆၀ ခုနှစ်တွင် ယိုးဒယားသို့ သွားရောက်တိုက်ခိုက်စဉ်

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan, P.181-2

၂။ Ibit. PP.182-185

အပြန်တွင် နတ်ရွာစံခဲ့သဖြင့် (၁၇၆၀-၁၇၆၃) ခုတွင် သားတော်မောင် လောက် (ခေါ်) နောင်တော်ကြီး နန်းတက်လာပြီး စစ်ကိုင်းသို့ပြောင်းရွှေ့ လာသည်။ နောင်တော်ကြီးမင်းသည် မင်းကြီးကျော်စွာအား သိန္နီစော်ဘွား မန်းကဲကို ဖမ်းစေသဖြင့် မင်းကြီးကျော်စွာသည် မိုင်းကာ့၊ မိုင်းကိုးအထိ သွားရောက်တိုက်ခိုက်ခဲ့သည်။ မန်းကဲသည် တရုတ်ပြည် 'ပေါင်းဆန်' အထိ ထွက်ပြေးတိမ်းရှောင်သွားပြီး သူ၏မှူးမတ်များကို ပြန်လည်ဆုတ် လာခဲ့ပြီး သိန္နီစော်ဘွားမန်းကဲလည်း နေမကောင်းသဖြင့် မိုင်းကာ့တွင် အနိစ္စရောက်ခဲ့လေသည်။[၁]

၃း၉း၃း၁။ ခွန်ဆိုင်ခမ်းဟော့ AD ၁၇၆၂-၁၇၆၄

သိန္နီတွင်အုပ်ချုပ်သူ မရှိတော့သဖြင့် နောင်တော်ကြီးသည် ခွန် ဆိုင်ခမ်းဟော့အား သိန္နီကို အုပ်ချုပ်စေသည်။ ခွန်ဆိုင်ခမ်းဟော့သည် ဟံသာဝတီတပ်များ အင်းဝကို လာရောက်တိုက်ခိုက်စဉ် အင်းဝမှူးမတ် တစ်ဦးအပါအဝင် ခမည်းတော် ခွန်ခမ်းလွတ် (ဝင်းမနား)တို့နှင့်အတူ သိန္နီမန်းကဲထံသို့ ခိုဝင်လာခဲ့သူဖြစ်သည်။ မင်းကြီးကျော်စွာသည် သိန္နီကို လာရောက်တိုက်ခိုက်စဉ် မြင်းတော်ဝန်နှင့်အတူ အလောင်းဘုရားထံ ရောက်ခဲ့ပြီး ဦးအောင်ဇေယျက နန်းတွင်းတွင် ခေါ်ယူထားခြင်းဖြစ်သည်။ အေဒီ ၁၇၆၁ ခုနှစ်တွင် နောင်တော်ကြီးမင်းက စစ်ဆင်ဝန်အား ဇင်းမယ်၊ သေဉ်ဆည်၊ ကျိုင်းဟုန်၊ ကျိုင်းတုံသို့ချီတက်စေသည်။ စစ်ဆင်ဝန်သည် လည်း သိန္နီစော်ဘွားခွန်ဆိုင်ခမ်းဟော့အား စစ်သည်အင်အားနှစ်ထောင် နှင့် ကျိုင်းတုံသို့ချီတက်ရန် ဆင့်ခေါ်သဖြင့် ကျိုင်းတုံသို့အတူ လိုက်ပါသွား သည်။ အေဒီ ၁၇၆၃ ခုနှစ်အထိ (၂) နှစ်တိုင်တိုင် အင်ပါယာချဲ့ထွင်ခဲ့ ပြီး တန်ဆောင်မုန်းလဆန်း(၇)ရက်တွင် မိန်းလျန်းမှ သိန္နီသို့ပြန်လှည့်လာ

[၁] Hsen (Khur). The Oregin of Tais and A Short History of Shan. P.186

ခဲ့သည်။ စစ်သည်အင်အား များပြားလွန်းသဖြင့် ရိက္ခာလည်း ရှားပါးလာသည်။ ရရာကို ရှာစားကြရသဖြင့် နယ်ခံတို့ထံမှ လုယူစားသောက်ရင်းဝမ်းရေးကိုဖြေရှင်းကြရလေသည်။ ဤအကြောင်းကို တရုတ်မိန်းဆည်ဘုရင်ခံကြားသိ၍ စစ်ဆင်ဝန်တို့ကွမ်းလုံသို့အရောက် သံလွင်မြစ်ကို ဖြတ်ကူးသည့်အချိန်တွင် တရုတ်တပ်နှင့် တရုတ်ပြည်မှ ရှမ်းစော်ဘွားတပ်များက ကြားဖြတ်ဝင်ရောက် တိုက်ခိုက်ခဲ့သဖြင့် မြန်မာစစ်သည်များ အများအပြား ကျဆုံးခဲ့ရသည့်အပြင် စစ်ဆင်ဝန်ကိုလည်း တရုတ်တို့က သတ်ပစ်လိုက်လေသည်။ သိန္နီစော်ဘွားကို ချန်တူသို့ ဖမ်းဆီးခေါ်ဆောင်သွားလေသည်။ သံလွင်မြစ်ကို ဖြတ်ကျော်၍ မိန်းတိန်၊ ကာမသို့ဆုတ်ခွာလာသောမြန်မာစစ်သည်များကိုလည်း တရုတ်တို့က ဆက်လက်တိုက်ခိုက်သဖြင့်တပ်ပျက်ကာ ဆက်လက်ဆုတ်ခွာလာခဲ့ကြသည်။ အင်းဝသို့ ထွက်ပြေးလွတ်မြောက်လာသူတို့က ဤသို့ဖြစ်ရခြင်းသည်သိန္နီစော်ဘွား၏ ပယောဂကြောင့်ဖြစ်သည်ဟု နောင်တော်ကြီးမင်းအား လျှောက်ထားသဖြင့် နောင်တော်ကြီးသည် အထင်လွဲပြီး သိန္နီသို့ ပြန်ရောက်လာသော ခွန်ဆိုင်ခမ်းဟေ့ကို အင်းဝသို့ဆင့်ခေါ်၍ ဆင်ဖြင့်နင်းသတ်လေသည်။ ထို ၁၇၆၃ ခုနှစ်တွင်လည်း နောင်တော်ကြီးမင်းလည်း ကံတော်ကုန်လေသည်။[၁]

## ၃း၉း၃း၂။ ခွန်ခမ်းလှိုင် (ခေါ်) စောလုံခမ်းဆောင်ဖ (AD ၁၇၆၄-၁၇၆၅)

အေဒီ ၁၇၆၄ ခုနှစ် နောင်တော်ကြီးမင်း နတ်ရွာစံသောအခါ ယင်း၏ ညီတော်မောင်ရွှ(ခေါ်)မြေဒူးမင်းသည် ဆင်ဖြူရှင်ဘွဲ့ဖြင့် နန်းတက်လာသည်။ သိန္နီစော်ဘွားမန်းကဲသည် တရုတ်ပြည်သို့ ထွက်ပြေးစဉ် မန်းကဲ၏ ညီဖြစ်သူ ခွန်ခမ်းလှိုင်သည် အလောင်းဘုရားဦးအောင်ဇေယျ

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.186-8

၏ မြင်းတော်ဝန်အထံသို့ လက်ဆောင်ပဏ္ဏာများဖြင့် ခိုလှုံလာသည်။ ထို့ကြောင့် မြေဒူးမင်းသည် ခွန်ခမ်းလှိုင်အား သိန္နီစော်ဘွားအဖြစ် ခန့်အပ်လေသည်။ ခွန်ခမ်းလှိုင်သည် 'စောလုံခမ်းဆောင်ဖ' အမည်ဖြင့် သိန္နီဟော်နန်းတက်သည်။[၁]

အေဒီ ၁၇၆၅ ခုနှစ်တွင် ဆင်ဖြူရှင်က ယိုးဒယားကို စစ်ချီရန် သိန္နီမှ စစ်သည်နှစ်ထောင်ဆင့်ခေါ်သည်။ ခွန်ခမ်းလှိုင်သည် ညီအစ်ကို စစ်သူကြီး ခွန်ဆိုင်အောင်ထွန်းနှင့် ခွန်ဆိုင်မြအောင်ကို မိုးနဲသို့စေလွှတ်ပြီး တိမ်ကြားဝန်နှင့် ပူးပေါင်းစေသည်။ တိမ်ကြားဝန်တို့သည် ဇင်းမယ်၊ ကျိုင်းသေ၌သို့တိုင်အောင် ရောက်ခဲ့ပြီး နှစ်လကြာမှ ကျိုင်းတုံသို့ ပြန်ရောက်လေသည်။ ဆစ်ဆောင်ပန်းနားနယ်သည် ထိုအချိန်မှစ၍ တရုတ်လက်အောက်သို့ ခိုဝင်လေသည်။ တိမ်ကြားဝန်တို့သည် သံလွင်မြစ်အနောက်ဘက်ကမ်းသို့ ရောက်လာကြပြီး လမ်းခွဲကြရာတွင် တိမ်ကြားဝန်က ခွန်ဆိုင်အောင်ထွန်းအား မိန်းလျှဉ်းမှဆက်သလာသည့် အပြေးသန်သည့် မြင်းညိုတစ်ကောင်၊ ခွန်ဆိုင်မြအောင်အား ထက်လှစွာသောဓားရှည်တစ်လက်ကို ပေးအပ်ခဲ့သည်။ စစ်သူကြီးခွန်ဆိုင်အောင်ထွန်းနှင့် ခွန်ဆိုင်မြအောင်တို့ သိန္နီသို့ပြန်ရောက်သောအခါ စော်ဘွားက ထိုမြင်းနှင့် ဓားကို လိုချင်၍ အခြားသောပစ္စည်းများနှင့် အလဲအလှယ် ပြုလုပ်စေသော်လည်း စစ်သူကြီးနှစ်ဦးက သဘောမတူချေ။ အဘယ်ကြောင့်ဆိုသော် စစ်မထွက်မီ စော်ဘွားကြီးသည် 'စစ်အောင်မြင်၍ လက်ဆောင်ပစ္စည်းရသော် သင်တို့နှစ်ဦးယူချေ။ နယ်မြေကိုပေးသော် မယူရ'ဟု ဆိုထားသဖြင့် ထိုစစ်သူကြီးက သဘောမတူခြင်းဖြစ်သည်။ စော်ဘွားသည် ထိုသူနှစ်ဦးအား လုပ်ကြံသတ်ဖြတ်ရန် ကြံစည်လေသည်။ သို့သော် စစ်သူကြီးနှစ်ဦးက ကြိုတင်သိရှိကြ၍ စစ်သည်အင်အားငါးရာခန့် စုဆောင်း

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.188

မိပြီး အေဒီ ၁၇၆၅ ခုနှစ်တွင် စော်ဘွားကြီးကို လုပ်ကြံကာ တရုတ်ပြည်သို့ ထွက်ပြေးခိုလှုံလေသည်။ အေဒီ ၁၇၆၆ ခုနှစ်တွင် ခွန်ဆိုင်အောင်ထွန်း တို့သည် တရုတ်စစ်တပ်တို့ကို ခေါ်ဆောင်၍ တရုတ်ပြည်ရှိ ရှမ်းစော်ဘွား အချို့နှင့်ပူးပေါင်းပြီး စစ်ကြောင်းခွဲ၍ မြန်မာပြည် အတွင်းသို့ ဝင်လာ သည်။[၁]

ဆင်ဖြူရှင်လက်ထက် အေဒီ ၁၇၆၇ ခု ယိုးဒယားကိုအောင်မြင် တော်မူပြီးသည့်နောက် မြန်မာနိုင်ငံသို့ တရုတ်တပ်များ တိုက်ခိုက်လာ သည့်အတွက် ဆင်ဖြူရှင်မင်းသည် ယိုးဒယားပြည်ရှိ မြန်မာတပ်များကို ပြန်လည်ခေါ်ယူခဲ့ရ၏။ ယင်းသို့ တရုတ်တို့မြန်မာနိုင်ငံသို့ စစ်ချီတိုက်ခိုက် လာရခြင်းမှာ-

(၁) နယ်ခြားအရေး ရှုပ်ထွေးခြင်း။

(၂) တရုတ်ကုန်သည်တို့နှင့် မြန်မာတို့ဆက်ဆံရေးအဆင်မပြေခြင်း။

(၃) သိန္နီ၊ ဗန်းမော်စော်ဘွား စသည့်နယ်စပ်စော်ဘွားတို့က တရုတ် တို့ကို ချီပင့်ခြင်း တည်းဟူသော အကြောင်းသုံးရပ်ကြောင့်ဖြစ် သည်။[၂]

အေဒီ ၁၇၆၅ မှ ၁၇၆၈ အတွင်း တရုတ်တို့နှင့် စစ်လေးကြိမ် တိုင်တိုင် ဖြစ်ခဲ့သည်။ ထိုစစ်ပွဲတွင် တရုတ်ပြည်မှ ရှမ်းစော်ဘွားများသည် တရုတ်စစ်တပ်တွင် ပါဝင်ပြီး မြန်မာပြည်မှ ရှမ်းစော်ဘွားများသည် မြန်မာ စစ်ထဲတွင် ပါဝင်သည်ကိုတွေ့ရသည်။

ပထမအကြိမ် တရုတ်စစ်သည်တို့သည် ကောင်းတုံမြို့ကို အထပ်ထပ် ဝန်းရံလုပ်ကြံလာ၏။ ထိုသတင်းကို ကြားလျှင် ဆင်ဖြူရှင် မင်းသည် လက်ဝဲဝင်းမှူး နေမျိုးစည်သူကို စစ်သည်သူရဲများနှင့် ချီတက်

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P. 188-9

၂။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၄၊ ဆင်ဖြူရှင်မင်း၊ နှာ၊ ၂၃၃

တိုက်ခိုက်စေသည်။ ကောင်းတုံမြို့တွင်းကလည်း ထွက်တိုက်သည်နှင့် တရုတ်တို့ မခံနိုင် ဆုတ်ခွာထွက်ပြေးရလေသည်။ ထိုစစ်ပွဲတွင် တရုတ်တို့ဘက်မှ စစ်သည်ငါးသောင်း၊ မြင်းတစ်သောင်းဖြင့် ချီတက်လာရာ တရုတ်စစ်သည် တစ်သောင်းကျဆုံးခဲ့ရသည်ဟု ဆိုလေသည်။ ယင်းတို့မရှုမလှ ဆုံးရှုံးခဲ့ရသည့်အတွက် ယူနန်ဘုရင်ခံမှာ မိမိကိုယ်မိမိ အဆုံးစီရင်သွားရှာလေသည်။ သက္ကရာဇ် ၁၁၂၈ ခုနှစ်တွင် ဒုတိယအကြိမ် တရုတ်စစ်သည် နှစ်သိန်းငါးသောင်း၊ မြင်းသည် နှစ်သောင်းငါးထောင်ဖြင့် ဗန်းမော်သို့ စစ်ချီလာပြန်၏။ ဆင်ဖြူရှင်မင်းကြီးလျှင် နေမျိုးစည်သူကို ရေကြောင်းမှ ဗန်းမော်သို့ ချီတက်တိုက်ခိုက်စေ၍ မဟာစည်သူကို ဧရာဝတီမြစ်၏ အနောက်ဘက်မှ မိုးကောင်း၊ မိုးညှင်းသို့ ချီစေသည်။ ကောင်းတုံတွင် ရှိနေသောဗလမင်းထင်၏ တပ်ကိုလည်း အင်အားဖြည့် ပေးလေသည်။ တရုတ်တပ်များ ကောင်းတုံမြို့ကို ဝန်းရံတိုက်ခိုက်သော်လည်း ဗလမင်းထင်၏ အစီအမံကောင်းသဖြင့် မြို့ပြခိုင်လုံသောကြောင့် မအောင်မြင်ချေ။ ထိုအချိန်တွင် နေမျိုးစည်သူ၏ စစ်ကူများရောက်လာ၏။ သို့ဖြစ်၍ ၃ ရက်အတွင်း တရုတ်တပ်များ ဆုတ်ခွာသွားရလေသည်။ နောက်တစ်နှစ်ဖြစ်သော သက္ကရာဇ် ၁၁၂၉ ခုနှစ်တွင် တရုတ်တပ်တို့ တတိယအကြိမ် ချီလာကြ၏။ ထိုအကြိမ်တွင် တရုတ်ကေရာဇ် ဘုရင်၏ သားမက်တော် မြင်းခုံရှံ (မင်းကျုအီ) ကိုယ်တိုင် အုပ်ချုပ်လျက် မြင်းသည် သုံးသောင်း၊ ခြေသည်သုံးသိန်းဖြင့် ချီလာသည်။ တရုတ်တို့သည် သိန္နီမြို့ကို တိုက်ခိုက်သိမ်းယူပြီးလျှင် ရိက္ခာထောက် အဆက်အလက်များနှင့်တကွ အခိုင်အမာပြုကာ သီပေါသို့ စစ်ကြောင်းတစ်ကြောင်း၊ ဗန်းမော်သို့စစ်ကြောင်းတစ်ကြောင်း ချီတက်တိုက်ခိုက်၏။ ထိုအခါ မဟာစည်သူ၏တပ်သည် သီပေါသို့ ချီလာသော တရုတ်တို့ကို ဆီးကြိုတိုက်ခိုက်ရသည်။ မဟာသီဟသူရတပ်သည် တရုတ်တို့၏ ရိက္ခာထောက်တပ်

များကို နောက်မှလှည့်တိုက်ခိုက်ရန် ဘော်ကြိုသို့ ချီရသည်။ ဗန်းမော်သို့ ချီလာသော တရုတ်တပ်တို့ကို လက်ဝဲဝင်းမှူးတပ်က ဆီးကြိုတိုက်ခိုက်ရလေသည်။ မဟာစည်သူ၏တပ်မှာ မခံနိုင်၍ မြန်မာတပ်များ ကတိမ်းကပါး ကစဉ့်ကရဲရှိလေသည်။ မဟာစည်သူတပ်ကို အောင်မြင်လာခဲ့သော မြင်းခုံရဲသည် ဆက်လက်ချီတက်ခဲ့ရာ၊ မေမြို့ဒေသကို ဖြတ်ကျော်ပြီးနောက် မေမြို့နှင့် ၈ မိုင်ကွာ၊ အင်းဝမှ မိုင် ၃၀ ခန့်သာဝေးသော ဆင်ခေါင်းသို့ တပ်ဦးရောက်လာခဲ့၏။ မြန်မာတို့ ဘက်မှ မဟာသီဟသူရတို့တပ်သည် တရုတ်တို့၏ ရိက္ခာထောက် နောက်တပ်များကို တိုက်ခိုက်ပြီးနောက် လားရှိုးနှင့်သံလွင်မြစ်ပေါ်ရှိ ကွန်းလုံကူးတို့ဆိပ်ကို ချီတက်သိမ်းယူလိုက်ရာ တရုတ်ပြည်မှ ရိက္ခာထောက်တပ်များ မပေါက်ရောက်နိုင်ရှိလေသည်။ ထို့နောက် လက်ဝဲဝင်းမှူးတို့တပ်နှင့် ပူးပေါင်းမိ၍ သိန္နီရှိ တရုတ်တပ်မကြီးကို တိုက်ခိုက်ရာ တရုတ်တို့ ငတ်မွတ်လှသည်ဖြစ်၍ ကောင်းစွာ မခံနိုင်ဘဲ တပ်လုံးပျက်ကာ ဆုတ်ခွာထွက်ပြေးလေသည်၊ မြစ်ငယ်လမ်းကြောင်းမှချီ၍ ဆင်ခေါင်းသို့ ရောက်နေသော မြင်းခုံရဲ၏ တပ်တို့ကို မဟာစည်သူတပ်က ထပ်မံတိုက်ခိုက်ပြန်ရာ၊ တရုတ်တို့ ရိက္ခာပြတ်နေချိန်ဖြစ်သည့်အတွက် တပ်ပျက်ကာ ဆုတ်ခွာရသည်။ စစ်ဝိုင်းခံနေရချိန်၌ မြင်းခုံရဲသည် ကျစ်ဆံမြီးကို ဧကရာဇ်ဘုရင်ထံသို့ဖြတ်၍ ပို့ရန်မှာကြားလျက် မိမိကိုယ်မိမိ အဆုံးစီရင်သွားလေသည်။ မဟာစည်သူ တပ်နှင့် မဟာသီဟသူရတပ်တို့မှာ ပူးပေါင်းမိသွားကာ တရုတ်တို့ကို ထပ်မံလိုက် တိုက်ပြန်ရာ တရုတ်တို့သည် တရုတ်ပြည်တိုင်အောင် ဆုတ်ခွာကြရလေသည်။ ဗန်းမော်လမ်းကြောင်းမှ ချီလာ၍ ဗန်းမော်မြို့ကို အထပ်ထပ် ဝန်းရံလုပ်ကြံသော်လည်း ဗလမင်းထင် အကွပ်အညှပ်နှာ၍ မရနိုင်သော တရုတ်တို့တပ်လည်း သီပေါသို့ချီသည့် တပ်ကြီးပျက်ကြောင်း ကြားလျှင် အရုံဖြုတ်ကာ ထွက်ပြေးသွားလေသည်။ [၁]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၄၊ ဆင်ဖြူရှင်မင်း၊ နှာ၊ ၂၇၇-၂၇၈။

သက္ကရာဇ် ၁၁၃၀ ပြည့်နှစ်တွင် တရုတ်တို့စတုတ္ထအကြိမ်လာပြန်၏။ ထိုအကြိမ်တွင် တရုတ်တို့သည် ခြေသည်ငါးသိန်းငါးသောင်းဖြင့် ချီလာကာ ဗန်းမော်မြို့ကို တိုက်ခိုက်သိမ်းပိုက်လိုက်လေသည်။ ထိုမှတစ်ဆင့် ကောင်းတုံမြို့ကို တိုက်ခိုက်သိမ်းပိုက်လိုက်လေသည်။ ထိုမှတစ်ဆင့် ကောင်းတုံမြို့အရှေ့ ၁၂ မိုင်အကွာ ရွှေညောင်ပင်အရပ်တွင် ခံတပ် အခိုင်အလုံဆောက်၍ ရပ်တည်နေ၏။ ဗန်းမော်ကို ချီခဲ့စဉ်က မြစ်ညာတွင် ထားခဲ့သော တရုတ်တပ်များကလည်း လှေသမ္ဗန်လုပ်ကာ ရေကြောင်း ချီလာသည်။ ကောင်းတုံမြို့ကို တရုတ်တို့ ရေကြောင်း ကြည်းကြောင်းဖြင့် အထပ်ထပ်ဝန်းရံလုပ်ကြံသော်လည်း ဗလမင်းထင် အစီအမံအကွပ် အကဲကောင်း၍ မရချေ။ အင်းဝမှ နေမျိုးသီဟသူရ၊ မဟာသီဟသူရ လက်ဝဲဝင်းမှူးတို့ ချီတက်စေ၏။ တရုတ်တို့သည် ကောင်းတုံကို မသိမ်းပိုက်နိုင်ဘဲ သက္ကရာဇ် ၁၁၃၁ (အေဒီ ၁၇၆၉) ခုနှစ်လောက်တွင် ရွှေညောင်ပင်ခံတပ်ကို လက်လွှတ် လိုက်ရလေသည်။ သို့အတွက် စစ်ပြေငြိမ်းရန် တရုတ်တို့ စကားကမ်းလှမ်းလာ၏ အခြားစစ်ဗိုလ်များက သဘောမတူသော်လည်း ဗိုလ်ချုပ်မဟာသီဟသူရသည် ရှေ့ရေးကို မျှော်တွေးလျက် ဘုရင့်အမိန့်ကို မခံယူတော့ဘဲ စစ်ပြေငြိမ်းရေးကို လက်ခံလိုက်လေသည်၊ ထိုသတင်းကို ဆင်ဖြူရှင်ကြားလျှင် အမျက်တော်ရှကာ ရရှိခဲ့သော လက်ဆောင်ပဏ္ဏာတို့ကို ဗိုလ်မှူးတပ်မှူးတို့၏ ဇနီးများအား ရွက်စေလျက် ၃ ရက်တိုင်တိုင် နေလှန်းသည်ဟု ဆိုလေသည်။ ထို့ကြောင့်လည်း မြန်မာစစ်သည်တော်တို့သည် နေပြည်တော်သို့ မပြန်ကြဘဲ မဏိပူရကသည်းပြည်တွင် ပုန်ကန်ခြားနားသည်ကို သွားရောက်နှိမ်နင်း၍ လက်ဆောင်ပဏ္ဏာများကို ဆောင်ကြဉ်းပြီးမှ ပြန်ခဲ့ကြလေသည်။[၁]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၄၊ ဆင်ဖြူရှင်မင်း၊ နှာ၊ ၂၃၈၊

## ၃း၉း၃း၃။ ဦးတင်ပုည AD ၁၇၆၈-၁၇၇၄

တရုတ်မြန်မာ စစ်ပြေငြိမ်းပြီးနောက် ဆင်ဖြူရှင်မင်းသည် တ လေးဝန်အား မိုးနဲသို့လည်းကောင်း၊ မင်ကြီးကျော်စွာအား ရပ်စော သို့လည်းကောင်း၊ ဦးတင်ပုညအား သိန္နီသို့လည်းကောင်း သွားရောက် အုပ်ချုပ်ကွပ်ကဲစေသည်။ ဦးတင်ပုညသည် သန္နီမှလားရှိုးသို့ ပြောင်းရွှေ့ ရုံးစိုက်လေသည်။ အေဒီ ၁၇၇၄ တွင် စစ်ပွဲကာလအတွင်း ထွက်ပြေးတိမ်း ရှောင်ရာမှ ခွန်ဆိုင်ယီ (သိန္နီစော်ဘွားမန်းကဲ၏ညီတော်)သည် လာရှိုးသို့ ရောက်လာပြီး စစ်သူကြီး သူရိန်ကျော်ခေါင်ထံ ဝင်ရောက်လာသည်။ သူရိန်ကျော်ခေါင်နှင့် မှူးမတ်ပြည်သူ အပေါင်းက ခွန်ဆိုင်ယီအား စော် ဘွားအဖြစ် ခန့်အပ်ရန် သဘောတူကြလေသည်။ ဝန်ကြီးဦးတင်ပုညသည် ခွန်ဆိုင်ယီအား ဖမ်းဆီးပြီး ကွပ်မျက်လိုက်သဖြင့် သူရိန်ကျော်ခေါင်က ဆင်ဖြူရှင်မင်းထံ အကြောင်းစုံကို သံတော်ဦးတင်လေသည်။ ဆင်ဖြူ ရှင်သည်လည်း ဦးတင်ပုညကို အင်းဝသို့ခေါ်ဆောင်ကာ ကွပ်မျက်လိုက် လေတော့သည်။[၁]

## ၃း၉း၃း၄။ ကျောက်ဆည်ဝန် AD ၁၇၇၄-၁၇၇၇

ဦးတင်ပုည နှင့် ခွန်ဆိုင်ယီ လွန်ပြီးနောက် ဆင်ဖြူရှင်မင်းသည် ကျောက်ဆည်ဝန်ကို ခန့်အပ်ခဲ့သည်။ ကျောက်ဆည်ဝန်က သိန္နီစော်ဘွား မျိုးရိုးကို ရှာဖွေစေခဲ့သဖြင့် ခွန်ခမ်းဟော့၏ သားတော် ခွန်ဆွေခိုင်သည် ညောင်ရွှေတွင်ရှိနေကြောင်း သတင်းရရှိသဖြင့် ညောင်ရွှေစော်ဘွားထံသို့ လူလွှတ်၍ ရှာစေသည်။ ခွန်ဆွေဆိုင်ကို ညောင်ရွှေစော်ဘွားနယ်တွင် သွားရောက်ရှာဖွေတွေ့ရှိခဲ့ပြီး မှူးမတ်တို့က ညောင်ရွှေစော်ဘွားထံ ခေါ်

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan.P.195

ဆောင်လေသည်။ ညောင်ရွှေစော်ဘွားလည်း လက်ဆောင်ပဏ္ဏာ စိမ်ပေး၍ အင်းဝဘုရင် စဉ့်ကူးမင်းထံသို့ စေလွှတ်လေသည်။ စဉ့်ကူးမင်းလည်း အကြောင်းစုံသိရ၍ ခွန်ဆွေဆိုင်အား သိန္နီစော်ဘွားအဖြစ် ခန့်အပ်ခဲ့လေသည်။[၁]

## ၃း၉း၃း၅ ။ ခွန်ဆွေခိုင် (ခေါ်) ဆေဝိုင်ဖ AD ၁၇၇၇-၁၈၀၁

အေဒီ ၁၇၇၇ ခုနှစ်၊ တပေါင်းလဆန်း (၄) ရက်နေ့တွင် ခွန်ဆွေခိုင်သည် ဆေဝိုင်ဖအမည်ဖြင့် သိန္နီဟော်နန်းကို တက်လေသည်။ ဟော်နန်းတက်ပွဲတွင် မြို့စား၊ နယ်စား၊ ရွာသူကြီးစသည်တို့ စုံညီစွာတက်ရောက်ခဲ့သော်လည်း နားမွန်း၊ နားစန်းဒေသအကြီးအကဲများ မတက်ရောက်ခဲ့ချေ။ အတန်တန်ဆင့်ခေါ်သော်လည်း မလာသဖြင့် သိန္နီစော်ဘွားက စဉ့်ကူးမင်းထံ အကြောင်းကြားလေသည်။ စဉ့်ကူးမင်းသည် နားမွန်းနားစန်းဒေသကို သီးခြားဒေသအဖြစ်သတ်မှတ်၍ ရဲလူးကျော်ထင်ကို အုပ်ချုပ်ရေးမှူးအဖြစ် ခန့်အပ်လေသည်။ ရဲလူးကျော်ထင်သည် လူဆိုးတို့နှင့် ပူးပေါင်းပြီး အခြားသော စော်ဘွားနယ်များကို သွားရောက်ခိုး လု၊ ဓားပြတိုက်မှုများ ပြုလုပ်ခဲ့သည်။ ထို့ကြောင့် မိုင်းကိုင်၊ လဲချား၊ မိုးနဲ၊ ကျိုင်းတောင်း၊ မိုင်းရှူး၊ မိုင်းစန်စော်ဘွားများက လိုက်လံတိုက်ခိုက်သဖြင့် ရဲလူးကျော်ထင်လည်း ကျဆုံးလေတော့သည်။[၂]

အေဒီ ၁၇၈၁ ခုနှစ်တွင် သိန္နီစော်ဘွားအပါအဝင် ရှမ်းစော်ဘွားရှစ်တပ်သည် စစ်သူကြီးမဟာဇေယျမင်းခေါင်နှင့်အတူ ဇင်းမယ်သို့ ချီတက်တိုက်ခိုက်သည်။ ဇင်းမယ်ကိုအောင်နိုင်ပြီး လမ်ပန်းသို့ သွားရောက်

---

[၁] Hsen (Khur). The Oregin of Tais and A Short History of Shan. P.196
[၂] Hsen (Khur), op.cit., P.198 & စဝ်ရီ(လယ်ဝန်) ဖုင်းစာ၊ နှာ၊ ၆၃

တိုက်ခိုက်စဉ် အယုဒ္ဓယမှ စစ်ကူရောက်လာသဖြင့် ဇင်းမယ်သို့ ပြန်လည်ဆုတ်ခွာလာခဲ့ရသည်။ ထိုအချိန် ကျိုင်းတုံ၊ ကျိုင်းသေဉ်၊ ကျိုင်းဟဲတို့လည်း ပုန်ကန်ကြသဖြင့် မဟာဇေယျမင်းခေါင်တို့သည် မခုခံနိုင်တော့ပဲ ကျိုင်းတုံသို့ ဆုတ်ခွာလာရလေသည်။ မဟာဇေယျမင်းခေါင်သည် သိန္နီစော်ဘွားကို စစ်အင်အားထပ်မံစုဆောင်းရန်အတွက် သိန္နီသို့ပြန်စေသည်။[၁]

အေဒီ ၁၇၈၂ ခုနှစ် သိန္နီစော်ဘွားသည် သိန္နီသို့စစ်အင်အားစုဆောင်းနေစဉ် အင်းဝဘုရင်ပဒုံမင်းက အင်းဝသို့ ဆင့်ခေါ်သဖြင့် ပဒုံမင်းနှင့်အတူ မိတ္ထိလာကန်ပြုပြင်၍ ခြောက်လကြာခဲ့ပြီး အမရပူရသို့ ပြန်လိုက်လာသည်။ အေဒီ ၁၇၈၃ ခုနှစ်တွင် သိန္နီသို့ပြန်လာပြီး သိန္နီဟော်နန်းကို အသစ်ပြုပြင်သည်။ အေဒီ ၁၇၈၅ ခုနှစ်တွင် မိန်းလိန်းစော်ဘွားက သိန္နီနယ်ကို လာရောက်ထိပါးတိုက်ခိုက်သဖြင့် သိန္နီစော်ဘွားကလူလွှတ်၍ မိန်းလိန်းအထိ သွားရောက်တိုက်ခိုက် နှိမ်နင်းရလေသည်။ အေဒီ ၁၇၈၈ ခုနှစ်တွင် သိန္နီစော်ဘွားသည် မဟာဇေယျမင်းခေါင်နှင့်အတူ ကျိုင်းဟဲ၊ ကျိုင်းသေဉ်ကို တိုက်ခိုက်နိုင်ပြီး ချန်တပူရိကိုတိုက်ခိုက်စဉ် အယုဒ္ဓယစစ်များက လာရောက်ကူညီသဖြင့် မဟာဇေယျမင်းခေါင်နှင့် ရှမ်းစော်ဘွားရှစ်တပ်သို့ မခုခံနိုင်တော့ဘဲ ပြန်လည် ဆုတ်ခွာခဲ့ရလေသည်။[၂]

သိန္နီစော်ဘွားသည် မိမိနယ်မြေအတွင်း ဆူပူသောင်းကျန်းမှုများကိုလည်း နှိမ်နင်းအောင်မြင်သည်။ အေဒီ ၁၇၉၄ ခုနှစ်တွင် ကျိုင်းဟုန်တွင် တပ်စခန်းချနေသော ဥပရာဇာတို့ကိုဇင်းမယ်နှင့် ကျိုင်းသေဉ်တို့က လာရောက်တိုက်ခိုက်သဖြင့် ဥပရာဇာတို့သည် ကျိုင်းတုံသို့ ဆုတ်ခွာလာရသည်။ ဇင်းမယ်တပ်များသည် မိန်းတိန်အထိ လာရောက်တိုက်ခိုက်ခဲ့

၁။ Hsen(Khur) op. cit., P.198 & စံရီ (လယ်ဝန်) ၎င်းစာ၊ နှာ၊ ၆၃

၂။ Hsen(Khur) op. cit., P.200 & စံရီ (လယ်ဝန်) ၎င်းစာ၊ နှာ၊ ၆၄-၆၅

သည်။ မဟာဇေယျမင်းခေါင်နှင့် ရှမ်းစော်ဘွား ရှစ်ပြည်ထောင်တို့သည် ဇင်းမယ်ကို ချီတက်တိုက်ခိုက်သော်လည်း အောင်မြင်မှုမရှိဘဲ မိုးနဲအထိ ဆုတ်ခွာလာခဲ့ကြသည်။ ဇေယျမင်းခေါင်က သိန္နီစော်ဘွားကို ဆင့်ခေါ်သဖြင့် သိန္နီစော်ဘွားသည် သိန္နီတပ်နှင့်အတူ မိုးနဲသို့ချီလာသည်။ မဟာဇေယျမင်းခေါင်သည် ရှမ်းစော်ဘွားတပ်များကို သိန္နီစော်ဘွားလက်သို့ အပ်နှံ၍ ကျိုင်းတုံသို့ချီတက်စေသည်။ ထိုအချိန်တွင် ဆစ်ဆောင်ပန်းနားစော်ဘွား မဟာခနန်တို့က ကျိုင်းတုံကို လာရောက်တိုက်ခိုက်နေသောအချိန်ဖြစ်သည်။ သိန္နီစော်ဘွားဆေဝိုင်ဖသည် မဟာခနန်တို့ကို တိုက်ထုတ်နိုင်ပြီး မဟာခနန်တို့၏ စစ်သုံ့ပန်း (၈၀) ကို ဖမ်းဆီး၍ ကျိုင်းတုံရှိ ယနေဝန်လက်သို့ လွှဲအပ်လေသည်။[၁]

အေဒီ ၁၇၉၅ ခုနှစ်တွင် ယိုးဒယားတို့က မိန်းပေါက်၊ မိန်းကာဒေသကို လာရောက်ထိပါးသဖြင့် ရှမ်းစော်ဘွားတစ်တပ်၊ ယနေဝန်တစ်တပ်နှင့် မဟာဇေယမင်းခေါင်တစ်တပ်ဖြင့် ယိုးဒယားတို့ကို တိုက်ထုတ်နိုင်ပြီး ချန်တပူရိအနီး မဲခေါင်မြစ်တွင် စစ်စခန်းချခဲ့သည်။ ချန်တပူရိမြို့မှ ပေးကမ်းလာသော လက်ဆောင်များကို မဟာဥပရာဇာလက်သို့ လွှဲအပ်၍ အင်းဝဘုရင် ဘိုးတော်ဘုရားထံသို့ ဆက်သစေခဲ့သည်။ သိန္နီစော်ဘွား ဆေဝိုင်ဖသည် အေဒီ ၁၈၀၁ ခုနှစ်တွင် နတ်ရွာစံခဲ့သည်။ ဆေဝိုင်ဖသည် သားတော်ခုနှစ်ပါး သမီးတော် ရှစ်ပါးထွန်းကားခဲ့သည်။

ရင်းတို့မှာ-

သားတော် ခွန်ဆိုင်ဟိန်း

သားတော် ခွန်ဆိုင်ခမ်းခေါက်

---

၁။ Hsen(Khur) op. cit., PP.200-201 & စံရှိ (လယ်ဝန်) ရင်း၊ စာ၊ နှာ၊ ၆၄-၆၆

သားတော် ခွန်နော်မိန်း

သားတော် ခွန်ခမ်းလှိုင်

သားတော် ခွန်ဆိုင်ခမ်းပက်

သားတော် ခွန်ဆိုင်ခမ်းနန်

သားတော် ခွန်ဆိုင်နော်ဖ

သမီးတော် နန်းဆိုင်စန္ဒာ

သမီးတော် နန်းဆိုင်စန္ဒီ

သမီးတော် နန်းယော့ခမ်း

သမီးတော် နန်းဆိုင်ယိင်း

သမီးတော် နန်းဆိုင်ထွေး

သမီးတော် နန်းဆိုင်မွန်း

သမီးတော် နန်းဆိုင်ကွန်

သမီးတော် နန်းဆိုင်အုံ တို့ဖြစ်သည်။[၁၈]

## ၄ း ၉ း ၄ း ၆ ။ ခွန်ဆိုင်ဟိန်း (ခေါ်) ဆေကော်ဖ
## AD ၁၈၀၁-၁၈၁၅

ခွန်ဆိုင်ဟိန်းသည် သိန္နီစော်ဘွား၏ သားတော်ကြီးဖြစ်၍ ဆေကော်ဖအမည်ဖြင့် သိန္နီဟော်နန်း တက်တော်မူသည်။ ဆေကော်ဖသည် သိန္နီစော်ဘွားဖြစ်လာသောအခါ သူ၏ညီမတော် နန်းယော့ခမ်းကို ဘိုးတော်ဘုရားထံသို့လည်းကောင်း၊ နန်းဆိုင်စန္ဒာကို အိမ်ရှေ့မင်း ဘကြီးတော်အားလည်းကောင်း၊ နန်းဆိုင်အုံကို ပခန်းမင်းသားထံသို့လည်းကောင်း ဆက်သခဲ့သည်။ သိန္နီစော်ဘွားအပါအဝင် ရှမ်းစော်ဘွားတို့သည် အေဒီ ၁၈၀၅ ခုနှစ်တွင် မဟာဇေယျမင်းခေါင်နှင့်တစ်ကြိမ်၊ အေဒီ

၁၈ Hsen (Khur). The Oregin of Tais and A Short History of Shan. P.201

၁၈၀၇ ခုနှစ်တွင် မင်းကြီးသက်တော်ရှည်နှင့်တစ်ကြိမ်၊ အေဒီ ၁၈၁၂ ခုနှစ်တွင် စစ်ကဲမဟာ နေမျိုးမင်းရဲကျော်နှင့်တစ်ကြိမ် ကျိုင်းတုံကို ထိပါး လာသော ယိုးဒယားတို့ကို သွားရောက် တိုက်ခိုက်နှိမ်နင်းခဲ့သည်။ ဆေကော်ဖလက်ထက်တွင် တရုတ်ကုန်သည်များ ရှမ်းပြည်အတွင်း လာရောက်ကုန်ကူးမှု ရှိခဲ့သဖြင့် တရုတ်ကုန်သည်များ ဓားပြတိုက်ခံရမှုများ ပေါ်ပေါက်ခဲ့သည်။[၁]

သိန္နီနယ်အတွင်း အခွန်အတုတ်များ များစွာကောက်ခံခဲ့သဖြင့် တော်လှန်ပုန်ကန်မှုများ ပေါ်ပေါက်ခဲ့သည်။ အေဒီ ၁၈၁၃ ခုနှစ်တွင် ဆေကော်ဖ အင်းဝသို့ရောက်နေစဉ် သိန္နီစစ်သူကြီးနှစ်ဦးက သိန္နီမြို့စောင့်တပ်ဖြစ်သော စစ်ကဲမောင်တက်တိုးတို့ကို လာရောက်တိုက်ထုတ်ပြီး သိန္နီမြို့ကို စီးနင်းလေသည်။ ဤသတင်းကို ဘိုးတော်ဘုရားကြားသိသော အခါ စစ်ကဲမောင်တက်တိုးကို ဆင့်ခေါ်ပြီး သီရိရာဇသကြီးကို သိန္နီသို့ စေလွှတ်ခဲ့ရသည်။[၂]

အေဒီ ၁၈၁၄ ခုနှစ်တွင် ဆေကော်ဖသည် အင်းဝမှတစ်ဆင့် ညောင်ရွှေမြို့သို့ ရောက်လာပြီး ညောင်ရွှေစော်ဘွား၏ သမီးတော် နန်းရွှေအိမ်နှင့် ထိမ်းမြားခဲ့လေသည်။ အေဒီ ၁၈၁၅ ခုနှစ်၊ တော်သလင်းလဆန်း (၁၀) ရက်တွင် ညောင်ရွှေမှမိုးနဲသို့ ရောက်လာစဉ် မကျန်းမာ၍ မိုးနဲမြို့တွင် နတ်ရွာစံခဲ့သည်။ ဘိုးတော်ဘုရားက သီရိရာဇသကြီးအား သိန္နီကို စီမံကွပ်ကဲစေခဲ့သည်။ အေဒီ ၁၈၁၇ ခုနှစ်တွင် သီရိရာဇသကြီး မကျန်းမာ၍ ကွယ်လွန်လေသည်။ အေဒီ ၁၈၁၇ ခုနှစ်တွင် စစ်ကဲကျော်ထင်နော်ရထာသည် သိန္နီမြို့ဝင်ဖြစ်လာသည်။[၃]

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.202.

၂။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.202.

၃။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.208.

နယ်ခံတို့နှင့် မသင့်မြတ်သဖြင့် ဘိုးတော်ဘုရားက ကျော်ထင်နော်ရထာကို ဆင့်ခေါ်ပြီး စစ်ကဲမောင်ဗိုလ်ကို သိန္နီသို့စေလွှတ်ခဲ့သည်။ အေဒီ ၁၈၁၈ ခုနှစ်တွင် သာယာဝတီဝန်ကြီးက စစ်ကဲမောင်ဗိုလ်ကို ဖြုတ်ချပြီး စစ်ကဲမောင်ဗိုလ်သည် ထွက်ပြေးလွတ်မြောက်သွားသည်။ ထို့နောက် ရွှေဘိုဝန်က သိန္နီမြို့ဝန် ဖြစ်လာသည်။ ပြည်သူလူထုနှင့် မင်းမှုထမ်းများထံ အခွန်အတုတ်များစွာ ကောက်ခံခဲ့သဖြင့် အခြားသော ပုဂ္ဂိုလ်တို့က စစ်ကဲမောင်ဗိုလ်နှင့် ပူးပေါင်း၍ ရွှေဘိုဝန်ကို (၂) လကျော် တော်လှန်ပုန်ကန်ကြသည်။ အေဒီ ၁၈၁၉ ခုနှစ်တွင် ဘိုးတော်ဘုရားနတ်ရွာစံပြီး ဘကြီးတော် နန်းတက်လာခဲ့သဖြင့် ရွှေဘိုဝန်လည်း အင်းဝသို့ပြန်သွားရလေသည်။[၁]

## ၃း၉း၃း၇။ ခွန်ဆိုင်နော်မိန်း AD ၁၈၁၉-၁၈၂၀

အေဒီ ၁၈၁၉ ခုနှစ်တွင် ဘကြီးတော်သည် အင်းဝနန်းတက်လာပြီး ခွန်ဆိုင်နော်မိန်းအား သိန္နီစော်ဘွားအဖြစ် ခန့်အပ်ခဲ့သည်။ အေဒီ ၁၈၂၀ ခုနှစ် သီတင်းကျွတ်လဆန်းပိုင်းတွင် မိုးနဲသို့သွားစဉ် ပန်းနာရင်ကျပ်ရောဂါဖြစ်၍ မိုးနဲတွင် အနိစ္စရောက်လေသည်။ ဘကြီးတော်က ခွန်ဆိုင်ခမ်းခေါက်အား သွားရောက် သဂြိုဟ်စေခဲ့သည်။[၂]

## ၃း၉း၃း၈။ ခွန်ဆိုင်ခမ်းခေါက် (ခေါ်) ဆေဟုန်ဖ AD ၁၈၂၁ - ၁၈၂၄

ခွန်ဆိုင်ခမ်းခေါက်သည် နောင်တော်ဖြစ်သူ ခွန်ဆိုင်နော်မိန်းအား သွားရောက်သဂြိုဟ်ပြီးနောက် မှူးမတ်များက ခွန်ဆိုင်ခမ်းကို

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.209-210

၂။ Hsen(khur) op. cit., P.210.

သိန္နီစော်ဘွားအဖြစ် ရွေးချယ်ကြလေတော့သည်။ ခွန်ဆိုင်ခမ်းခေါက်တို့သည် အင်းဝသို့ပြန်လည်ဆင်းလာခဲ့ပြီး အေဒီ ၁၈၂၁ ခုနှစ်တွင် ဘိုးတော်ဘုရားက သိန္နီစော်ဘွားအဖြစ် တင်မြှောက်လေသည်။ ခွန်ဆိုင်ခမ်းခေါက်သည် 'ဆေဟုန်ဖ' အမည်ဖြင့် သိန္နီဟော်နန်းတက်တော်မူသည်။ ဆေဟုန်ဖလက်ထက်တွင် သိန္နီမြေမတည်မငြိမ်ဖြစ်ရပြီး အခွန်အတုတ်ကြီးမားစွာကောက်ခံခဲ့သည်။[၁]

သိန္နီမှူးမတ်ဖြစ်သူ ဆိုင်ခိုမိန်းသည် လူသူအင်အားစုဆောင်း၍ အေဒီ ၁၈၂၃ ခုနှစ် နယုန်လဆန်း(၂) ရက်နေ့တွင် သိန္နီမြို့ကို ဝင်ရောက်တိုက်ခိုက်ဖျက်ဆီးခဲ့သဖြင့် လူသူအများအပြား ထွက်ပြေးတိမ်းရှောင်ရလေသည်။ စစ်ကဲမင်းပြန်ကျော်၊ စစ်ကဲစက်မင်းကျော်ခေါင်နှင့် ရှမ်းစော်ဘွားရှစ်တပ်တို့သည် မိုးနဲမှသိန္နီသို့ ချီတက်တိုက်ခိုက်ပြီး ဆိုင်ခိုမိန်းတို့မခုခံနိုင်တော့ဘဲ စေဖန် (တရုတ်ပြည်) သို့ တိမ်းရှောင်သွားခဲ့လေသည်။ တိုက်ပွဲပြီးဆုံးသွားသောအခါ ရှမ်းစော်ဘွားတပ်သို့သည်လည်း မိမိတို့၏ဒေသသို့ ပြန်သွားကြလေတော့သည်။[၂]

အေဒီ ၁၈၂၄ ခုနှစ်တွင် အင်္ဂလိပ်မြန်မာပထမစစ်ပွဲဖြစ်ပွားခဲ့၍ ရှမ်းစော်ဘွားတို့သည် မြန်မာစစ်တပ်နှင့်အတူ ရန်ကုန်သို့ သွားရောက်တိုက်ခိုက်သော်လည်း မြန်မာတို့က စစ်ရှုံးသဖြင့် ရခိုင်နှင့် တနင်္သာရီဒေသသည် အင်္ဂလိပ်လက်သို့ ကျရောက်ခဲ့သည်။ သိန္နီစော်ဘွားသည်လည်း မကျန်းမာ၍ အင်းဝတွင် နတ်ရွာစံခဲ့လေသည်။ သိန္နီစော်ဘွား ဆေဟုန်ဖသည် စဥ့်ကူးဝန်၏ သမီးနှင့်လက်ထပ်ခဲ့ပြီး ခွန်ဆိုင်ဖိုးမောင်ဟူသောသားတော်တစ်ပါး ထွန်းကားခဲ့သည်။[၃]

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P211.

၂။ Hsen(khur) op. cit., PP.212-213.

၃။ Hsen(khur) op. cit., P.213.

## ၃း၉း၃း၉။ ခွန်ဆိုင်ခမ်းပက် AD ၁၈၂၄-၁၈၂၅

ဆေဟုန်ဖလွှန်ပြီးနောက် ဘကြီးတော်သည် ခွန်ဆိုင်ခမ်းပက် (ဆေဟုန်ဖ၏ညီ) ကို သိန္နီစော်ဘွားအဖြစ် ခန့်အပ်လေသည်။ အင်းဝမှ သိန္နီသို့အသွား သုံးဆယ်အရောက်တွင် မိုးနဲသံတမန်က ဆင့်ခေါ်သဖြင့် မိသားစုနှင့်အတူ မိုးနဲသို့လိုက်သွားရသည်။ မိုးနဲမှ မြန်မာတပ်မှူး ထိပ်တင် မြတ်က သိန္နီစော်ဘွားအား စစ်အင်အားတစ်ထောင်စုဆောင်း၍ ပြည်မြို့ သို့ အင်္ဂလိပ်နှင့် တိုက်ခိုက်ရန်ဆင့်ခေါ်ခဲ့သည်။ သိန္နီစော်ဘွားသည် မိုးနဲတပ်ကို ဦးဆောင်ကာ ပြည်သို့ ချီတက်လေတော့သည်။ သိန္နီစော်ဘွား သည် စစ်သည်အင်အား ခြောက်ရာကျော်ကိုသာ စုဆောင်းနိုင်ပြီး မိမိ၏ မိသားစုနှင့်အတူ ပြည်သို့ လိုက်သွားရလေသည်။ အေဒီ ၁၈၂၅ ခုနှစ် နတ်တော်လတွင် အင်္ဂလိပ်စစ်တပ်များ ပြည်မြို့သို့ ချီတက်လာလေသည်။ အင်္ဂလိပ်မြန်မာဒုတိယစစ်ပွဲ ဖြစ်ပွားခဲ့ရာ ပြည်မြို့ကျဆုံးခဲ့ရလေသည်။[1] ဝက်ထီးကန် တိုက်ပွဲတွင် ဒွါရဝတီမင်းသားဦးဆောင်သော မြန်မာအမှုထမ်း ၂၀၀၀၀ ကျော်၊ ရှမ်းစော်ဘွား အမှုထမ်း ၁၀၀၀၀ ကျော်တို့လည်း နယ်ချဲ့အင်္ဂလိပ်တို့ကို တွန်းလှန်တိုက်ခိုက်ခဲ့သဖြင့် တိုက်ပွဲများပြင်းထန်ပြီး အင်္ဂလိပ်မြန်မာ ဒုတိယစစ်ပွဲအဖြစ် ထင်ရှားသည်။[2]

ထိုတိုက်ပွဲတွင် သိန္နီစော်ဘွားသည် ကျည်ဆန်ထိမှန်၍ အနိစ္စ ရောက်လေတော့သည်။ ညီမတော်ဖြစ်သူ နန်းဆိုင်မွန်း၊ နန်းဆိုင်ထွေး သည် မြင်းစီးပြီး အင်္ဂလိပ်တို့ကို ရှပ်ရှပ်ချွဲချွဲတိုက်ခိုက်ရင်း တစ်ယောက် သည် ကျည်ဆန်ထိမှန်၍ ကျဆုံးခဲ့ပြီး ကျန်တစ်ယောက်သည် အမြောက် ဆန်ထိမှန်ကာ မြင်းပေါ်မှ ပြုတ်ကျ၍ ဆုံးရှုံးသွားခဲ့ရလေသည်။ ခွန်ဆိုင်

---

၁။ Hsen(khur) op. cit., P.214
၂။ တိုင်းရင်းသားလူမျိုးများ၏ နယ်ချဲ့ဆန့်ကျင်ရေးသမိုင်း၊ နှာ ၃၅-၃၆

ခမ်းပက်၏ ကြင်ယာတော်သည်လည်း ဓားတစ်လက်ကိုဆောင်ပြီး အင်္ဂလိပ်တို့ကို တွန်းလှန်တိုက်ခိုက်ရင်း ထိုတိုက်ပွဲတွင် ပျောက်ဆုံးသွားခဲ့သည်ဟုဆိုသည် ဤအကြောင်းအရာတို့ကို အင်္ဂလိပ်တို့က အင်္ဂလိပ်-မြန်မာ ဒုတိယစစ်ပွဲတွင် မှတ်တမ်းတင်ထားခဲ့ခြင်းဖြစ်သည်။[၁]

၃း၉း၃း၁၀။ ခွန်ဆိုင်ခမ်းနန် (ခေါ်) ဆေယစ်ဖ

**AD ၁၈၂၇-၁၈၃၀**

အင်္ဂလိပ်မြန်မာ ဒုတိယစစ်ပွဲပြီးဆုံးသွားသောအခါ ဘကြီးတော်ဘုရားသည် သာယာဝတီဝန် မဟာကျော်စွာကို သိန္နီမြို့ဝန်အဖြစ် ခန့်အပ်ခဲ့သည်။ အေဒီ ၁၈၂၆ ခုနှစ်တွင် သာယာဝတီဝန်ကို အင်းဝသို့ခေါ်ဆောင်အကျဉ်းချထားပြီး ခွန်ဆိုင်ခမ်းနန်းအား သီရိရဋ္ဌမဟာကျွန္တကရာဇာဘွဲ့ခံ၍ သိန္နီစော်ဘွားအဖြစ် ခန့်အပ်ခဲ့သည်။ ခွန်ဆိုင်ခမ်းနန်သည် ဆေယစ်ဖ အမည်ဖြင့် ဟော်နန်းတက်တော်မူသည်။ ပခန်းမင်းသား၏ ကြင်ရာတော်ကို သိမ်းပိုက်ယူပြီး ခွန်ဆိုင်ခမ်းနန်းအွမ်ဟူသော သားတော် တစ်ပါး ထွန်းကားခဲ့သည်။အေဒီ ၁၈၃၀ ခုနှစ်တွင်ဆေယစ်ဖသည်နတ်ရွာစံခဲ့သည်။[၂]

၃း၉း၃း၁၁။ ခွန်ဆိုင်ရွှေမောင် (ခေါ်) ဆေဝိုင်ဖ

**AD ၁၈၃၀-၁၈၃၈**

အေဒီ ၁၈၃၀ ခုနှစ်တွင် ဘကြီးတော်ဘုရားသည် ခွန်ဆိုင်ရွှေမောင် (ဆေကော်ဖ နှင့် မြန်မာနန်းတွင်းသူ မချယ်တို့၏သားတော်)ကို ဆေဝိုင်ဖအမည်ဖြင့် သိန္နီစော်ဘွားအဖြစ် ခန့်အပ်ခဲ့လေသည်၊ ဆေဝိုင်ဖ

---

၁။ Hsen(khur) op. cit., P.214.

၂။ Hsen(khur) op. cit., PP.214-215

သည် သားတော်ခွန်ဆိုင်မောင်တုပ်နှင့် သားတော်ခွန်ဆိုင်အွန် နှစ်ပါးထွန်းကားခဲ့သည်။ အေဒီ ၁၈၃၅ ခုနှစ်တွင် ကချင်စော်ဘွား 'လှိုင်းကာ' ပုန်ကန်မှုကိုလည်းကောင်း၊ အေဒီ ၁၈၃၇ ခုနှစ်တွင် မိန်းဟက်ထမုံ ပုန်ကန်မှုတို့ကိုလည်းကောင်း သိန္နီစော်ဘွားသည် နှိမ်နင်းအောင်မြင်ခဲ့ရသည်။ အေဒီ ၁၈၃၇ ခုနှစ်တွင် မိုးနဲစော်ဘွားနှင့် မြန်မာတပ်မှူးရွှေလုံဗိုလ်တို့ မသင့်မြတ်ကြသဖြင့် သိန္နီစော်ဘွားသည် မိုးနဲသို့ချီတက်ရသည်။ ထိုအချိန်၌ အင်းဝတွင် ဘကြီးတော် စိတ်ဖောက်ပြန်၍ ၎င်း၏ညီတော် သာယာဝတီမင်း နန်းတက်လာသဖြင့် ရှမ်းစော်ဘွားများကိုဆင့်ခေါ်ရာ သိန္နီစော်ဘွားတို့လည်း အင်းဝသို့ ဆင်းလာရသည်။ သာယာဝတီ မင်းသည် ဆေဝိုင်ဖကို မယုံကြည်သဖြင့် ခွန်ဆိုင်ခမ်းလှိုင်အွန်အား သိန္နီစော်ဘွားအဖြစ် ခန့်အပ်လိုက်လေသည်။ [၁]

## ၃း၉း၃း၁၂။ ခွန်ဆိုင်ခမ်းလှိုင် (ခေါ်) ဆေခန်ဘွား AD ၁၈၃၈-၁၈၄၆

အေဒီ ၁၈၃၈ ခုနှစ်တွင် သာယာဝတီမင်းက ဆေယစ်ဖကို နန်းချပြီး ခွန်ဆိုင်ခမ်းလှိုင်အွန်အား ဆေခန်ဘွားအမည်ဖြင့် သိန္နီစော်ဘွားအဖြစ်ခန့်အပ်ခဲ့သည်။ အေဒီ ၁၈၄၂ ခုနှစ်တွင် လဲချားနယ်သည် သိန္နီနယ်မှခွဲထုတ်ခဲ့သည်။ အေဒီ ၁၈၄၄ ခုနှစ်တွင် မိန်းစောက်နယ်မှ ပုန်ကန်မှုများပေါ်ပေါက်ခဲ့ရာ သာယာဝတီမင်းက မြန်မာစစ်တပ်နှင့် ရှမ်းစော်ဘွားတပ်များပူးပေါင်း၍ သွားရောက်နှိမ်နင်းစေခဲ့သည်။ နောက်ပိုင်းတွင် သာယာဝတီမင်းက စိတ်မမှန်တော့သဖြင့် စစ်တပ်များကို ပြန်လည်ရုပ်သိမ်းစေခဲ့ပြီး ဆေခန်ဘွားလည်း အင်းဝသို့ လိုက်ပါသွားသည်။ အေဒီ ၁၈၄၇ ခုနှစ်တွင် ပုဂံမင်းနန်းတက်လာသည်။ ပုဂံမင်းသည် ဆေခန်ဘွား

၁။ Hsen(khur) op. cit., P. 215

သည် ဆေခန်ဘွားကို မယုံကြည်သဖြင့် ဆေဝိုင်ဖကို သိန္နီ စော်ဘွားအဖြစ် ပြန်လည်ခန့်အပ်ခဲ့သည်။ သို့သော် ဆေဝိုင်ဖသည် ကျန်းမာရေးမကောင်းသဖြင့် အေဒီ ၁၈၄၉ ခုနှစ်တွင် နတ်ရွာစံခဲ့သည်။[၁]

## ၃း၉း၃း ၁၃ ။ ခွန်ဆိုင်နော်ဖအွန် (ခေါ်) ဆေစံဘွား AD ၁၈၄၆-၁၈၄၉

ဆေဝိုင်ဖ နတ်ရွာစံပြီးနောက် ပုဂံမင်းသည် ဆေယစ်ဖ၏ညီဖြစ်သူ ခွန်ဆိုင်နော်ဖအွန် (ခေါ်) ဆေစံဘွားကို သိန္နီစော်ဘွားအဖြစ်တင်မြှောက်ပေးခဲ့သဖြင့် အေဒီ ၁၈၄၅ ခုနှစ်၊ သီတင်းကျွတ်လဆန်း ၁၄ ရက်နေ့တွင် ဆေစံဘွားသိန္နီသို့ရောက်လာသည်။ ထိုအချိန်တွင် ဆေခန်ဘွားသည် ကွမ်းလုံသို့ တိမ်းရှောင်သွားပြီး မိုင်းရယ်၊ တန့်ယန်း၊ မိုင်းပတ်စသည်တို့မှ လူသူအင်အားစုရုံးပြီး သိန္နီကို လာရောက်တိုက်ခိုက်လေသည်။ သိန္နီစော်ဘွားဆေစံဘွားတို့က မခုခံနိုင်သဖြင့် သိန္နီမှ တိမ်းရှောင် ထွက်ပြေးရလေသည်။ ထို့နောက် လူသူအင်အားပြန်လည်စုရုံးပြီး ပြန်လည်တိုက်ခိုက်သဖြင့် သိန္နီကို ပြန်လည်သိမ်းပိုက်နိုင်ခဲ့သည်။ သိန္နီနယ်မြေအေးချမ်းမှု မရှိသဖြင့် မိုးနဲဗိုလ်ချုပ်က စစ်ကဲမောင်ရွှေကြာအားမိုးနဲစစ်တပ်နှင့်အတူ သိန္နီနယ် (မိုင်းရယ်)သို့ချီတက်စေခဲ့သည်။ ဆေခန်ဘွားတို့ကို တိုက်ခိုက်နှိမ်နင်းနိုင်ပြီး ဆေခန်ဘွားကို ကွပ်မျက်လိုက်လေသည်၊ အေဒီ ၁၈၄၈ ခုနှစ်တွင် ပုဂံမင်းကို ပုန်ကန်သော ပြည်မင်းသည် တောင်ပိုင်ဒေသ* တွင် ခိုလုံနေသည်ဟူသော သတင်းအရ သိန္နီစော်ဘွားအား တောင်ပိုင်နမ့်ဆန်သို့ ချီတက်တိုက်ခိုက်စေခဲ့သဖြင့် တောင်ပိုင်စော်

---

၁း Hsen(khur) op. cit., P. 215-216

* ၊ 'တောင်ပိုင်းဒေသ'မဟုတ်၊ ကျောက်မဲခရိုင်တွင်ရှိသော 'တောင်ပိုင်ဒေသ'ဖြစ်သည်။

ဘွားခွန်ဆာလည်း တောင်ပိုင်မှ ထွက်ပြေးရလေသည်။[၁]

ထို့နောက် သီပေါနယ်မြေတွင်လည်း တော်လှန်ပုန်ကန်မှုများ ပေါ်ပေါက်သဖြင့် သီပေါမြို့စောင့်တပ် ဗိုလ်ကျောက်လုံးတို့ သွားရောက်နှိမ်နင်းသော်လည်း မအောင်မြင်ခဲ့ပေ။ ဗိုလ်ကျောက်လုံးက သိန္နီစော်ဘွားထံသို့ စစ်ကူတောင်းခံခဲ့သော်လည်း သိန္နီစော်ဘွားမရောက်လာမီ ဗိုလ်ကျောက်လုံးတို့ဆုံးရှုံးသဖြင့် သီပေါသို့ဆုတ်ခွာလာခဲ့ရသည်။ ဗိုလ်ကျောက်လုံးလည်း အင်းဝသို့ဆင်းလာပြီး မိမိအပြစ်မှလွတ်စေရန်အတွက် သိန္နီစော်ဘွားက သူပုန်ဘက်မှကူညီနေကြောင်း ပုဂံမင်းထံ သံတော်ဦးတင်လေသဖြင့် ပုဂံမင်းသည် သိန္နီစော်ဘွားအား ဖမ်းဆီးချုပ်နှောင်ထားခဲ့လေသည်။ အေဒီ ၁၈၄၇ ခုနှစ်တွင် မိုးနဲဗိုလ်ချုပ်က စစ်ကဲမောင်ရွှေအောင်အား သိန္နီသို့ သွားရောက်အုပ်ချုပ် ကွပ်ကဲစေခဲ့သည်။ ၁၈၄၇ ခုနှစ် တန်ဆောင်မုန်းလဆုတ် ၁၂ ရက်နေ့တွင် မောင်ရွှေအောင်သည် သိန္နီတပ်နှင့်အတူ မိုင်းရယ်၊ တန့်ယန်း၊ မိုင်းပတ်တို့ကို သွားရောက်တိုက်ခိုက် နှိမ်နင်းခဲ့သည်။ ထိုနှစ် နတ်တော်လဆန်း (၇) ရက်တွင် ကွမ်းလုံအကြီးအကဲက ရှမ်းနှင့် ကချင်တို့ကို ဦးဆောင်၍ သိန္နီကိုလာရောက်တိုက်ခိုက်သဖြင့် သိန္နီပျက်စီးခဲ့သည်။ တပို့တွဲလဆန်းတွင် အင်းဝမှပုဂံမင်းက မြန်မာစစ်တပ်များကို စေလွှတ်၍ ထိုပုန်ကန်မှုများကို နှိမ်နင်းခဲ့ရသည်။[၂]

အေဒီ ၁၈၅၀ ခုနှစ်တွင် ပုဂံမင်းက မောင်ပေါ်လာအား သိန္နီမြို့ဝန်အဖြစ် ခန့်အပ်ခဲ့သည်။ အေဒီ ၁၈၅၂ ခုနှစ်တွင် မောင်ပေါ်လာသည် နေမကောင်းသဖြင့် လားရှိုးမြို့တွင် ကွယ်လွန်လေသည်။ သိန္နီ

---

၁။ Hsen (Khur) op. cit., PP.216-218.
၂။ Hsen (Khur) op. cit., PP.216-217.

ရှမ်းစစ်သူကြီး ခွန်ဆန်ဟိုက်က မောင်ပေါ်လာ၏ အရာကိုသိမ်းယူပြီး သိန္နီမြို့ကို စောင့်ရှောက်ခဲ့သည်။ ထိုနှစ်တွင် ပုဂံမင်းက သိန္နီဝန်ကို မောင်ကျောက်အား ခန့်အပ်ခဲ့သည်။ အေဒီ ၁၈၁၅ ခုနှစ်တွင် ပုဂံမင်းနန်းကျပြီး မင်းတုန်းမင်း နန်းတက်လာခဲ့သည်။ အင်းဝနန်းတွင် အကျဉ်းချခံရသော ဆေစံဖက မင်းတုန်းမင်းကို ကူညီခဲ့သဖြင့် မင်းတုန်းမင်းက ဆေစံဖအား သိန္နီစော်ဘွားအဖြစ် ခန့်အပ်ခဲ့သည်။[၁]

၃း၉း၃း၁၄ ။ ဆေစံဖ AD ၁၈၅၃-၁၈၅၆

မင်းတုန်းမင်းသည် သိန္နီမြို့ဝန် မောင်ကျောက်ကို လာရောက်ဖမ်းဆီးစေပြီး ကနောင်မင်းသား လက်သို့လွှဲအပ်စေခဲ့သည်။ အေဒီ ၁၈၅၃ ခုနှစ်၊ နတ်တော်လကွယ်နေ့တွင် ဆေစံဖသည် သိန္နီသို့ ရောက်ရှိလာသည်။ အေဒီ ၁၈၅၄ ခုနှစ်တွင် ဆေစံဖသည် ကြင်ရာတော် မိခိုးနှင့် အတူရသော သမီးတော်မသိန်းကို မင်းတုန်းမင်းထံ ဆက်သခဲ့သည်။ အေဒီ ၁၈၅၅ ခုနှစ်တွင် ဇင်းမယ်တို့က ကျိုင်းတုံကို လာရောက်တိုက်ခိုက်ထိပါးသဖြင့် ဆေစံဖသည် စစ်သူကြီးခွန်ဆန်ဟိုက်အား သိန္နီတပ် တစ်ထောင့်ငါးရာကို ဦးဆောင်စေ၍ မိုးနဲဗိုလ်ချုပ်နှင့်အတူ ရှမ်းစော်ဘွားရှစ်တပ်နှင့်တကွ ကျိုင်းတုံသို့ ချီတက်လေသည်။ ဇင်းမယ်စစ်များ မခုခံနိုင်သဖြင့် ပြန်လည်ဆုတ်ခွာသွားခဲ့ရလေသည်။[၂]

အေဒီ ၁၈၅၆ ခုနှစ်တွင် မင်းတုန်းမင်းက အင်္ဂလိပ်မြန်မာဆက်ဆံရေးအတွက် အင်္ဂလိပ်တို့ ဆက်သလာသော လက်ဆောင်များကို လက်ခံသည့် အခမ်းအနားကျင်းပခဲ့သည်။ မင်းတုန်းမင်း ဆင့်ခေါ်စာအရ သိန္နီ

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P218

Hsen (Khur) op. cit., P. 219

ဘွားခွန်ဆာလည်း တောင်ပိုင်မှ ထွက်ပြေးရလေသည်။[၁]

ထို့နောက် သီပေါနယ်မြေတွင်လည်း တော်လှန်ပုန်ကန်မှုများ ပေါ်ပေါက်သဖြင့် သီပေါမြို့စောင့်တပ် ဗိုလ်ကျောက်လုံးတို့ သွားရောက်နှိမ်နင်းသော်လည်း မအောင်မြင်ခဲ့ပေ။ ဗိုလ်ကျောက်လုံးက သိန္နီစော်ဘွားထံသို့ စစ်ကူတောင်းခံခဲ့သော်လည်း သိန္နီစော်ဘွားမရောက်လာမီ ဗိုလ်ကျောက်လုံးတို့ဆုံးရှုံးသဖြင့် သီပေါသို့ဆုတ်ခွာလာခဲ့ရသည်။ ဗိုလ်ကျောက်လုံးလည်း အင်းဝသို့ဆင်းလာပြီး မိမိအပြစ်မှလွတ်စေရန်အတွက် သိန္နီစော်ဘွားက သူပုန်ဘက်မှကူညီနေကြောင်း ပုဂံမင်းထံ သံတော်ဦးတင်လေသဖြင့် ပုဂံမင်းသည် သိန္နီစော်ဘွားအား ဖမ်းဆီးချုပ်နှောင်ထားခဲ့လေသည်။ အေဒီ ၁၈၄၇ ခုနှစ်တွင် မိုးနဲဗိုလ်ချုပ်က စစ်ကဲမောင်ရွှေအောင်အား သိန္နီသို့ သွားရောက်အုပ်ချုပ် ကွပ်ကဲစေခဲ့သည်။ ၁၈၄၇ ခုနှစ် တန်ဆောင်မုန်းလဆုတ် ၁၂ ရက်နေ့တွင် မောင်ရွှေအောင်သည် သိန္နီတပ်နှင့်အတူ မိုင်းရယ်၊ တန့်ယန်း၊ မိုင်းပတ်တို့ကို သွားရောက်တိုက်ခိုက် နှိမ်နင်းခဲ့သည်။ ထိုနှစ် နတ်တော်လဆန်း (၇) ရက်တွင် ကွမ်းလုံအကြီးအကဲက ရှမ်းနှင့် ကချင်တို့ကို ဦးဆောင်၍ သိန္နီကိုလာရောက်တိုက်ခိုက်သဖြင့် သိန္နီပျက်စီးခဲ့သည်။ တပို့တွဲလဆန်းတွင် အင်းဝမှပုဂံမင်းက မြန်မာစစ်တပ်များကို စေလွှတ်၍ ထိုပုန်ကန်မှုများကို နှိမ်နင်းခဲ့ရသည်။[၂]

အေဒီ ၁၈၅၀ ခုနှစ်တွင် ပုဂံမင်းက မောင်ပေါ်လာအား သိန္နီမြို့ဝန်အဖြစ် ခန့်အပ်ခဲ့သည်။ အေဒီ ၁၈၅၂ ခုနှစ်တွင် မောင်ပေါ်လာသည် နေမကောင်းသဖြင့် လားရှိုးမြို့တွင် ကွယ်လွန်လေသည်။ သိန္နီ

---

၁။ Hsen (Khur) op. cit., PP.216-218.
၂။ Hsen (Khur) op. cit., PP.216-217.

ရှမ်းစစ်သူကြီး ခွန်ဆန်ဟိုက်က မောင်ပေါ်လာ၏ အရာကိုသိမ်းယူပြီး သိန္နီမြို့ကို စောင့်ရှောက်ခဲ့သည်။ ထိုနှစ်တွင် ပုဂံမင်းက သိန္နီဝန်ကို မောင်ကျောက်အား ခန့်အပ်ခဲ့သည်။ အေဒီ ၁၈၁၅ ခုနှစ်တွင် ပုဂံမင်းနန်းကျပြီး မင်းတုန်းမင်း နန်းတက်လာခဲ့သည်။ အင်းဝနန်းတွင် အကျဉ်းချခံရသော ဆေစံဖက မင်းတုန်းမင်းကို ကူညီခဲ့သဖြင့် မင်းတုန်းမင်းက ဆေစံဖအား သိန္နီစော်ဘွားအဖြစ် ခန့်အပ်ခဲ့သည်။[၁]

၃ း ၉ း ၃ း ၁၄ ။ ဆေစံဖ AD ၁၈၅၃-၁၈၅၆

မင်းတုန်းမင်းသည် သိန္နီမြို့ဝန် မောင်ကျောက်ကို လာရောက်ဖမ်းဆီးစေပြီး ကနောင်မင်းသား လက်သို့လွှဲအပ်စေခဲ့သည်။ အေဒီ ၁၈၅၃ ခုနှစ်၊ နတ်တော်လကွယ်နေ့တွင် ဆေစံဖသည် သိန္နီသို့ ရောက်ရှိလာသည်။ အေဒီ ၁၈၅၄ ခုနှစ်တွင် ဆေစံဖသည် ကြင်ရာတော် မိခိုးနှင့်အတူရသော သမီးတော်မသိန်းကို မင်းတုန်းမင်းထံ ဆက်သခဲ့သည်။ အေဒီ ၁၈၅၅ ခုနှစ်တွင် ဇင်းမယ်တို့က ကျိုင်းတုံကို လာရောက်တိုက်ခိုက်ထိပါးသဖြင့် ဆေစံဖသည် စစ်သူကြီးခွန်ဆန်ဟိုက်အား သိန္နီတပ် တစ်ထောင့်ငါးရာကို ဦးဆောင်စေ၍ မိုးနဲဗိုလ်ချုပ်နှင့်အတူ ရှမ်းစော်ဘွားရှစ်တပ်နှင့်တကွ ကျိုင်းတုံသို့ ချီတက်လေသည်။ ဇင်းမယ်စစ်များ မခုခံနိုင်သဖြင့် ပြန်လည်ဆုတ်ခွာသွားခဲ့ရလေသည်။[၂]

အေဒီ ၁၈၅၆ ခုနှစ်တွင် မင်းတုန်းမင်းက အင်္ဂလိပ်မြန်မာဆက်ဆံရေးအတွက် အင်္ဂလိပ်တို့ ဆက်သလာသော လက်ဆောင်များကို လက်ခံသည့် အခမ်းအနားကျင်းပခဲ့သည်။ မင်းတုန်းမင်း ဆင့်ခေါ်စာအရ သိန္နီ

---

၁။ Hsen (Khur). <u>The Oregin of Tais and A Short History of Shan</u>. P218
Hsen (Khur) op. cit.. P. 219

စော်ဘွားလည်း ထိုအခမ်းအနားသို့ သွားရောက်ခဲ့သည်။ သိန္နီနယ်မြေ အခွန်ဘဏ္ဍာတော်နှင့် ပတ်သက်၍ အဆင်ပြေမှု မရှိသေးသဖြင့် မင်းတုန်းမင်းသည် ဆေစံဖနှင့်ဆွေမျိုးတော်စပ်သူ စစ်ကဲမောင်အေးကို သိန္နီသို့ သွားရောက်စီမံခန့်ခွဲစေသည်။ စစ်ကဲမောင်အေးသည် မိုးနဲဗိုလ်ချုပ် ကောက်ခံခိုင်းသည့် အခွန်တော်များကို ကောက်ခံပြီးနောက် ညတစ်ည၌ အိမ်တွင် ဓားပြအတိုက်ခံခဲ့ရသည်။ ထို့ကြောင့် စစ်ကဲမောင်အေးသည် မိုးနဲဗိုလ်ချုပ်ရှိရာ ဝမ်စန့်ရွာသို့ သွားရောက်နေထိုင်ခဲ့သည်။ ထိုအချိန်တွင် သိန္နီစစ်သူကြီး ခွန်ဆန်ဟိုက်နှင့် မိန်းနောင်မြို့စားတို့ အချင်းများကြပြီး ခိုက်ရန်ဖြစ်ကြသဖြင့် မိန်းနောင်မြို့စားက စစ်တပ်အင်အားစုဆောင်းပြီး သီတင်းကျွတ်လပြည့်ကျော်တွင် သိန္နီသို့ ချီတက်တိုက်ခိုက်လေသည်။ သိန္နီစစ်သူကြီး ခွန်ဆန်ဟိုက်သည်လည်း ပြန်လည်ခုခံတိုက်ခိုက်ခဲ့သည်။ မိုးနဲဗိုလ်ချုပ်တို့လည်း မိန်းနောင်မြို့စားဘက်မှ ကူညီတိုက်ခိုက်သဖြင့် ခွန်ဆန်ဟိုက်တို့သည် ခမ်းကိုင်မြို့သို့ ဆုတ်ခွာတိမ်းရှောင်ရလေသည်။ မိုးနဲဗိုလ်ချုပ်က ရှမ်းစော်ဘွား ရှစ်ပြည်ထောင်တို့ကို ဆင့်ခေါ်ပြီး ခွန်ဆန်ဟိုက်တို့ကို လေးလတိုင်တိုင် သွားရောက်တိုက်ခိုက်စေခဲ့သော်လည်း မည်သူကမျှမည်သူ့ကို အနိုင်မတိုက်နိုင်ခဲ့ချေ။ ရှမ်းစော်ဘွားတပ်များသည်လည်း သိန္နီသို့ ပြန်လည်ဆုတ်ခွာလာခဲ့သည်။[၁]

၃ း ၉ း ၃ း ၁၅ ။ အေဒီ ၁၈၅၆ မှ ၁၈၈၅ အထိ သိန္နီအခြေအနေ

အေဒီ ၁၈၅၆ ခုနှစ်တွင် မင်းတုန်းမင်းက ခွန်ဆိုင်ဖိုးမောင်ကို သိန္နီစော်ဘွားအဖြစ် တင်မြှောက်ခဲ့သည်။ ခွန်ဆိုင်ဖိုးမောင်သည် ဆေကော်ဖအမည်ခံ၍ သိန္နီစော်ဘွားအရာကို ဆက်ခံသည်။ အေဒီ ၁၈၅၉ ခုနှစ်တွင် ခွန်ဆန်ဟိုက်သည် သိန္နီကို လာရောက်ပုန်ကန်တိုက်ခိုက်

---

၁။ Hsen (Khur) op. cit., P. 220

သော်လည်း အောင်မြင်မှုမရဘဲ ပြန်လည်ဆုတ်ခွာသွားခဲ့သည်။ အေဒီ ၁၈၆၀ ခုနှစ်၊ ခွန်ဆိုင်ဖိုးမောင် အင်းဝသို့ ဆင်းသွားသည့်အခိုက် ပန်းချိဝန်သည် သိန္နီကို လာရောက်စီမံအုပ်ချုပ်စဉ် နေမကောင်းသဖြင့် ကွယ်လွန်ခဲ့လေသည်။ မင်းတုန်းမင်းက စစ်ကဲမောင်ပြေကို သိန္နီသို့စေလွှတ်ခဲ့သည်။ နောက်တစ်နှစ်တွင် ပခန်းဝန်ကြီးအား စေလွှတ်ခဲ့ရာ ပခန်းဝန်ကြီးသည် လမ်းခရီးတွင် ကွယ်လွန်အနိစ္စရောက်ခဲ့သဖြင့် လေးမြို့ဝန်ကို စေလွှတ်ပြန်သည်။ အေဒီ ၁၈၆၄ ခုနှစ်တွင် ခွန်ဆိုင်ဖိုးမောင်သည် သိန္နီစော်ဘွားအဖြစ် ပြန်လည်ခန့်အပ်ခြင်းခံခဲ့ရသည်။ အေဒီ ၁၈၆၅ ခုနှစ်တွင် ရွှေပြည်ဝန် လားရှိုးမြို့သို့ ရောက်လာသဖြင့် ခွန်ဆိုင်ဖိုးမောင်သည် မန္တလေးနေပြည်တော်သို့ ပြန်ဆင်းသွားရလေသည်။ ရွှေပြည်ဝန်သည် မိမိကိုယ်ကိုမိမိ အဆုံးစီရင်သဖြင့် ခွန်ဆန်ဟိုက်သည် သူ၏ဘဏ္ဍာပစ္စည်းများကို လာရောက်သိမ်းယူပြီး ခမ်းကိုင်မြို့တွင် သွားရောက်အခြေစိုက်နေထိုင်ခဲ့သည်။[၁]

အေဒီ ၁၈၆၇ ခုနှစ်တွင် မင်းတုန်းမင်းက ဆေစံဖအား နောက်ထပ်တစ်ဖန် သိန္နီစော်ဘွားအဖြစ် ခန့်အပ်ပြန်သည်။ အေဒီ ၁၈၆၈ ခုနှစ်တွင် ခွန်ဆန်ဟိုက်တို့က စစ်သည်အင်အားစုဆောင်း၍ သိန္နီမြို့ကို လာရောက်တိုက်ခိုက်ကြရာ ဆေစံဖတို့ မခုခံနိုင်သဖြင့် လားရှိုးသို့ ထွက်ပြေးတိမ်းရှောင်ရလေသည်။ ခွန်ဆန်ဟိုက်သည် တိုင်းသူပြည်သားများကို တိမ်းရှောင်စေပြီး သိန္နီကို မီးရှို့ဖျက်ဆီးပစ်လေသည်။ ခွန်ဆန်ဟိုက်သည် သိန္နီကို လာရောက်အုပ်ချုပ်သူများ အခွန်ဘဏ္ဍာကောက်ခံမှု ကြီးမားခြင်း ပဒေသရာဇ်စနစ်ကို မလိုလားခြင်း စသောအကြောင်းတို့ကြောင့် စစ်သူကြီးဘဝမှ စတင်တော်လှန်ပုန်ကန်ခဲ့သူဖြစ်သည်။ အေဒီ ၁၈၆၉ ခုနှစ်

---

[၁] (Khur) op. cit., P.221

တွင် မင်းတုန်းမင်းက ဝန်ကြီးနှစ်ဦးကို ရှမ်းစော်ဘွား ရှစ်ပြည်ထောင်တို့အား ဦးဆောင်စေ၍ ခွန်ဆန်ဟိုက်တို့အား သွားရောက် တိုက်ခိုက်နှိမ်နင်းစေခဲ့သဖြင့် ခွန်ဆန်ဟိုက်တို့သည် မခုခံနိုင်တော့ဘဲ လွယ်တမ်းခွန်မှ ကွမ်းလုံ၊ ကျူဖတ်တူဟင် (ကျောက်တံခါး)သို့ ဆုတ်ခွာသွားခဲ့ကြရသည်။[၁]

၃ း ၉ း ၄ ။ ရှမ်းသူရဲကောင်း ခွန်ဆန်တုန်ဟုန်း
အေဒီ ၁၈၈၇-၁၉၁၆

အေဒီ ၁၈၇၁ ခုနှစ်တွင် ခွန်ဆန်ဟိုက်သည် ခွန်ဆန်တုန်ဟုန်းအကြောင်းကို ကြားသိရသဖြင့် မိမိတို့အား လာရောက်ကူညီတိုက်ခိုက်ရန် မိန်းလိန်းစော်ဘွားထံ အကူအညီတောင်းခံခဲ့သည်။ ခွန်ဆန်တုန်ဟုန်းသည် သာမန်အရပ်သားဖြစ်ပြီး အေဒီ ၁၈၅၁ ခုနှစ်တွင် ဖွားမြင်သည်၊ သုံးနှစ်သားအရွယ်တွင် မိခင်ဖြစ်သူ သေဆုံးခဲ့သဖြင့် အဖွားဖြစ်သူက ကျွေးမွေးစောင့်ရှောက်ခဲ့ရသည်။ အသက် ၁၅ နှစ်အရွယ်တွင် မိန်းတွမ်းဘုန်းတော်ကြီးကျောင်းတွင် သာမဏေဝတ်ခဲ့၍ သာမဏေဘွဲ့တော်မှာ ရှင်စိန္တာဖြစ်သည်။ ၂ ဝါရပြီးနောက် လူထွက်ကာ ဦးလေးဖြစ်သူ တိုက်သူကြီးနှင့်အတူ နေထိုင်ခဲ့သည်။ ထိုအချိန်တွင် တိုင်းပြည်အေးချမ်းမှု မရှိချေ။ လူခိုးသူခိုးဓားပြ ပေါ်များလှသဖြင့် ဦးလေးဖြစ်သူက ရှင်လူထွက်စိန္တာအား သွားရောက်ဖမ်းဆီးစေခဲ့ရာတွင် ရှင်လူထွက်စိန္တာ၏ အစွမ်းထက်မှုကြောင့် လူဆိုးမှန်သမျှကို လိုက်လံဖမ်းဆီးနိုင်ခဲ့သည်။ ထိုကြောင့် လူအများက သူ့ကိုလေးစားပြီး ခွန်ဆန်ဟုခေါ်လာကြသည်။ တုန်ဟုန်းတွင်နေထိုင်သဖြင့် ခွန်ဆန်တုန်ဟုန်းဟူ၍ အမည်တွင်လေသည်။[၂]

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.221.

၂။ Hsen (Khur) op. cit., PP.222-225.

ထို့နောက် မွတ်ဟိုင်းနယ်စားက ခေါ်ယူအမှုထမ်းစေခဲ့သဖြင့် မွတ်ဟိုင်းနှင့် တန့်ယန်းတို့ တိုက်ခိုက်ကြရာ ခွန်ဆန်တုန်ဟုန်းဦးဆောင်သော မွတ်ဟိုင်းတပ်က တန့်ယန်းကို တိုက်ခိုက်အောင်မြင်ခဲ့သည်။ ထို့ကြောင့် ခွန်ဆန်တုန်ဟုန်း၏သတင်းသည် ပိုမို၍ ကျော်ကြားလာရသည်။ ပန်ယန်းစော်ဘွား၊ မိန်းလိန်းစော်ဘွားတို့က ခွန်ဆန်တုန်ဟုန်းအား သူတို့ထံအမှုထမ်းစေခဲ့သည်။ အေဒီ ၁၈၇၃ ခုနှစ်တွင် သိန္နီမှ ခွန်ဆန်ဟိုက်က ခွန်ဆန်တုန်းဟုန်း၏ ကျော်စောသတင်းကို ကြားသိရသဖြင့် လူလွှတ်၍ အကူအညီတောင်းခံလာသည်။ မိန်းလိန်းစော်ဘွားလည်း ခွန်ဆန်တုန်ဟုန်းအား လူ ၁၀ ယောက်နှင့်အတူ ခွန်ဆန်ဟိုက်ထံသို့ စေလွှတ်ခဲ့သည်။ ၁၈၇၄ ခုနှစ်တွင် ခွန်ဆန်ဟိုက်သည် ခွန်ဆန်တုန်ဟုန်းအား အကြီးအကဲအဖြစ် ခန့်အပ်ခဲ့သည်။ ခွန်ဆန်တုန်ဟုန်းသည် စစ်သည်အင်အားစုဆောင်းပြီး ခွန်ဆန်ဟိုက်အား လိုက်လံတိုက်ခိုက်နေသော သိန္နီစော်ဘွားတပ်များနှင့် ဝင်းမှူးတို့ကို ပြန်လည် ခုခံတိုက်ခိုက်ခဲ့သည်။ အေဒီ ၁၈၇၉ ခုနှစ်တွင် ခွန်ဆန်ဟိုက်သည် လူကြီးရောဂါဖြင့် ကွယ်လွန်ခဲ့လေသည်။ ခွန်ဆန်ဟိုက်၏ဇနီးက သူ၏သမီးဖြစ်သူ နန်းခမ်းစင်ကို ခွန်ဆန်တုန်းဟုန်းနှင့် အိမ်ထောင်ချပေးခဲ့သည်။[၁]

အေဒီ ၁၈၇၆ ခုနှစ်တွင် သိန္နီစော်ဘွားဆေစံဖသည် အင်အားနှစ်ထောင်ဖြင့် ခွန်ဆန်တုန်ဟုန်းရှိရာ ကွမ်းလုံသို့ချီတက်တိုက်ခိုက်လေသည်။ ခွန်ဆန်တုန်ဟုန်းတို့သည် လူအင်အား (၁၁၈) ယောက်ဖြင့် ရှုပ်ရှုပ်ရှက်ရှက် ခုခံတိုက်ခိုက်ရာ စော်ဘွားတပ်များ တပ်ပျက်ကာ သိန္နီသို့တိုင်ကစဉ့်ကလျား ဆုတ်ခွာခဲ့ရသည်။ သိန္နီစော်ဘွားက အင်အားပြန်လည်စုစည်းပြီး သိန္နီမှ ပြန်လည်ခုခံတိုက်ခိုက်ရာ ခွန်ဆန်တုန်ဟုန်းတို့သည်

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.P. 225-227

လူသူအင်အား မမျှသဖြင့် ဆယ်ရက်ကြာကြာ ခုခံတိုက်ခိုက်ပြီး ကွမ်းလုံသို့ ပြန်လည်ဆုတ်ခွာသွားရလေသည်။ ဤသို့ဖြင့် လူသူအင်အား စုဆောင်းပြီး ပြောက်ကျားစနစ်ဖြင့် တိုက်ခိုက်ရာ သုံးနှစ်ကြာခဲ့သည်။ ခွန်ဆန်တုန်ဟုန်းက တိုက်ပွဲတွင် ဖမ်းမိသော စော်ဘွားတပ်သားများကို သတ်ဖြတ်ခြင်းမပြုဘဲ ကောင်းမွန်စွာပြုစုပြီး ၎င်းတို့၏နေရာသို့ ပြန်လည်လွှတ်ပေးခဲ့လေသည်။ ထိုအပြုအမူကြောင့် ခွန်ဆန်တုန်ဟုန်း၏ ကောင်းသတင်းများသည် ပြည်သူလူထုအတွင်း ပျံ့နှံ့သွားခဲ့ရာ ခွန်ဆန်တုန်ဟုန်းတို့၏တပ်များ ရောက်သွားသောနေရာတွင် လူထုများက သောင်းသောင်းဖြဖြ ကြိုဆိုကြလေသည်။ ရဲစွမ်းသတ္တိပြည့်စုံသော၊ အစွမ်းထက်သော လူငယ်လူရွယ်များသည်လည်း ခွန်ဆန်တုန်ဟုန်းတပ်သို့ အများအပြား ဝင်ရောက်လာကြသည်။[၁]

၁၈၇၉ ခု ကဆုန်လတွင် စော်ဘွားတပ်တို့နှင့် သွေးသောက်ကြီးတပ်တို့သည် ခွန်ဆန်တုန်ဟုန်းအား စစ်ကြောင်းနှစ်ကြောင်းဖြင့် လာရောက်တိုက်ခိုက်ပြန်သော်လည်း ခွန်ဆန်တုန်ဟုန်းတို့က လာလမ်းမှ ဆီးကြိုတိုက်ခိုက်သဖြင့် စော်ဘွားတပ်နှင့် သွေးသောက်ကြီးတို့ တပ်ပျက်ကာ လားရှိုးသို့ ဆုတ်ခွာလာရသည်။ ခွန်ဆန်တုန်ဟုန်းသည် သိန္နီသို့ရောက်သောအခါ သိန္နီမြို့စား၊ နယ်စား၊ ရွာစားနှင့် လူထုများက လက်ဆောင်ပဏ္ဏာများဖြင့် ခွန်ဆန်တုန်ဟုန်းအား လာရောက်ကြိုဆိုကြလေသည်။[၂]

၁၈၈၁ ခုနှစ်တွင် သီပေါမင်းက မိုးနဲစစ်ကဲအား ရှမ်းစော်ဘွားများအားလုံး လားရှိုးတွင် အစည်းအဝေး ပြုလုပ်ရန် စေလွှတ်ခဲ့သဖြင့် မိုးနဲစစ်ကဲက ခွန်ဆန်တုန်ဟုန်းကိုပါ အစည်းအဝေးသို့ ဖိတ်ခေါ်ခဲ့သည်။ ထိုအစည်းအဝေးတွင် စော်ဘွားများက ခွန်ဆန်တုန်ဟုန်းအား သူပုန်

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.228-9

၂။ Ibit. P.230

အဖြစ် အပြစ်တင်ကြလေသည်။ ခွန်ဆန်တုန်ဟုန်းသည်လည်း "မိမိသည် သူတစ်ပါးကို ရန်စတတ်သူမဟုတ်၊ စော်ဘွားများသာ မိမိရှိရာဒေသသို့ မကြာခဏ လာရောက်တိုက်ခိုက်သဖြင့် ပြန်လည်ခုခံခြင်းသာဖြစ်ကြောင်း၊ မိမိသည် မည်သည့်စော်ဘွားနယ်ကို သွားရောက်ထိပါး တိုက်ခိုက်မှုမရှိ၊ ဤကဲ့သို့ စော်ဘွားများက မိမိကို လိုက်လံနှောင့်ယှက် တိုက်ခိုက်နေလျှင် အဘယ်မှာ ငြိမ်းချမ်းမှုရနိုင်မည်နည်း" ဟု ပြန်လည်ပြောဆိုခဲ့ရာ မိုးနဲစစ်ကဲက စော်ဘွားများနှင့် ခွန်ဆန်တုန်ဟုန်းတို့အား အချင်းချင်းပြေငြိမ်းစေပြီး နမ့်ယောင်ချောင်း၏ မြောက်ဘက်ကို ခွန်ဆန်တုန်ဟုန်း၏ နယ်မြေအဖြစ်သော်လည်းကောင်း၊ နမ့်ယောင်ချောင်း၏ တောင်ဘက်ကို ဆေစံဖ၏နယ်အဖြစ်လည်းကောင်း သတ်မှတ်ပေးခဲ့လေသည်။ ခွန်ဆန်တုန်ဟုန်းသည် "နောင်လှ" တွင် နေထိုင်စဉ် ဆေစံဖက အားပေးထောက်ခံသော မရစ်ကချင်တို့က ပုန်ကန်တိုက်ခိုက်သဖြင့် ကချင်တို့ကို နှိမ်နင်း တိုက်ခိုက်ရလေသည်။ ထို့နောက် ခွန်ဆန်တုန်ဟုန်းသည် ဝိန်းကွဲတွင် လာရောက်နေထိုင်ပြန်သည်။[၁]

၁၈၈၅ ခုနှစ်တွင် သီပေါမင်းကို အိန္ဒိယသို့ဖမ်းဆီးခေါ်ဆောင်သွားသဖြင့် ကုန်းဘောင်မင်းဆက် အဆုံးသတ်သွားလေတော့သည်။ ၁၈၈၆ ခုနှစ်တွင် သိန္နီစော်ဘွား ဆေစံဖ၏ သားတော် စဝ်နော်မိန်းသည် မြင်စိုင်းမင်းသားနှင့်အတူ ထောင်မှလွတ်လာပြီး ထိုသူနှစ်ဦးပူးပေါင်းကာ စစ်သည်အင်အားစုဆောင်း၍ လားရှိုးသို့ချီတက်လာသည်။ တပေါင်းလတွင် သိန္နီသို့ ချီတက်တိုက်ခိုက်ရာ စဝ်နော်မိန်းတို့များစွာကျဆုံးပြီး ခွန်ဆန်တုန်ဟုန်းတို့က လာရှိုးကိုပါသိမ်းယူလေသည်။ စဝ်နော်မိန်းသည် သီပေါနယ်ကိုလည်း လာရောက်ထိပါးသဖြင့် ၁၈၈၆ ခုနှစ်တွင် သီပေါစော်ဘွား စဝ်ခွန်ဆိုင်သည် ခွန်ဆန်တုန်ဟုန်းကို ကူညီ၍ စဝ်နော်မိန်းတို့ကို တိုက်

၁။ Ibit. PP. 230-231

ခိုက်သည်။ ခွန်ဆန်တုန်ဟုန်းသည် စဝ်နော်မိန်းတို့အား တန့်ယန်း၊ မိုင်း ရယ် အထိတိုက်ခိုက်နိုင်ခဲ့သည်။ ၁၈၈၇ ခုအထိ ခွန်ဆန်တုန်ဟုန်းသည် စဝ်နော်မိန်းတို့ကို ဆက်လက်တိုက်ခိုက်ပြီး တောင်ပိုင်းသိန္နီကိုပါ တိုက်ခိုက် ရလေသည်။ အင်္ဂလိပ်တို့သည် စော်ဘွားများ အချင်းချင်းစစ်တိုက်ခိုက် မှုများ ရပ်စဲစေခဲ့ပြီး ခွန်ဆန်တုန်ဟုန်းအား တောင်ပိုင်းသိန္နီသို့ လာရောက် တိုက်ခိုက်ခြင်းမှ ရပ်စဲစေခဲ့သည်။ ၁၈၈၈ ခုနှစ်၊ ပြာသိုလပြည့်ကျော် ၁၂ ရက်နေ့တွင် အင်္ဂလိပ်စစ်ဦးစီးချုပ်တယ်လီ (Lt. Daley)က ခွန် ဆန်တုန်ဟုန်းအား ဝိန်းကွဲတွင်လာရောက်တွေ့ဆုံစေ့စပ်ပြီး (၃ ၊ ၃ ၊ ၁၈၈၈) တွင် ခွန်ဆန်တုန်ဟုန်းအား မြောက်ပိုင်းသိန္နီစော်ဘွားအဖြစ်၊ ဆေစံဖအား တောင်ပိုင်းသိန္နီစော်ဘွားအဖြစ် ခန့်အပ်ပေးခဲ့သည်။[၁]

ခွန်ဆန်တုန်ဟုန်းသည် စော်ဘွားများကို စတင်ပုန်ကန်သည့် အချိန်မှစ၍ စော်ဘွားဖြစ်လာသည်အထိ သူ၏ စစ်မှုထမ်းများသည် ကချင်တိုင်းရင်းသားများ၊ ဝတိုင်းရင်းသားများ၊ ရှမ်းတိုင်းရင်းသားများ ပါဝင်ခဲ့သည်။ ကချင်ပြည်နယ်သည် ထိုအချိန်က သိန္နီနယ်ထဲတွင် ပါဝင် လေသည်။ ၁၈၉၁ ခုနှစ်တွင် ကချင်တို့က မိမိတို့အတွက် ကချင်ဒေသ သတ်မှတ်ပေးရန် ခွန်ဆန်တုန်ဟုန်းထံတွင် အရေးဆိုလာခဲ့သည်။ ၁၈၉၃ ခုနှစ်တွင် အင်္ဂလိပ်တို့က ကချင်တို့၏အကြီးအကဲကို ဒူးဝါးအဖြစ်သတ် မှတ်ပေးပြီး ကချင်ဒေသကိုလည်း သီးသန့်သတ်မှတ်ပေးခဲ့ရသည်။ ခွန် ဆန်တုန်ဟုန်းသည် အင်္ဂလိပ်လက်အောက်တွင် သိန္နီစော်ဘွားအဖြစ် မြောက်ပိုင်းသိန္နီကို အုပ်ချုပ်ခဲ့ပြီး (၄ ၊ ၄ ၊ ၁၉၁၆) ခုနှစ်တွင် နတ်ရွာစံ ခဲ့သည်။ ၁၉၁၆ မှ ၁၉၂၅ အထိ သိန္နီကို အင်္ဂလိပ်တို့က အုပ်ချုပ်ခဲ့ပြီး (၁၆ ၊ ၃ ၊ ၁၉၂၅ ) တွင် မကွေးဝန်ထောက်လုပ်နေသော ခွန်ဆန်တုန် ဟုန်း၏ သားတော် 'စဝ်ဟုံဖ'ကို သိန္နီစော်ဘွားအဖြစ် ခန့်အပ်ခဲ့သည်။

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.235-6

(၂၉၊ ၄၊ ၁၉၅၉) ခုတွင် စဝ်ဟုံဖတို့က အာဏာစွန့်ခဲ့သည်။[၁]

၃း၉း၅။ ကုန်းဘောင်ခေတ်အဆုံးနှင့် ရှမ်းပြည်အရှေ့ပိုင်း၊ တောင်ပိုင်းအခြေအနေ

မင်းတုန်းမင်းတရား နတ်ရွာစံပြီးနောက်တွင် ယခုတရုတ်နိုင်ငံအတွင်းရှိ ချေလီခေါ် ကျိုင်းရုံးနယ်၏ စော်ဘွားသည် စိတ်ဝမ်းကွဲပြားကာ မြန်မာဘုရင်သီပေါမင်းအား ထောင်ထားခြားနားသည်။ ထိုအရေးတွင် မိုးနဲ၊ မိုင်းနောင်နှင့် ရပ်စောက်စော်ဘွားတို့သည် ကျိုင်းတုံစော်ဘွားနှင့် တစ်စိတ်တစ်ဝမ်းတည်းပြု၍ ပါဝင်ကူညီကြသည်။ ထိုစော်ဘွားတို့သည် မင်းတုန်းမင်း၏သားတော်တစ်ပါးဖြစ်သော လင်းပင်မင်းသားအားနန်းတင်ရန်ရည်မှန်းခဲ့ကြသည်။ နောင်အခါမြေလတ်နယ်အချို့ကလည်း ပူးပေါင်းပါဝင်သည်။ လင်းပင်အဖွဲ့သည် မိမိတို့နှင့်စိတ်ဝမ်းမညီသော ညောင်ရွှေ ကျေးသီးမန်စံ၊ မိုင်းလွန်းနှင့် လဲချားနယ်များကို တိုက်ခိုက်ကြသည်။ မြန်မာတပ်များက ထောင်ထားခြားနားမှုကို လိုက်လံနှိပ်ကွပ်သော်လည်း များစွာအရေးမလှခဲ့ပေ။[၂]

ကုန်းဘောင်မင်းဆက်ကို တည်ထောင်သော အလောင်းဘုရားလက်ထက်တွင် သိန္နီသည်မြန်မာမင်းတို့အား တော်လှန်ပုန်ကန်မှုများပေါ်ပေါက်ခဲ့သဖြင့် မြန်မာမင်းများထံ အခွန်ဘဏ္ဍာဆက်သရန်အတွက် မိုးနဲသည်အဓိက နယ်မြေဖြစ်လာလေသည်။ မြန်မာတပ်မှူးများကိုလည်းမိုးနဲတွင် ခန့်အပ်ထားခဲ့လေသည်။ ရှမ်းပြည်နှင့်ပတ်သက်သော တိုင်းရေးပြည်ရာများကို မြန်မာမင်းများနှင့် ဆက်ဆံရာတွင် မိုးနဲမြို့သည် အရေးပါလာသည်။ မိုးနဲစော်ဘွား စဝ်ခွန်နွမ်သည်မင်းတုန်းမင်းထံ သူ၏သမီး

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.237

၂။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းလူမျိုး၊ နှာ၊ ၃၈၉

တော်နှစ်ပါးကို ဆက်သခဲ့သည်။ သီပေါမင်း နန်းတက်လာသောအခါ စုဖုရားလတ်၏ အကောက်ကြံမှုကို ကြောက်သဖြင့် စဝ်ခွန်နွမ်၏ သမီးတော်နှစ်ပါးသည် ရှမ်းပြည်သို့တိမ်းရှောင်ထွက်လာခဲ့ရာ တောင်ဘက်ကိုးခရိုင် စီရင်စုနယ်အရောက် ဖမ်းဆီးခြင်းခံရပြီး မန္တလေးတွင် ကွပ်မျက်ခြင်းခံရသည်။ ထို့ကြောင့် အေဒီ ၁၈၈၃ ခုနှစ်တွင် စဝ်ခွန်နွမ်၏သားဖြစ်သူ မိုးနဲစော်ဘွား စဝ်ခွန်ကြည်သည် သီပေါမင်းနှင့်စုဖုရားလတ်တို့အပေါ် မကျေနပ်မှု ပေါ်ပေါက်ခဲ့ပြီး မိုင်းနောင်၊ ရပ်စောက်၊ မောက်မယ်၊ ဆားတောင်၊ ဘန်းယဉ်၊ နောင်မွန်၊ နမ့်ခုတ်၊ ဟိုပုန်း၊ မိုင်းပွန်စော်ဘွားတို့နှင့် ပူးပေါင်းပြီး မိုးနဲရှိ မြန်မာမြို့စောင့်တပ်များကို တိုက်ခိုက်သတ်ဖြတ်ပစ်လေသည်။ ဤအကြောင်းကို သီပေါမင်း ကြားသိသောအခါ မြန်မာတပ်သားသုံးထောင်ကို မိုးနဲသို့ စေလွှတ်ခဲ့လေသည်။ မြန်မာတပ်များ မိုးနဲသို့ လာရောက်တိုက်ခိုက်စဉ် မိုးနဲစော်ဘွားစဝ်ခွန်ကြည်၊ ရပ်စောက်စော်ဘွားစဝ်ဝိုင်း၊ မိုင်းနောင်စော်ဘွား စဝ်ခွန်ထွန်းတို့သည် သံလွင်မြစ်ကို ဖြတ်ကူးပြီး ကျိုင်းတုံစော်ဘွားထံ သွားရောက်ခိုလှုံခဲ့လေသည်။[၁]

စော်ဘွားများ သံလွင်မြစ်အရှေ့ဘက်သို့ ထွက်ပြေးတိမ်းရှောင်သွားကြပြီ ဖြစ်သောကြောင့် သီပေါမင်းသည် ကျိုင်းတောင်းစော်ဘွား၏ သား စဝ်ခင်မောင်ကို မိုးနဲစော်ဘွားအဖြစ် တင်မြှောက်ခဲ့လေသည်၊ ကျိုင်းတောင်းစော်ဘွားသည် မိုးနဲစော်ဘွားစဝ်ခွန်ကြည်၏ ညီတော်ဖြစ်သည်။ ကျိုင်းတောင်းစော်ဘွား အနိစ္စရောက်ခဲ့လေသဖြင့် မုဆိုးမစော်ဘွားကတော်သည် ရဟန်းလူထွက်'ထွက်လူး'နှင့် အိမ်ထောင်ကျခဲ့သည်၊ စဝ်ခင်မောင်သည် အသက်အရွယ် ငယ်သေးသဖြင့် ရင်ခွင်ပိုက်အဖြစ်ထားရှိပြီး ထွက်လူးသည် အစစအရာရာ အာဏာရယူပြီး 'စဝ်လူ'အဖြစ်နာမည်တွင်လာသည်။ အေဒီ ၁၉၊ ၁၁၊ ၁၈၈၅ ခုနှစ်တွင် သီပေါမင်းကို

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.262-264

အင်္ဂလိပ်တို့ ဖမ်းဆီးခေါ်ဆောင်သွားသဖြင့် ထွက်လူးသည် မိုးနဲစော်ဘွား အဖြစ် သုံးနှစ်အုပ်ချုပ်သွားခဲ့ရလေသည်။ သီပေါမင်းလက်ထက်တွင် ရပ်စောက်နယ်သည် ညောင်ရွှေစော်ဘွားစဝ်မောင် လက်အောက်သို့ ရောက်ရှိခဲ့ရသည်။ သီပေါမင်းပါတော်မူပြီးနောက် ၁၈၈၆ ခု ဖေဖော်ဝါရီလတွင် လင်းပင်မင်းသား ဦးဆောင်သော မိုးနဲစော်ဘွားတို့သည် ထွက်လူးကို လာရောက်တိုက်ခိုက်ပြီး စဝ်ခွန်ကြည်သည် မိုးနဲစော်ဘွား ပြန်ဖြစ်လာလေသည်။[၁]

မိုးနဲစော်ဘွားတို့သည် ညောင်ရွှေကိုလည်း လာရောက်တိုက်ခိုက်သိမ်းပိုက်ပြီး စဝ်ချစ်စုကို ညောင်ရွှေစော်ဘွားအဖြစ် တင်မြှောက်ခဲ့သည်။ ညောင်ရွှေစော်ဘွား စဝ်မောင်သည် မန္တလေးတွင်ရှိနေသဖြင့် ထိုသတင်းကို ကြားရသောအခါ ရှမ်းပြည်သို့ ပြန်လာပြီး ညီတော်စဝ်အုံနှင့်အတူ ညောင်ရွှေကို ပြန်လည်တိုက်ခိုက်ရလေသည်။ တိုက်ပွဲတွင် စဝ်မောင်၏ပေါင်တွင် သေနတ်ထိမှန်၍ ဒဏ်ရာရသဖြင့် မန္တလေးသို့ သွားရောက်ကုသသည်။ ညောင်ရွှေတပ်သားများကို ညီဖြစ်သူ စဝ်အုံအားလွှဲ အပ်ခဲ့သည်။ စဝ်အုံသည် ညောင်ရွှေကို ပြန်လည်သိမ်းပိုက်နိုင်ခဲ့သည်။ ရပ်စောက်ပိုင်ဆိုင်ရေးနှင့်ပတ်သက်၍ ညောင်ရွှေနှင့် ရပ်စောက်စော်ဘွား စဝ်ဝိုင်းတို့ စစ်ခင်းမှုဖြစ်ပွားခဲ့ပြီး တိုင်းပြည်အေးချမ်းမှု မရှိခဲ့ပေ။[၂] ၁၈၉၇ ခုနှစ် ညောင်ရွှေစော်ဘွားစဝ်အုံ နတ်ရွာစံပြီးနောက် အင်္ဂလိပ်တို့က စော်ဘွားဟောင်း စဝ်မောင်ကို ညောင်ရွှေစော်ဘွားအဖြစ် ချီးမြှင့်ခဲ့လေသည်။[၃]



၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.262-264

၂။ Ibit. op. cit. PP.267-268.

၃။ သောဘိတ(ဦး)၊ ဖောင်တော်ဦးဘုရားသမိုင်း၊ နှာ၊ ၆၈၊



သီပေါစော်ဘွား နှင့် အဆောင်အယောင်များ



ရှမ်းစော်ဘွားများ အကန်တော့ခံသည့် ယာယီဟော်နန်း

# အခန်း (၄)

## ၄ ၊ ၁ ။ အင်္ဂလိပ်တို့ ရှမ်းပြည်မြောက်ပိုင်းကို သိမ်းသွင်းခြင်း

သီပေါမင်း ပါတော်မူပြီးနောက် ရှမ်းပြည်သည် စော်ဘွားများအချင်းချင်း နယ်မြေလုမှုကြောင့် တိုင်းပြည်အေးချမ်းမှု မရှိပေ။ ၁၈၈၆ ခု အောက်တိုဘာလတွင် သီပေါစော်ဘွားစဝ်ခွန်ဆိုင်သည် အင်္ဂလိပ်တို့ထံ တရေးဖိတ်ခေါ်သဖြင့် ၂၈ ၊ ၁၁ ၊ ၁၈၈၆ တွင် ကာနယ်စတတ်မဲန်း (Col:Stedman)သည် ဂေါ်ရာစစ်သား သုံးရာနှင့်အတူ ရှမ်းပြည်မြောက်ပိုင်းသို့ ချီတက်လာလေသည်။ ရှမ်းပြည်မြောက်ပိုင်းတွင် အင်္ဂလိပ်တို့အား နောက်ထပ်ဖိတ်ခေါ်သူတစ်ဦးမှာ မိုးမိတ်စော်ဘွား၏ ဆွေတော်မျိုးတော်ဖြစ်သူ စဝ်ခမ်းလှိုင် (မိုင်းလှိုင် ရှာသူကြီး)ဖြစ်သည်။ သီပေါမင်း ပါတော်မူချိန်တွင် မိုးမိတ်စော်ဘွား၏သားတော် စဝ်ခင်မောင်သည် အသက်ငယ်သေးသဖြင့် စဝ်ခမ်းဥက ရင်ခွင်ပိုက်အဖြစ် ထားရှိလေသည်။ ၁၈၈၆ ခု ဧပြီလတွင် အင်္ဂလိပ်တို့သည် မိုးမိတ်နှင့် (၂၇)မိုင်ဝေးသော မိုးကုတ်သို့ ရောက်လာပြီး စဝ်ခမ်းဥနှင့် မိုးမိတ်မှူးမတ်များကို လာရောက်တွေ့ဆုံကြသည်။[၁]

အင်္ဂလိပ်တို့က စဝ်ခမ်းလှိုင်အား မိုးမိတ်စော်ဘွားအဖြစ် ခန့်အပ်သော်လည်း မိုးမိတ်လူထုက လက်မခံသဖြင့် စဝ်ခင်မောင်ကို ရင်ခွင်ပိုက်မိုးမိတ်စော်ဘွားအဖြစ် ထားရှိပြီး စဝ်ခမ်းဥကို စောင့်ရှောက်စေခဲ့သည်။ စဝ်ခမ်းလှိုင်အား မိုင်းလှိုင်သူကြီးအဖြစ် ထားပေး၍ မိုးမိတ်ကို မနှောင့်ယှက်ရန်ညွှန်ကြားလေသည်။ သို့သော် နောက်ပိုင်းတွင် စဝ်ခမ်းလှိုင်သည်

---

၁ Hsen (Khur), The Oregin of Tais and A Short History of Shan.P.273-4

လူသူအင်အားစုစည်းပြီး မိုးမိတ်ကို လာရောက်တိုက်ခိုက်သဖြင့် အင်္ဂလိပ် တို့က မိုးမိတ်လုံခြုံရေးအတွက် လာရောက်စောင့်ရှောက်ပေးခဲ့သည်၊ အင်္ဂလိပ်တို့သည် စဝ်ခမ်းလှိုင်အား သောင်းကျန်းသူအဖြစ် သတ်မှတ်လေ သည်။ ၁၈၈၈ ခုနှစ်တွင် စဝ်ခမ်းလှိုင်သည် နမ်ဆန် (ကျောက်မဲခရိုင်) ဘက်သို့ တိမ်းရှောင်လာပြီးစောရန်ပိုင် (မက္ခရာမင်းသား၏သားတော်) နှင့် ပူးပေါင်းကာ နယ်ချဲ့အင်္ဂလိပ်တို့အား ပုန်ကန်တိုက်ခိုက်ကြသည်၊ အင်အားမမျှသဖြင့် အောင်မြင်မှုမရခဲ့ချေ။ စောရန်ပိုင်၏ ညီတော်ဖြစ်သူ စောရန်နိုင်သည် အင်္ဂလိပ်တို့၏ လက်အောက်တွင် မနေလိုသဖြင့် တရုတ်ပြည်တို့သိမ်းရှောင်သွားလေခဲ့သည်။ မိုးမိတ်နယ်မြေ အေးချမ်းရေး အတွက် အင်္ဂလိပ်တို့သည် ညောင်ရွှေစော်ဘွားစဝ်ခင်မောင်အား လာ ရောက်အုပ်ချုပ်စေသော်လည်း မရသဖြင့် အင်္ဂလိပ်တို့က မိုးမိတ်နယ်ကို နှစ်ခြမ်းခွဲပြီး မိုးကုတ်နှင့် ဗန်းမော်နယ်ထဲသို့ ထည့်သွင်း ထားလေတော့ သည်။[၁]

## ၄ း ၂ ။ အင်္ဂလိပ်တို့ ရှမ်းပြည်တောင်ပိုင်းကို သိမ်းသွင်းခြင်း

ရှမ်းပြည်တောင်ပိုင်းတွင်လည်း ညောင်ရွှေစော်ဘွားစဝ်အုံသည် ရပ်စောက်စော်ဘွားတို့နှင့်နယ်မြေလုနေကြခြင်း၊ ထွက်လူး(ခေါ်) စဝ်လူး သည်လည်း လူသူအင်အားစုဆောင်း၍ မိုးနဲစော်ဘွားတို့ကို ပုန်ကန် နှောင့်ယှက်ခြင်း၊ သီပေါမင်း ပါတော်မူပြီးနောက် အင်္ဂလိပ်တို့ကို တော်လှန် ပုန်ကန်သော မြင်စိုင်းမင်းသား၊ ကြည့်မြင်တိုင်မင်းသား၊ စကြာမင်းတို့ သည် ရပ်စောက်နယ်တွင် ခိုလှုံလှုပ်ရှားနေကြသဖြင့် နယ်မြေမအေးချမ်း ခဲ့ပေ၊ ညောင်ရွှေစော်ဘွားစဝ်မောင်၏ညီ စဝ်အုံသည် ညောင်ရွှေစော်

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan.P.275

ဘွားဖြစ်လာသောအခါ ရပ်စောက်စော်ဘွားတို့၏ ရန်ကိုစိုးရိမ်သဖြင့် ၁၈၈၆ မေလတွင် အင်္ဂလိပ်တို့ထံ စာရေးသားဖိတ်ခေါ်ခဲ့လေသည်။ အခြားအကြောင်းတစ်ခုမှာ ညောင်ရွှေစော်ဘွား စဝ်ခင်မောင်ကို စော်ဘွားမဖြစ်စေလိုသည့်အပြင် သူကိုယ်တိုင် ညောင်ရွှေအား ရှုပ်ရှုပ်ချွံချွံ ဖြန့်လည် တိုက်ခိုက်ယူပုံကို အင်္ဂလိပ်တို့သိရှိစေပြီး သူ့အားညောင်ရွှေစော်ဘွားအဖြစ် အသိအမှတ်ပြုပေးစေလိုသောကြောင့်ဖြစ်သည်။ ထို့အပြင် မိုးဗြဲစော်ဘွားခွန်ရုံးသည် ကရင်နီ (ကယား)တို့က သူ၏နယ်မြေကို လာရောက်နှောင့်ယှက်နေသဖြင့် အင်္ဂလိပ်တို့ထံ အကူအညီတောင်းခဲ့သည်။ ရွှာငံတွင်လည်း ရွှာငံမြို့စား အနိစ္စရောက်ပြီး မြို့စားနေရာလုမှုကြောင့် အင်္ဂလိပ်တို့အား အကူအညီတောင်းခဲ့သည်။[၁]

၃၁ ၊ ၁၂ ၊ ၁၈၈၆ တွင် ကာနယ်စကော့ စတက်မဲန် Col: Stedman ဦးဆောင်သော အင်္ဂလိပ်စစ်တပ်တို့သည် မန္တလေးမှ စတင်ထွက်ခွာပြီး လှိုင်းတက်မှတစ်ဆင့် ရှမ်းပြည်တောင်ပိုင်းသို့ ချီတက်လာသည်။ ရှမ်းပြည်သို့ ချီတက်လာသော အင်္ဂလိပ်တို့သည် သီပေါစော်ဘွား စဝ်ခွန်ဆိုင်နှင့် မြန်မာနိုင်ငံဘုရင်ခံချုပ်ဆာ-ချာဗားနတ် Sir-Charles Bernard တို့ ညှိနှိုင်းတိုင်ပင်ထားသော လူထုနှင့် စော်ဘွားများအား စည်းရုံးသည့်စာကို ဖြန့်ဝေ၍လာခဲ့သည်။ ၁၆၊ ၀၁၊ ၁၈၈၇ တွင် အင်္ဂလိပ်တို့သည် လှိုင်းတက်သို့ ရောက်လာပြီး ရှမ်းပြည်သို့ ဆက်လက်ချီတက်ရာ လမ်းခရီးတွင် သစ်တုံးဖြင့် ပိတ်ဆို့ထားမှု၊ ချုံခိုတိုက်ခိုက်မှုများ ရှိခဲ့သည်။ ဇန်နဝါရီလ ၂၀ ရက်နေ့တွင် 'ဆင့်ကူး' နှင့် 'မြင်းတိုက်'အထိ ရောက်ရှိလာခဲ့ပြီး ဇန်နဝါရီလ ၂၇ ရက်နေ့တွင် 'ရေယား'သို့ ရောက်လာခဲ့သည်။ ဇန်နဝါရီလ ၂၉ ရက်တွင် 'ပွေးလှ'သို့ ရောက်လာခဲ့ပြီး ညောင်ရွှေစော်ဘွား၏ ဖိတ်ခေါ်ချက်အရ ၀၇ ၊ ၀၂ ၊ ၁၈၈၇ တွင် ညောင်ရွှေနှင့်

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan.P.270-5

ခုနစ်မိုင် ကွာဝေးသော ပေါရိသာဒ်♥သို့ ရောက်လာခဲ့သည်။ ညောင်ရွှေစော်ဘွား စဝ်အုံသည် အင်္ဂလိပ်တို့ကို လာရောက်ကြိုဆိုကြသည်။အင်္ဂလိပ်တို့သည် ညောင်ရွှေသို့မဝင်သေးဘဲ ဖောရိသာဒ်တွင် စခန်းချနေခဲ့သည်[၁]

ထိုအချိန်တွင် ရပ်စောက်စော်ဘွား စဝ်ဝိုင်းသည် ညောင်ရွှေကို တိုက်ခိုက်ရန် ကူကျိုးတွင် တပ်ချထားလေသည်။ အင်္ဂလိပ်တို့က ရပ်စောက်စော်ဘွားအား စစ်တိုက်မှု မပြုရန် နားချသော်လည်း စဝ်ဝိုင်းက လက်မခံခဲ့ချေ။ ထို့ကြောင့် ၁၉ ၊ ၀၂ ၊ ၁၈၈၇ တွင် အင်္ဂလိပ်စစ်ဗိုလ်ချုပ် ဂျေဂျီစကော့ J.G. Scott သည် စဝ်ဝိုင်းတို့ကို စစ်ကြေငြာပြီး ကူကျိုးကို တိုက်ခိုက်လေတော့သည်။ ထိုတိုက်ပွဲတွင် ရပ်စောက်စော်ဘွားတပ်သား ၂၄ ဦးကျဆုံးပြီး အင်္ဂလိပ်စစ်သား ၃ ဦး ကျဆုံးခဲ့လေသည်။ လက်နက်အင်အား ကွာခြားသောကြောင့် ရပ်စောက်စော်ဘွားတို့က မခံနိုင်တော့သဖြင့် တပ်ပျက်ကာ ဆုတ်ခွာသွားခဲ့ရလေသည်။[၂] စဝ်ဝိုင်းသည် အင်္ဂလိပ်တို့၏ လက်အောက်သို့ မဝင်လိုသဖြင့် ဆစ်ဆောင်ပန်းနား (ကျိုင်းဟုန်)သို့ ထွက်ပြေးတိမ်းရှောင်သွားပြီး ၁၈၉၆ ခုတွင် ကျိုင်းဟုန်တွင် နတ်ရွာစံခဲ့သည်။[၃] ကူကျိုးတိုက်ပွဲ ပြီးဆုံးသွားသောအခါ အင်္ဂလိပ်တို့သည် ညောင်ရွှေတွင် စခန်းမချဘဲ ညောင်ရွှေနှင့် ခုနစ်မိုင်ဝေးသော မိုင်း

♥။ ဖောရိသာဒ် = မောလိဆတ်(နှီးဖျာယက်ရာတွင် ကျွမ်းကျင်သူ)၊ မောင်နှမနှစ်ယောက်စေတီအပြိုင်တည်ကြရာ မောင်တော်က အုတ်ဖြင့်စေတီတည်၏။ နှမတော်ဖြစ်သူက အတွင်းပိုင်းတွင် စေတီပုံငြမ်းဆင်ပြီး အပြင်ကို ဖျာကပ်စက္ကူနှံ့ ထုံးသုတ်၍ ထီးတင်အလျင်ပြီးသောကြောင့် နှမတော်သည် အမြဲတမ်းစော်ဘွားဖြစ်ခဲ့ရ၏။ ၎င်းစေတီကိုဖျာနှင့်တည်သောကြောင့် ရှမ်းဘာသာအားဖြင့် "မော်လိဆတ်" ဟုခေါ်ကြရာကာလရွေ့လျောလာသဖြင့် "ဖောရိသာဒ်"ဟု ခေါ်ဝေါ်ပြောဆိုကြလေသည်။

၁။ Saimong Mangrai (Sao) . The Shan States and the Britsh Annexation. PP.132-133.

၂။ Ibit. op.cit.P.136.

၃။ Hsen (Khur). op.cit. P.283

သောက်တွင် တပ်စခန်း Fort Stedman ချခဲ့လေသည်။[၁] (ဤတပ်စခန်းသည် အင်္ဂလိပ်တို့ တောင်ကြီးသို့ ပြောင်းရွှေ့သွားသည်အထိ ၁၈၉၄ စက်တင်ဘာလ ၁၅ ရက်နေ့တိုင်အောင် တည်ရှိခဲ့သည်။)

တပ်စခန်းထူထောင်ပြီးနောက် အင်္ဂလိပ်တို့သည် ရှမ်းပြည်သူလူထုနှင့် စော်ဘွားများကို စည်းရုံးနိုင်ရန်အတွက် သီပေါစော်ဘွားစဝ်ခွန်ဆိုင်နှင့် မြန်မာနိုင်ငံဘုရင်ခံချုပ် ဆာ-ချာဗားနတ် Sir. Charles Bernard) တို့ ညှိနှိုင်းတိုင်ပင်ထားသော စာဖြင့် အနယ်နယ်အရပ်ရပ်သို့ ပို့စေခဲ့သည်။ ထိုစာနှစ်စောင်မှာ အောက်ပါအတိုင်း ရေးသားထားသည်ကို တွေ့ရသည်။

၄း၂း၁။ အင်္ဂလိပ်တို့၏ ရှမ်းပြည်သူလူထုထံပေးစာ[၂]

သင်တို့၏ စော်ဘွားနှင့် ညှိနှိုင်းတိုင်ပင်ပြီး ရှမ်းပြည်နယ်မြေ အေးချမ်းသာယာရေးအတွက်သော်လည်းကောင်း၊ ရှမ်းပြည်လူထုများ ငြိမ်းချမ်းစွာ နေထိုင်နိုင်ရေးအတွက်သော်လည်းကောင်း၊ အကျွန်ုပ်တို့၏ အင်္ဂလိပ်စစ်တပ်များ ရှမ်းပြည်သို့ရောက်လာခြင်းဖြစ်သည်။ မိမိတို့ မရောက်နိုင်သေးသော နေရာများကိုလည်း ရောက်ရှိနိုင်အောင် ထပ်ပို့လာပါမည်။ သင်တို့၏ ကိုးရာယုံကြည်မှု ဓလေ့ထုံးစံများကိုလည်း ထိခိုက်ဖျက်ဆီးထားမြစ်မည် မဟုတ်၊ မိမိတို့ ဆန္ဒအတိုင်း ဆက်လက်ယုံကြည် ကိုးကွယ်ခွင့်ပြုပါသည်။

ရှမ်းပြည်၏ တိုင်းရေးပြည်ရာများကို စီမံခန့်ခွဲနိုင်ရန်အတွက် စော်ဘွားများ၊ သူကြီးများ၊ တိုင်းသူပြည်သားများအားလုံး၊ သာသနာပြု

---

၁။ Saimong Mangrai (Sao) . The Shan States and the Britsh Annexation. PP.137-140

၂။ Hsen (Khur) op.cit.PP.278-279 & Burma Foreign Depertment Procedding. No. __ December, 1886

ပုဂ္ဂိုလ်များနှင့် ညှိနှိုင်းတိုင်ပင်နိုင်ရန်အတွက် အင်္ဂလိပ်စစ်တပ်ကိုယ်စား လှယ်များကို စေလွှတ်လာခဲ့ခြင်းဖြစ်သည်။ သင်တို့နှင့် မိတ်ဆွေသာ ဖြစ် ချင်ပါသည်။ အကျွန်ုပ်တို့အား ကြည်ဖြူစွာ လက်ခံသောသူများကို အကျွန်ုပ်တို့သည် မည်သည့်အနှောင့်အယှက်မျှ မပြုပါ။ စားနပ်ရိက္ခာ များ ရှိလျှင်လည်း အကျွန်ုပ်တို့အား လာရောက်ရောင်းချပေးပါ။ အကျွန်ုပ် တို့ ဝယ်ယူပါမည်။ အခမဲ့မယူပါ။

အကျွန်ုပ်တို့ရောက်ရှိနေသော နေရာနှင့် ရောက်လာမည့် နေရာ များတွင် အကျွန်ုပ်တို့အား ထွက်မပြေးကြပါနှင့်။ အကျွန်ုပ်တို့ကို ကြိုဆို ကြပါ။ သင်တို့၏ ကောင်းကျိုးအတွက် အကျွန်ုပ်တို့ လာခြင်းဖြစ်သည်။ အကျွန်ုပ်တို့အား တော်လှန်ပုန်ကန်မှု မပြုလျှင် အကျွန်ုပ်တို့က ရန်ရှာမည် မဟုတ်။

၄း၂း၂။ အင်္ဂလိပ်တို့၏ ရှမ်းစော်ဘွားများထံ ပေးစာ[၁]

အကျွန်ုပ်တို့သည်-------------------------စော်ဘွားထံသို့ စာသဝဏ်လွှာပို့အပ်ပါသည်။ ဤစာသည် -----------------စော်ဘွား နှင့်အတူ အသင်တို့ထံ ပို့သလာခြင်းဖြစ်သည်။ ဤစာယူလာသူသည် အကျွန်ုပ်တို့၏ ကိုယ်စားလှယ်တော်ဖြစ်ပြီး အသင်တို့နှင့် ပြည်သူလူထုကို လာရောက်စည်းရုံးခြင်း ဖြစ်သည်။ သင်တို့ရှမ်းပြည်အားလုံး အေးချမ်း သာယာရန်အတွက် အကျွန်ုပ်တို့ ကြိုးပမ်းဆောင်ရွက်ပါမည်။ လုပ်ငန်း စဉ်များကို ဤစာယူလာသူက အကျယ်ရှင်းပြပါလိမ့်မည်။ ယခုအခါ ရှမ်း ပြည်သည် မင်းမဲ့တိုင်းပြည်အလား ဖြစ်နေသည်။ လူဆိုးသူခိုး၊ ဓားပြများ ပေါ်များသည့်အပြင် အချင်းချင်းလည်း တိုက်ခိုက်နေကြသည်။ ဆူပူ

---

၁။ Hsen (Khur) op.cit.PP.278-279 & Burma Foreign Depertment Procedding. No. __ December, 1886

သောင်းကျန်းမှုများ အားလုံးပပျောက်ရေး၊ တိုင်းပြည်အေးချမ်းသာယာဖွံ့ဖြိုးတိုးတက်ရေး၊ လမ်းပန်းဆက်သွယ်မှု အဆင်ပြေချောမွေ့စေရေးအတွက် အထက်ကလည်း ညွှန်ကြားလာခဲ့ပြီးဖြစ်သည်။ သံလွင်မြစ်အရှေ့ဘက်အပါအဝင် အကျွန်ုပ်တို့ ရည်မှန်းထားသည့်အတိုင်း စော်ဘွားများအားလုံးနှင့် ရှမ်းပြည်သူလူထုအားလုံးတို့က ရှမ်းပြည်တိုးတက်ရေး၊ သာယာဝပြောရေးအတွက် အကျွန်ုပ်တို့နှင့် အတူတကွ လက်တွဲကူညီဆောင်ရွက်သွားမည်ကို မျှော်လင့်ပါသည်။

အကျွန်ုပ်တို့၏ စာသဝဏ်ကို လက်ခံရရှိပါက ရှမ်းပြည်၏ ရှေ့လုပ်ငန်းစဉ်များကို အကျွန်ုပ်တို့ထံ အကြောင်းကြားကြပါမည်ဟု မျှော်လင့်ပါသည်။ အကျွန်ုပ်တို့ လွှတ်လာသော ကိုယ်စားလှယ်တော်သည် ရှမ်းပြည်အေးချမ်းသာယာရေးအတွက် ရည်ရွယ်ပြီး ရှေးအစဉ်အလာအရစော်ဘွားဖြစ်လာသူတို့သည်လည်း မိမိတို့အုပ်စိုးခဲ့သည့် နယ်မြေများကိုပျော်ရွှင်ချမ်းမြေ့စွာ ဆက်လက်အုပ်ချုပ်နိုင်ရန်အတွက် အကျွန်ုပ်တို့ လာရောက်ကူညီခြင်း ဖြစ်ပါသည်။ အကျွန်ုပ်တို့၏ ကိုယ်စားလှယ်တော်ကို ဖြူစင်စွာကြိုဆိုခဲ့ကူညီကြသည့် ပုဂ္ဂိုလ်များကိုလည်း အကျွန်ုပ်တို့က အစစအရာရာ ကြည့်ရှုစောင်မမည်ဖြစ်ပြီး ထိုက်သင့်သော ဆုလာဘ်များကိုလည်း ချီးမြှင့်ပါမည်။

အသင်တို့၏ တုံ့ပြန်စာများကို အကျွန်ုပ်တို့ ဝမ်းသာစွာဖြင့် လက်ခံကြိုဆိုနေပါမည်။ အသင်တို့၏ လိုအင်ဆန္ဒများကို အကျွန်ုပ်တို့ထံ လာရောက်အကြောင်းကြားပါက အကျွန်ုပ်တို့က ကူညီဆောင်ရွက်ပေးပါမည်။ အကျွန်ုပ်တို့ကို တွေ့ဆုံလိုပါက မန္တလေးတွင် အချိန်မရွေး လာရောက်တွေ့ဆုံနိုင်ပါသည်။ အကျွန်ုပ်တို့က အစဉ်လက်ကမ်းကြိုဆိုနေပါမည်။ အသင်တို့နှင့် တွေ့ဆုံနိုင်ရန်အတွက် အကျွန်ုပ်တို့က မျှော်လင့်နေပါသည်။ အသင်တို့ရောက်လာလျှင်လည်း ပျူငှာစွာခြည်ခဲ့ကြိုဆိုပါမည်။

အသင်တို့က မလာနိုင်သော်လည်း အသင်တို့ပို့လာသော ကိုယ်စားလှယ်များကိုလည်း ထိုအတူညွှန်ဝတ်ကျေပါမည်။

အထက်ပါစာကို အနယ်နယ်အရပ်ရပ်သို့ ပို့ပြီးသည့်နောက် ညောင်ရွှေနှင့် မိုးဗြဲသည် အင်္ဂလိပ်လက်အောက်ခံနိုင်ငံအဖြစ် ရောက်သွားခဲ့သည်။ ထို့နောက် စကားစော်ဘွားသည်လည်း အင်္ဂလိပ်ထံရောက်လာပြီး လက်အောက်ခံနိုင်ငံအဖြစ် ခံယူလေသည်။ လဲချား၊ မိုင်းကိုင်၊ ကျေးသီးစော်ဘွားတို့သည်လည်း မိုးနဲစော်ဘွားနှင့် လင်းပင်မင်းသားတို့က သူတို့၏နယ်ပယ်များကို လာရောက်ထိပါး နှောင့်ယှက်နေကြကြောင်း မန္တလေးသို့ ကိုယ်စားလှယ်စေလွှတ်ခဲ့ရာ မန္တလေးမှ ဘုရင်ခံချုပ်က ရှမ်းပြည်အရေးဖြစ်သောကြောင့် မိုင်းသောက်သို့ စေလွှတ်ပြန်သည်။ ၁၄၊ ၀၂၊ ၁၈၈၇ တွင် ကိုယ်စားလှယ်တို့သည် မိုင်းသောက်သို့ ရောက်လာခဲ့ပြီး Col: Stedman နှင့် တွေ့ဆုံဆွေးနွေးခဲ့သည်။ ကိုယ်စားလှယ်များ ပြန်သွားသောအခါ လဲချား၊ မိုင်းကိုင်၊ ကျေးသီးတို့သည် ပူးပေါင်းပြီး တော်လှန်ပုန်ကန်မှုကြီး ပေါ်ပေါက်ခဲ့သဖြင့် မြို့များ၊ ကျေးရွာများ များစွာ ပျက်စီးခဲ့ရလေသည်။ ဤကဲ့သို့ ဖြစ်ရခြင်းသည် ကာနယ်စတိတ်မန့်၏ စကားကြောင့်လော၊ မိုးနဲစော်ဘွားနှင့် လင်းပင်မင်းသားတို့ကြောင့်လော၊ စော်ဘွားများအချင်းချင်းကြောင့်လော၊ မည်သည့်အကြောင်းကြောင့်ဖြစ်စေ ထိုအရေးကို အခြေခံပြီး ၂၃၊ ၄၊ ၁၈၈၇ တွင် အင်္ဂလိပ်စစ်တပ်တို့သည် မိုင်းပွန်သို့ချီတက်လာခဲ့သည်။ အင်္ဂလိပ်စစ်တပ်တို့သည် မိုင်းသောက်မှ ရပ်စောက်ဘက်သို့ချီတက်ခဲ့ပြီး ရပ်စောက်သို့ ရောက်သောအခါ ၆၊ ၁၀၊ ၁၈၈၇ တွင် စဝ်ခွန်နု (အင်္ဂလိပ်စကားပြန်) ကို ရပ်စောက်စော်ဘွားအဖြစ်ခန့်အပ်ခဲ့သည်။ ထိုမှတစ်ဆင့် ပျက်စီးယိုယွင်းနေသော ဟိုပုံးသို့ရောက်လာပြီး မိုင်းပွန်သို့ ချီတက်လာခဲ့ရာ ၀၇၊ ၁၀၊ ၁၈၈၇ တွင် မိုင်းပွန်သို့ ရောက်ခဲ့သည်။ လမ်းတစ်လျှောက်ရှိ ကျေးရွာများ

မီးလောင်ပျက်စီးကုန်သည်ကို အင်္ဂလိပ်တို့ တွေ့ရှိခဲ့ရသည်။ ထိုအချိန်တွင် လဲချား၊ မိုင်းကိုင်နှင့် ကျေးသီးစော်ဘွားတို့၏တပ်သည် မိုင်းပွန်ကို တိုက်ခိုက်ရန် လာရောက်ဝိုင်းရံထားသည် အချိန်လည်း ဖြစ်သည်။ အင်္ဂလိပ်တို့သည် စော်ဘွားများကို ခေါ်ယူပြီး အချင်းချင်းမတိုက်ခိုက်ကြရန် ညွှန်ကြားခဲ့လေသည်။ လင်းပင်မင်းသားတို့သည် မိုးနဲသို့ တိမ်းရှောင်သွားလေသည်။[၁]

အင်္ဂလိပ်တို့သည် မိုင်းပွန်နှင့် မိုင်(၇၀) ဝေးသော မိုးနဲသို့ချီတက်လာခဲ့ရာ လမ်းတစ်လျှောက်တွင် ထွက်လှူး♥ နှင့် လဲချားစစ်သည်များ ဖျက်ဆီးထားသော ကျေးရွာပျက်များကို မြင်တွေ့ခဲ့ရသည်။ (၅၊ ၅၊ ၁၈၈၇) တွင် မိုးနဲသို့ရောက်ရှိခဲ့ပြီး မိုးနဲမြို့သည်လည်း မြို့ပျက်တစ်ခုအဖြစ် တည်ရှိနေသည်။ ပျက်စီးယိုယွင်းနေသော ရှေးဟောင်းမြို့ရိုးနှင့်အတူ ဘုန်းကြီးကျောင်း (၁၂၀) ကျော်ရှိသည့်အနက် (၃) ကျောင်းသာ မပျက်စီးပဲ ကျန်ရစ်သည်။ အိမ်ခြေပေါင်းတစ်သောင်းကျော်အနက် အိမ်ခြေ(၃၀၀)ခန့်သာ ပြန်လည်ပြုပြင်ထားသည်ကို တွေ့ရသည်။ မိုးနဲမြို့အနီး တောင်ကုန်းငယ်တစ်ခုပေါ်တွင် J.G Scott သည် လင်းပင်မင်းသားနှင့် တွေ့ဆုံခဲ့၏။ စကော့နှင့် လင်းပင်မင်းသားသည် ရန်ကုန် စိန့်ဂျွန်းကျောင်းတွင် ဆရာ

---

၁။ Saimong Mangrai (Sao), op.cit., PP.141.142.

♥။ ထွက်လှူးကို သီပေါမင်းက ကျိုင်းတောင်မြို့စားအဖြစ်ခန့်အပ်ခဲ့သည်။ ထို့နောက် မိုးနဲ စော်ဘွားစဝ်ခွန်ကြည်တို့ ကျိုင်းတုံကို ထွက်ပြေးစဉ် မိုးနဲစော်ဘွားအဖြစ် သုံးနှစ်အုပ်ချုပ်ခဲ့သည်။ လင်းပင်မင်းသားနှင့် စဝ်ခွန်ကြည်တို့ မိုးနဲကို ပြန်သိမ်းပိုက်သောအခါ ထွက်လှူးသည် ယိုးဒယားနယ်စပ်သို့ တိမ်းရှောင်သွားပြီး လူအင်အားစုဆောင်းကာ မိုးနဲကို (၃) ရက်ပြန်လည်အုပ်ချုပ်ပြီး (၉၊ ၅၊ ၁၈၈၈) ရက် အင်္ဂလိပ်တို့က ဝင်ရောက်ဖမ်းဆီးမိပြီး မိုင်းသောက်သို့ပို့ခဲ့သည်။ မိုင်းသောက်မှ မိုးနဲသို့ပြန်ပို့စဉ် မိုင်းပွန်အရောက်တွင် ထွက်ပြေးရာ အင်္ဂလိပ်စစ်သားက သေနတ်ဖြင့်ပစ်ခတ်မိ၍ သေဆုံးခဲ့သည်ဟုဆိုသည်။

တပည့်ဖြစ်ခဲ့ဖူးသဖြင့် ဆက်ဆံရေးတွင် အဆင်ပြေခဲ့ပြီး အချင်းချင်း သဘောတူညီမှု ရယူခဲ့သည်။[၁]

လင်းပင်မင်းသားသည် အင်္ဂလိပ်တို့ထံ အညံ့ခံပြီး နောက်တစ်နေ့တွင် မိုးနဲစော်ဘွား စဝ်ခွန်ကြည်သည်လည်း အင်္ဂလိပ်တို့ကို လာရောက်တွေ့ဆုံလေသည်။ စကော့သည် စဝ်ခွန်ကြည်အား မိုးနဲစော်ဘွားအဖြစ် ပြန်လည်ခန့်အပ်ခဲ့ပြီး သံလွင်မြစ်အရှေ့ဘက်ဒေသများကို စည်းရုံးပေးရန်အတွက် ကတိကဝတ်ပြုခဲ့သည်။ မိုးနဲမြို့တွင် တာဝန်ကိစ္စပြီးစီးသွားသောအခါ စကော့သည် မိုးနဲနှင့် (၂၅) မိုင်ဝေးကွာသော မောက်မယ်သို့ ချီတက်သွားလေသည်။ စကော့တို့ရောက်သွားသောနေ့၌ မနက်ပိုင်းတွင် မောက်မယ်စော်ဘွား နတ်ရွာစံချိန်ဖြစ်သဖြင့် မောက်မယ်စော်ဘွား၏ သားတော်စဝ်ခွန်ဟုံနှင့်တွေ့ဆုံပြီး စဝ်ခွန်ဟုံသည်လည်း အင်္ဂလိပ်တို့ ခန့်အပ်သော စော်ဘွားအရာကို ဆက်ခံယူလေသည်။ မောက်မယ်မှ မိုးနဲသို့ ပြန်ရောက်လာသောအခါ မိုးနဲစော်ဘွားစဝ်ခွန်ကြည်၏ တောင်းဆိုချက်အရ စကော့သည် ၁၂၊ ၀၅၊ ၁၈၈၇ အင်္ဂလိပ်တို့၏ ယူနီယံဂျက်အလံတော်ကို မိုးနဲဟော်နန်းဝင်းအတွင်းတွင် လွှင့်ထူခဲ့လေသည်။ (ယူနီယံဂျက်အလံသည် ၀၄၊ ၀၁၊ ၁၉၄၈ မြန်မာနိုင်ငံလွတ်လပ်ရေးနေ့အထိ လွှင့်ထူခဲ့သည်။) ထိုနောက် စကော့သည် လင်းပင်မင်းသားကို မိုင်းသောက်သို့ ခေါ်ဆောင်သွားပြီး ထိုမှတဆင့် ရန်ကုန်သို့ ပို့ပေးခဲ့လေသည်။ နောက်ပိုင်းတွင် အင်္ဂလိပ်တို့က လင်းပင်မင်းသားကို အိန္ဒိယသို့ ဆက်လက် ပို့သွားလေတော့သည်။[၂]

---

၁။ Saimong Mangrai (Sao), op.cit.,PP.142-144

၂။ Ibit.P.144

၄း၃ ။ အင်္ဂလိပ်တို့ ရှမ်းပြည်ကို ဒုတိယအကြိမ်သိမ်းသွင်းခြင်း

အင်္ဂလိပ်တို့သည် ရှမ်းပြည်အားလုံးကို သိမ်းသွင်းနိုင်ရန်အတွက် တောင်ပိုင်းစစ်ကြောင်းနှင့် မြောက်ပိုင်းစစ်ကြောင်းစေလွှတ်ခဲ့သည်။ မြောက်ပိုင်းစစ်ကြောင်းကို တယ်လီ Lt: Daleyက ဦးဆောင်၍ တောင်ပိုင်းစစ်ကြောင်းကို ဟေးတီဘရန်း Hikdebrand က ဦးဆောင်ပြီး ၂၂၊ ၁၁၊ ၁၈၈၇ တွင် မိုင်းသောက်မှ စတင်ထွက်ခွာသည်။ ရှမ်းပြည်မြောက်ပိုင်း မိုင်းရယ်(တောင်သိန္နီ)တွင် ပြန်လည်ဆုံတွေ့ဆုံရန်လည်း အချိန်းအချက်ပြုထားကြသည်။[၁] တောင်ပိုင်းစစ်ကြောင်းကို ဦးဆောင်သော ဟေးတီဘရန်းသည် ကရင်နီ(ကယား)ခေါင်းဆောင် ဖိုးပြာနှင့် သွားရောက်တွေ့ဆုံခဲ့သည်။ ထိုမှတစ်ဆင့် မောက်မယ်၊ မိုင်းပန်ကိုဖြတ်သန်းပြီး ယိုးဒယားနယ်မြေအုပ်ချုပ်ရေးမှူးနှင့် သွားရောက်တွေ့ဆုံခဲ့သည်။ (၇၊ ၁၊ ၁၈၈၈) တွင် မိုးနဲသို့ ရောက်လာပြီး စော်ဘွားများညီလာခံကို ကျင်းပခဲ့ရာ မိုးနဲ၊ မိုင်းပွန်၊ မိုင်းနောင်၊ မောက်မယ်၊ ဟိုပုံး၊ နမ့်ခုတ်၊ နောင်မွန်၊ ဘန်းယဉ်၊ ဆီဆိုင်၊ မိုင်းစစ်နှင့် ကျိုင်းခမ်းစော်ဘွားများ တက်ရောက်ကြသည်။ ထိုညီလာခံတွင် အခွန်စည်းကြပ်မှုကို ဆွေးနွေးတိုင်ပင်ပြီး သီပေါမင်းလက်ထက်မတိုင်မီ ကောက်ခံခဲ့သော အခွန်တော်အတိုင်း ကောက်ခံရန်အတွက် ဆုံးဖြတ်ခဲ့ကြသည်။ ထို့နောက် ရှမ်းပြည်မြောက်ပိုင်း မိုင်းရယ်သို့ ဆက်လက်ချီတက်လာခဲ့ရာ ဖြတ်သန်းလာခဲ့ရသော လဲချားနယ်၊ မိုင်းကိုင်နယ်၊ ကျေးသီးနယ်တို့သည် ပျက်စီးနေသော မြို့ရွာများကို မြင်တွေ့ခဲ့ရသည်။[၂]

ရှမ်းပြည်မြောက်ပိုင်းကို စည်းရုံးသိမ်းသွင်းနိုင်ရန်အတွက် တယ်လီသည် သီပေါသို့ စခန်းချပြီး သိန္နီစော်ဘွားခွန်ဆန်တုန်ဟုန်းအား သုံး

၁။ Saimong Mangrai (Sao), op.cit.,P.154

၂။ Ibit.PP.152-154

ကြိမ်တိုင်တိုင် စာရေးပြီး ဆင့်ခေါ်သော်လည်း ခွန်ဆန်တုန်ဟုန်းသည် အကြောင်းမပြန်ခဲ့ချေ။ (၁၊ ၁၊ ၁၈၈၈) တွင် အင်္ဂလိပ်တို့သည် နမ့်ဆန် သို့ရောက်ခဲ့သည်။ (၂၊ ၁၊ ၁၈၈၈) တွင် နမ့်ဆန်စော်ဘွားခွန်ခမ်းမျှင် သည် သားတော်အိမ်ရှေ့မင်း စဝ်နော်ခမ်းအား အာဏာလွှဲအပ်ခဲ့ပြီး အင်္ဂလိပ်တို့ကို အတွေ့မခံဘဲ ထွက်ပြေးတိမ်းရှောင်သွားလေသည်။ စဝ် နော်ခမ်းသည် အင်္ဂလိပ်တို့ထံခိုလှုံခဲ့သည်။[၁] တယ်လီသည် သိန္နီစော်ဘွား ခွန်ဆန်တုန်ဟုန်းနှင့် တွေ့ဆုံရန်အတွက် ဝိန်းကျေးသို့ လာရောက်ခဲ့သည်။ ခွန်ဆန်တုန်ဟုန်းနှင့် တွေ့ဆုံညှိနှိုင်းပြီး နောက်ပိုင်းတွင် ခွန်ဆန်တုန်ဟုန်း သည် အင်္ဂလိပ်လက်အောက်သို့ ခိုလှုံခဲ့ရလေသည်။ ခွန်ဆန်တုန်ဟုန်းကို မြောက်ပိုင်းသိန္နီစော်ဘွားအဖြစ် အင်္ဂလိပ်တို့က အသိအမှတ်ပြုခဲ့ပြီး တောင်ပိုင်းသိန္နီ (မိုင်းရယ်)စော်ဘွားကို စဝ်ဆိုင်နော်ဖအဖြစ် ခန့်အပ်ခဲ့ သည်။ အင်္ဂလိပ်တို့သည် ၁၈၈၈ ခုနှစ်မတ်လမှစ၍ ရှမ်းပြည်မြောက်ပိုင်း ကို သိမ်းသွင်းနိုင်ခဲ့လေသည်။[၂]

## ၄ း ၄ ။ အင်္ဂလိပ်တို့ ကျိုင်းတုံကို သိမ်းပိုက်ခြင်း

ကျိုင်းတုံနယ်သည် သံလွင်မြစ်၏ အရှေ့ဘက်တွင် သီးခြားနယ် မြေအဖြစ် တည်ရှိသောကြောင့် ရှမ်းပြည်တောင်ပိုင်းနှင့်မြောက်ပိုင်းတွင် စစ်မက်ဖြစ်ပွားရှုပ်ထွေးနေသော်လည်း ကျိုင်းတုံနယ်သည် အေးချမ်းသော နယ်မြေအဖြစ်တည်ရှိခဲ့သည်။ အင်္ဂလိပ်တို့သည် ရှမ်းပြည်အားလုံးကို သိမ်း သွင်းနိုင်ရန်အတွက် ကျိုင်းတုံကိုလည်း သိမ်းယူရန် စီမံကိန်းရှိခဲ့ပြီး ဖြစ်သည်။

---

၁။ Saimong Mangrai (Sao), op.cit.,P.207
၂။ Ibit.PP.159-160

၁၈၈၆ ခုနှစ် ကျိုင်းတုံစော်ဘွား စဝ်ကောင်တိုင်း နတ်ရွာစံပြီးနောက် သက်တော် (၁၈) နှစ်သာ ရှိသေးသော သားတော်စဝ်ကောင်ခမ်းဖူးသည် ကျိုင်းတုံစော်ဘွားအရာကို ဆက်ခံသည်။ (၂၉၊ ၂၊ ၁၈၉၀) တွင် ဂျေဂျီစကော့ (J.G. Scott) ဦးဆောင်သော အင်္ဂလိပ်တို့သည် မိုင်းသောက်မှ စတင်ထွက်ခွာလာခဲ့ပြီး (၁၄၊ ၃၊ ၁၈၉၀) တွင် ကျိုင်းတုံသို့ ရောက်လာခဲ့သည်။ ထိုအချိန်တွင် ကျိုင်းတုံစော်ဘွား စဝ်ကောင်ခမ်းဖူးသည် မှူးမတ်၊ စစ်သည်တော်နှင့် မြို့သူမြို့သား ၁၀၀၀ ခန့် လာရောက်ကြိုဆိုခဲ့ကြသည်။ အင်္ဂလိပ်တို့ ကျိုင်းတုံကို ရောက်ရှိသောအချိန်တွင် အေဒီ ၁၈ ရာစုအတွင်း အလောင်းဘုရားဦးအောင်ဇေယျ လက်ထက်က ဖြိုလှပ်ထားသော မြို့ရိုးပျက်များ အုတ်နီခဲအစုအပုံများ များစွာတွေ့ခဲ့ရသည်။ မြို့တံခါး ၁၀ ခုရှိသည့်အနက် အရှေ့ဘက်တံခါး ၂ ခုသာ ကောင်းမွန်နေသည်ကို တွေ့ခဲ့ရသည်။ (၂၉၊ ၃၊ ၁၈၉၀) တွင် ကျိုင်းတုံစော်ဘွား စဝ်ကောင်ခမ်းဖူးကို ဆနဒ် Sanad အာဏာလွှဲအပ်ခဲ့သည်။ ၁၊ ၄၊ ၁၈၉၀ တွင် အင်္ဂလိပ်တို့သည် ကျိုင်းတုံမှ ပြန်လည် ထွက်ခွာလာခဲ့သည်။ ကျိုင်းတုံတွင် အာဏာလွှဲအပ်ပွဲကျင်းပစဉ် မတ်လအတွင်း မိုင်းသောက်တွင်လည်း အင်္ဂလိပ်တို့ဦးစီးသော ရှမ်းပြည်တောင်ပိုင်းစော်ဘွားများ ညီလာခံတစ်ရပ် ကျင်းပခဲ့သည်။[၁] ၁၈၈၇ ခုနှစ်တွင် အင်္ဂလိပ်တို့သည် ရှမ်းပြည်ကို စတင်သိမ်းပိုက်ပြီး ၁၈၉၀ ပြည့်နှစ်တွင် ရှမ်းပြည်အားလုံးကို အင်္ဂလိပ်လက်အောက်ခံနိုင်ငံအဖြစ် သိမ်းသွင်းနိုင်ခဲ့လေတော့သည်။ အင်္ဂလိပ်တို့ ကတိပြုထားသည့်အတိုင်း စော်ဘွားများကို ၎င်းတို့၏နယ်မြေအသီးသီးအား အုပ်ချုပ်စေခဲ့သည်။

---

၁။ Hsen (Khur), op.cit.,PP.207-214

## ၄း၅။ အင်္ဂလိပ်လက်ထက် ရှမ်းနယ်မြေအုပ်ချုပ်မှုများ[၁]

အင်္ဂလိပ်တို့ရှမ်းပြည်ကိုစတင်အုပ်ချုပ်သည့်အချိန်တွင် စော်ဘွားအုပ်ချုပ်သောနယ်များမှာ -

(၁) မိုးနဲ (၂) ညောင်ရွှေ (၃) ရပ်စောက်
(၄) လဲချား (၅) မိုင်းပန် (၆) မိုင်းပွန်
(၇) မောက်မယ် (၈) မိုးဗြဲ (၉) သီပေါ
(၁၀)မြောက်သိန္နီ (၁၁)တောင်သိန္နီ(မိုင်းရယ်) (၁၂)နမ့်ဆန်
(၁၃) ကျိုင်းတုံ တို့ဖြစ်ကြသည်။

မြို့စားအုပ်ချုပ်သောနယ်များမှာ-

(၁) မိုင်းနောင် (၂)မိုင်းရှုး (၃) ကျေးသီးမန်စံ
(၄) မိုင်းစစ် (၅)ဆီဆိုင် (၆) နမ့်ခုတ်
(၇) နောင်မွန် (၈)ဘန်းယဉ် (၉) စကွယ်
(၁၀) ကျိုင်းခမ်း (၁၁)ကျိုင်းလိန် (၁၂) ပင်လောင်း
(၁၃) ဟိုပုံး (၁၄)မိုင်းစန် (၁၅) မိုင်းကိုင်
(၁၆) စကား တို့ဖြစ်ကြသည်။

ငွေခွန်မှူးအုပ်ချုပ်သောနယ်များမှာ-

(၁) ပင်းတယ (၂) သာမိုင်ခမ်း (၃) ပွေးလှ (၄) ကျုံး
(၅) ပန်မိ (၆) မော် (၇) မော်နန် (၈)ဘော်ဆိုင်း
(၉) နမ့်ခွန် (၁၀)လွယ်မော (၁၁) နမ့်တုတ် (၁၂)ကျောက်ဂူ
(၁၃) လွယ်အင် (၁၄) နမ့်ချယ် တို့ဖြစ်ကြသည်။

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.292-3

၄း၆။ ဝန်းသိုစော်ဘွား ဦးအောင်မြတ် (၁၂၂၃-၁၃၆)

ရှမ်းပြည်မှ ရှမ်းစော်ဘွားများကို အင်္ဂလိပ်တို့က အနုနည်းဖြင့် စည်းရုံးသိမ်းသွင်းခဲ့ပြီး ရှမ်းပြည်အားလုံးသည် အင်္ဂလိပ်လက်အောက်သို့ လွယ်လင့်တကူ ကျရောက်ခဲ့ရလေသည်။ ရှမ်းစော်ဘွားများအနက် နယ်ချဲ့အင်္ဂလိပ်တို့ကို သူ့ကျွန်မခံလိုသော စိတ်ဓာတ်ဖြင့် ရွပ်ရွပ်ချွံချွံ ပြန်လည်ခုခံတိုက်ခိုက်ခဲ့သော စော်ဘွားကြီးကား ဝန်းသိုစော်ဘွားကြီး ဦးအောင်မြတ်ပင်ဖြစ်သည်။ ဝန်းသိုသည် ရှမ်းရှေးဟောင်း မြို့တစ်မြို့ ဖြစ်ခဲ့သည်။ (ရှမ်းအခေါ်မှာ "ဝိန်းဆော"ဖြစ်သည်။ 'ဝိန်း=မြို့။ ဆော=ကျား။ 'ကျားမြို့' ဟု အဓိပ္ပါယ်ရှိသည်။)

ဦးအောင်မြတ်ကို ၁၂၂၃ ခုနှစ် တပို့တွဲလဆန်း ၁၁ ရက်တွင် အဖ မင်းလှသမန္တရန်အောင်ဘွဲ့ခံ စစ်ကဲဦးရွှေသား အမိ ဒေါ်ခွေးဖြူ ခေါ် သုဝဏ္ဏကာယဒေဝီတို့မှ ဖွားမြင်သည်။ ငယ်စဉ်က ဝန်းသိုဆရာတော် ဦးဂုဏထံတွင် စာပေကျမ်းဂန်များ သင်ယူ၍ သာမဏေဘောင်သို့ ဝင်ခဲ့သည်၊ အရွယ်ရောက်လျှင် သူ၏ဆန္ဒအတိုင်း ဖခင်ဖြစ်သူက ကင်းဝန်မင်းကြီး ဦးကောင်းထံတွင် အပ်နှံ၍ ထီးသုံးနန်းသုံး တရားဥပဒေပညာရပ်များနှင့်တကွ အုပ်ချုပ်မှုရေးရာများကို သင်ကြားခဲ့သည်၊ သီပေါမင်းထံတွင်လည်း ကွမ်းရေတော်ကိုင်အဖြစ် အမှုထမ်းရသည်။[၁]

၁၈၈၁ ခုနှစ် မြန်မာသက္ကရာဇ် ၁၂၄၃ ခုနှစ် နှောင်းတန်ခူးလ ပြည့်ကျော် ၃ ရက်နေ့တွင် သီပေါမင်းက ဦးအောင်မြတ်အား "မဟာဝံသသိရိဓယ သိုဟုံဘွား" ဟူသောဘွဲ့ကို ပေးသနားတော်မူပြီး ဝန်းသိုစော်ဘွား အဖြစ်ထင်ရှားလာခဲ့သည်။ ထိုအချိန်တွင် ဝန်းသိုစော်ဘွားသည် သက်တော် ၂၃ နှစ်သာရှိသေးသည်။ နောက်တစ်နှစ်တွင် မိုးညှင်းဒေသ

---

[၁] မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၂၊ ဝန်းသိုစော်ဘွား၊ နှာ၊ ၄၄၁

တစ်လျှောက်၌ ဗိုလ်ဝခေါင်းဆောင်သော သူပုန်များထကြွလေသည်၊ လူအင်အား သုံးထောင်ကျော်လေးထောင် နီးပါးရှိသောသူပုန်တို့ကို အင်အားနှစ်ထောင်မျှလောက်သော အင်အားစုနှင့် ဦးအောင်မြတ်သည် အောင်မြင်စွာနှိမ်နင်းနိုင်ခဲ့ရုံမက သူပုန်ဗိုလ် ဗိုလ်ဝကိုလည်း အသေဖမ်းမိခဲ့ရာ သီပေါမင်းကိုယ်တိုင် အားရတော်မူလှသဖြင့် "မောရိယမဟာဝံသ သီရိသုမင္ဂလာဇာဘွဲ့" ကို ချီးမြှင့်ခြင်းခံခဲ့သည်။ ၁၈၈၅ ခု၊ အင်္ဂလိပ်မြန်မာ တတိယစစ်ပွဲဖြစ်ပွားခဲ့ပြီး သီပေါမင်း ပါတော်မူသွားသောအခါ ဝန်းသိုစော်ဘွားသည် အင်္ဂလိပ်တို့ကို တိုက်ခိုက်ရန်အတွက် လူအင်အား လက်နက်အင်အား စုဆောင်းထားခဲ့သည်။ ကင်းဝန်မင်းကြီးထံမှ အင်္ဂလိပ်တို့အားမတိုက်ခိုက်ရန် အမိန့်လွှာတစ်စောင် ရောက်လာရာ အဖကဲ့သို့လည်းကောင်း၊ ဆရာသမားကဲ့သို့လည်းကောင်း လေးစားအပ်သော အမိန့်ဖြစ်သဖြင့် ခက်ထန်သော စစ်စိတ်စစ်မာန်တို့သည် ရေရှည်သည့် မီးခဲကိုပြာဖုံးသကဲ့သို့ဖြစ်ခဲ့ရသည်။ အင်္ဂလိပ်လက်အောက်သို့ကား ဝင်ရောက်ခြင်းမပြုဘဲ သစ်လုပ်ငန်း၊ စပါးလုပ်ငန်းများကိုသာ လုပ်ကိုင်၍နေလေသည်။[၁]

ဦးအောင်မြတ်၏ သစ်လုပ်ငန်းကို ခြယ်လှယ်လိုသော အင်္ဂလိပ်အရာရှိ အချို့က ဦးအောင်မြတ်သည် စီးပွားရေးကို ဖိဖိစီးစီးလုပ်ကိုင်၍ ငွေကြေးစုဆောင်းကာ တော်လှန်ပုန်ကန်ရန် အကြံရှိသည်ဟု အင်္ဂလိပ်အရာရှိကြီးများအား ကုန်းချောစကားပြောဆိုကြသည်။ ဦးအောင်မြတ်ကို နေပြည်တော်သို့ ခေါ်ယူစစ်ဆေးလိုကြောင်း ကင်းဝန်မင်းကြီးအား အကြောင်းကြားစေခဲ့ရာ ဝန်းသိုစော်ဘွားက အင်္ဂလိပ်မင်းနှင့်တကွ အင်္ဂလိပ်မင်းကိုယ်စားလှယ်တို့ကိုလည်း အရိုအသေမပြုတော့ကြောင်း အကြောင်းပြန်လိုက်သည်။ ဝန်းသိုပတ်ဝန်းကျင်၌ သစ်တပ်မြို့ရိုးများ ဆောက်ခြင်း

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၂၊ ဝန်းသိုစော်ဘွား၊ နှာ၊ ၄၄၂

ကင်းတပ်များအထပ်ထပ်ချခြင်း၊ လူသူလက်နက်စုဆောင်းခြင်း ပြုလုပ်ခဲ့သည်။ မက္ခရာမင်းသားကြီး၏ သားတော်ထိပ်တင်ရန်ပိုင်နှင့် မှူးမတ်တစ်စုသည် အင်္ဂလိပ်တို့အား တိုက်ခိုက်ရာမှ ရှုံးနိမ့်၍ ဝန်းသိုစော်ဘွား၏ဖခင် ဦးရွှေသား၏ အကူအညီဖြင့် ယူနန်ပြည်နယ်သို့ ဆုတ်ခွာသွားခဲ့ရာ ဦးရွှေသားကို တော်လှန်ပုန်ကန်မှု အားပေးသူ ဟုဆိုပြီး အင်္ဂလိပ်အစိုးရတို့က ဖမ်းဆီးရန် အမိန့်ထုတ်ထားလေသည်။ ဦးအောင်မြတ်သည် ဖခင်ရှိရာ မိုးကောင်းသို့ သွားရောက်၍ အခြေအနေကို ဆွေးနွေးခဲ့သည်။ အင်္ဂလိပ်တို့သည် ဦးအောင်မြတ်တို့၏ သားအဖကို မဖမ်းသေးဘဲ ကင်းဝန်မင်းကြီးကို ဖျောင်းဖျနားချရန် စေလွှတ်လိုက်သည်။ ၎င်းအပြင် ဦးအောင်မြတ်၏ ယ်ဆရာ ဝန်းသိုဆရာတော်ဦးဂုဏမှတစ်ဆင့် ဝန်းသိုစော်ဘွားနှင့် စေ့စပ်ပြန်သည်။ သို့သော် အင်္ဂလိပ်တို့ ကျွန်အဖြစ်မခံလို၊ အင်းအားပြည့်လာသည့်တစ်နေ့ မန္တလေးကို တိုက်ခိုက်ယူပါမည်ဟု ဆရာတော်အား လျှောက်ထားလေသည်။ ၁၈၉၀ ပြည့်နှစ်တွင် အင်္ဂလိပ်အစိုးရသည် ချွန်းတောင်မြို့အုပ်နှင့် အခွန်ဝန်ဦးစံတို့ကို စစ်တပ်တစ်တပ်နှင့် စေလွှတ်လိုက်သည်။[၁]

ဝန်းသိုစော်ဘွား ဦးအောင်မြတ်သည် အင်္ဂလိပ်တို့လွှတ်လာသောတပ်များကို မှန်ကင်းတောင်စခန်းမှ ဆီးကြိုတိုက်ခိုက်ရာ အင်္ဂလိပ်တပ်များ ကောလင်းမြို့သို့ ဆုတ်ခွာခဲ့ရသည်။ ထိုတိုက်ပွဲတွင် အင်္ဂလိပ်ဗိုလ်တစ်ဦးနှင့် တပ်သားသုံးဦးကျဆုံးခဲ့သည်။ အရေးနိမ့်သွားသော အင်္ဂလိပ်တပ်များကို ကူညီရန်အတွက် ၁၂၅၂ ခုတပေါင်းလဆန်း ၁၃ ရက်တွင် ကသာမှ ဗိုလ်နစ်စဗက်ဦးဆောင်သော အမှတ် ၂၀ ခြေလျင်တပ်ရင်းနှင့် ရွှေဘိုမှ ဗိုလ်ကြီးကေရီဦးဆောင်သော မြင်းတပ်များရောက်ရှိလာသဖြင့် ကော

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၂) ဝန်းသိုစော်ဘွား နှာ ၄၄၂-၄၄၃

လင်းမြို့သို့ ပြန်၍ချီတက်လာကြပြန်သည်။ ဝန်းသိုစော်ဘွားတပ်နှင့် မိုးကောင်းတပ်တို့အတူ ကောလင်းသို့ချီတက်ပြီး အင်္ဂလိပ်တို့ကို ခုခံတိုက်သည်။ လူသူအင်အားမမျှသဖြင့် အင်္ဂလိပ်တပ်များကို တောတွင်းသို့မျှားခေါ်ပြီး တိုက်ခိုက်ခဲ့သည်။ ယင်းတိုက်ပွဲတွင် နှစ်ဘက်စလုံးမှ အကျအဆုံးများသည့်အပြင် ဒဏ်ရာရသူများလည်း များစွာရှိခဲ့သည်။ ဝန်းသိုစော်ဘွားတပ်များ ဆုတ်ခွာခဲ့သော်လည်း အကြိမ်ကြိမ်ပြန်လည်တိုက်ခိုက်မှုများပြုလုပ်၍ တိုက်ခိုက်သဖြင့် နယ်မြေဒေသတစ်ဝိုက်၌ တိုက်ပွဲများ ဆက်လက်ဖြစ်ပွားခဲ့သည်။ အင်္ဂလိပ်တို့သည် ရွှေဘိုမှ နောက်ထပ်တပ်များကိုပင် စစ်ကူခေါ်ယူခဲ့ကြရသဖြင့် ဝန်းသိုတပ်များသည် တဖြည်းဖြည်းဆုတ်ခွာရင်း ကျိုင်းခွင်တောင်ကုန်းတွင် တပ်စွဲထားသည်။ ဤကျိုင်းခွင်တိုက်ပွဲတွင် နှစ်ဘက်စလုံး အပျက်အစီးများခဲ့သည်။[၁]

ကျိုင်းခွင်မှဆုတ်ခွာလာခဲ့ကြပြီး ဥက္ကံမြို့အနီးရှိ မိုးနန်းကျောင်းတိုက်ပွဲတွင် ဝန်းသိုတပ်သား (၂၇) ယောက်ကျဆုံးခဲ့သည်။ အင်္ဂလိပ်စစ်ဗိုလ်ကြီး ဟတ်ချင်ဆန်လည်း ဦးခေါင်းတွင် ပြင်းထန်စွာ ဒဏ်ရာရပြီးမကြာမီပင် သေဆုံးခဲ့ရသည်။ အင်္ဂလိပ်တပ်သားခုနစ်ယောက်ပြင်းထန်စွာ ဒဏ်ရာရခဲ့ပြီး တစ်ဦးကျဆုံးခဲ့သည်။ လက်နက်အင်အား၊ လူအင်အားချင်းမမျှသော်လည်း သူ့ကျွန်မခံလိုသော မျိုးချစ်စိတ်ဓာတ်ဖြင့် ဝန်းသိုစော်ဘွားသည် အင်္ဂလိပ်တို့ကို ဝန်းသို၊ ကောလင်း၊ မိုးကောင်း၊ ပင်လည်ဘူး၊ မိုးညှင်းစသော ဒေသများမှ အပြင်းအထန် တော်လှန်တိုက်ခိုက်ခဲ့သည်၊ မဲဇာချောင်းနားရှိ မန်လောင်၊ မန်စီဒေသများတွင်လည်း အင်္ဂလိပ်တို့နှင့် အကြိမ်ကြိမ်တိုက်ပွဲများ ပြင်းထန်စွာဖြစ်ပွားခဲ့သည်။ စော်ဘွားကြီးသည် လူသူလက်နက် အနည်းငယ်ဖြင့် တစ်နှစ်နီးပါး အားမလျှော့ဘဲ တိုက်ခိုက်

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၂) ဝန်းသိုစော်ဘွား နှာ ၄၄၂။

ခဲ့သည်။ အင်္ဂလိပ်အစိုးရသည် စော်ဘွားကြီးကို ထိုအချိန်အထိ သူပုန်ဟု မကြေညာဘဲ သူတို့ဘက်ဝင်လာလျှင် အချိန်အခါမရွေးလက်ခံ၍ ရာထူးများပင် ပေးမည်ဟု စကားကမ်းလှမ်းမြဲ ကမ်းလှမ်းလျက်ရှိသည်။ သို့ရာတွင် အင်္ဂလိပ်တို့ မည်သို့ပင် ချော့မော့ခေါ်ယူသည်ဖြစ်စေ စကားမပြန်ခဲ့ချေ။ နောက်ဆုံးတွင် မန်စီအနီး၌ ဝန်းသိုစော်ဘွားကြီး၏ တပ်များကို အင်္ဂလိပ်တို့ ဝိုင်းမိသောအခါ အင်္ဂလိပ်စစ်တပ်နှင့် အတူတကွပါလာသော မြတောင်မြို့စားက စကားကမ်းလှမ်းလာခဲ့ရာ ရာထူးမက်၊ ဥစ္စာမက်၊ စိတ်မခိုင်သူများ သစ္စာဖောက်ကာ အင်္ဂလိပ်ဘက်သို့ တစ်စတစ်စ ဝင်သွားကြသည်ကတစ်ကြောင်း၊ မိုးဥတုကျလာသဖြင့် နောက်လိုက်နောက်ပါများ ငှက်ဖျားရောဂါဖြစ်လျက် စိတ်ဓာတ်ကျဆင်းလာကြသည်ကတစ်ကြောင်းကြောင့် ဝန်းသိုစော်ဘွားသည် အင်္ဂလိပ်တို့နှင့် အတိုက်အခိုက်ရပ်စဲရန် ဆုံးဖြတ်လိုက်လေသည်။ သို့ရာတွင် အင်္ဂလိပ်လက်အောက်သို့ ကျွန်အဖြစ်မဝင်လိုသဖြင့် ဖခင်ရှိရာ တရုတ်ပြည်သို့ ထွက်ခွာသွားတော့မည်ဟု အကြောင်းပြန်ခဲ့သဖြင့် မြတောင်မြို့စားက အေးရန်ကင်းရှင်းသော တရုတ်ပြည်ထွက်လမ်းကို အလံစိမ်းလွှင့်ပြသဖြင့် ၁၂၅၃ ခုနှစ်တွင် ထိုလမ်းအတိုင်းထွက်လာခဲ့သည်။ မိုးညှင်းမှ ဘိလူးမြို့၊ ယင်းမှတိုင် နန့်ဆော်လော်၊ ထိုမှတစ်ဆင့် တရုတ်ပြည် စန်းတာမြို့သို့ ဝင်လေသည်။ စန်းတာမြို့မှ စန်းတာစော်ဘွားက ကောင်းစွာကြိုဆို၍ နေရာထိုင်ခင်းများ ချပေးသည်။ မြန်မာသက္ကရာဇ် ၁၂၇၈ ခုတွင် ဖခင်ဖြစ်သူ မိုးကောင်းစော်ဘွား ဦးရွှေသားသည် စန်းတာတွင် အနိစ္စရောက်ခဲ့သည်။[၁]

ဝန်းသိုစော်ဘွားကြီးသည် အကယ်၍ အင်္ဂလိပ်လက်အောက်အညံ့ခံလျှင် ရာထူးရာခံနှင့် ချမ်းသာစွာနေရမည်ဖြစ်သော်လည်း သူ့ကျွန်

[၁] မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၂) ဝန်းသိုစော်ဘွား နှာ ၄၄၁။

မခံလိုသော စိတ်ဓာတ်ကြောင့် စည်းစိမ်ချမ်းသာကို စွန့်လွှတ်ပြီး စန်းတာတွင် ဆေးဆရာလုပ်၍ သမာအာဇီဝဖြင့် အသက်မွေးခဲ့သည်။ စော်ဘွားကြီးသည် ယူနန်နယ် မိုင်းလှတွင် ၁၉ နှစ်၊ စန်းတာမြို့တွင် ၁၃ နှစ်နေထိုင်ခဲ့သည်။ အသက်အရွယ်ကြီးရင့်လာပြီ ဖြစ်သောကြောင့်တစ်ကြောင်း၊ ဝန်းသိုစော်ဘွားကတော် မဟာဒေဝီစဝ်ရွှေကြည်၏ ဦးရီးတော်ဖြစ်သူ ညောင်ရွှေစော်ဘွား ဆာစဝ်မောင်တို့က ကိုယ့်ရပ်ကိုယ့်ဒေသသို့ ပြန်နေပါရန် လျှောက်ထားတောင်းပန်သောကြောင့်တစ်ကြောင်း၊ မြန်မာနိုင်ငံဘုရင်ခံကလည်း စော်ဘွားကြီးအား စိတ်မပြိုပြင်စေရပါ။ မြန်မာနိုင်ငံသို့ ပြန်ရောက်သောအခါ၌လည်း အထောက်အပံ့ငွေကိုပင် ပေးပါဦးမည်ဟု ညောင်ရွှေစော်ဘွားကြီး ဆာစဝ်မောင်မှတစ်ဆင့် ပြောကြားလာသောကြောင့်တစ်ကြောင်း ၁၂၈၅ ခု နှောင်းတန်ခူးလဆန်း ၈ ရက်နေ့တွင် ရှမ်းပြည်နယ် တောင်ကြီးမြို့သို့ ရောက်ရှိလာ၍ ဟော်ကုန်းရပ်ကွက်ရှိ သထုံဟော်တွင် နေထိုင်သည်။ သထုံဟော်၌ပင် မဟာဒေဝီ စဝ်ရွှေကြည်သည် အသက် ၇၁ နှစ်တွင် အနိစ္စရောက်ခဲ့သည်။ ဝန်းသိုစော်ဘွားကြီးကို အင်္ဂလိပ်အစိုးရတို့က တစ်လလျှင် ထောက်ပံ့ကြေးငွေ ၁၀၀ ကျပ်ပေးလေသည်။ ညောင်ရွှေစော်ဘွားဆာစဝ်မောင်၊ စဝ်ရွှေသိုက်တို့သည်လည်း ဝန်းသိုစော်ဘွားကြီးကို ထောက်ပံ့ခဲ့သည်။ ဒုတိယကမ္ဘာစစ်ဖြစ်၍ မြန်မာနိုင်ငံသို့ ဂျပန်များ ဝင်လာသည့်အခါလည်း အင်္ဂလိပ်အစိုးရကဲ့သို့ပင် တစ်လလျှင် ငွေ ၁၀၀ ကျပ်ထောက်ပံ့ခဲ့ရာ ဂျပန်တို့ထွက်ပြေးသည့်အချိန်အထိဖြစ်သည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးရသောအခါ ၁၉၅၀ ပြည့်နှစ် အောက်တိုဘာလမှစ၍ ဝန်းသိုစော်ဘွားနှင့် သခင်ကိုယ်တော်မှိုင်းတို့ကို မြန်မာအစိုးရက ကျေးဇူးဆပ်သည့်အနေဖြင့် တစ်လလျှင် ထောက်ပံ့ကြေး ၅၀၀ ကျပ်စီပေးခဲ့သည်။ မြန်မာသက္ကရာဇ် ၁၃၂၆ ခု နတ်တော်လဆန်း ၉ ရက်နေ့တွင် စော်ဘွားကြီး၏ လွတ်လပ်ရေးတိုက်ပွဲ

သမိုင်းဝင်ပစ္စည်းများကို သားဦးခွန်ဆက်က တပ်မတော်မော်ကွန်းတိုက် ကိုယ်စား အရှေ့ပိုင်းတိုင်းစစ်ဌာနချုပ်ဦးစီး ဒုဗိုလ်မှူးကြီးတင်ညွန့်လက်သို့ ပေးအပ်ခဲ့ရာ ယခုအခါ ရန်ကုန်မြို့ရှိ တပ်မတော်မော်ကွန်းတိုက်၌ ပြသထားလေသည်။ မြန်မာသက္ကရာဇ် ၁၃၂၆ ခု ပြာသိုလဆန်း ၃ ရက် ခရစ်နှစ် ၁၉၆၅ ခုနှစ် ဇန်နဝါရီလ ၅ ရက်နေ့တွင် ဝန်းသိုစော်ဘွားကြီး ဦးအောင်မြတ်သည် တောင်ကြီးမြို့၌ အသက် ၁၀၃ နှစ်အရွယ်တွင် ကွယ်လွန်အနိစ္စ ရောက်ခဲ့လေသည်။[၁]

၄း၇။ အင်္ဂလိပ်ခေတ် ရှမ်းပြည် နယ်မြေသတ်မှတ်ခြင်း[၂]

ရှေးခေတ်က တရုတ်၊ လော၊ ထိုင်းနှင့် ရှမ်းပြည်တို့သည် တိကျသော နယ်မြေသတ်မှတ်ချက်များ မရှိခဲ့သေးပေ။ အင်္ဂလိပ်လက်ထက်တွင် ရှမ်းပြည်ကို အိမ်နီးချင်းနိုင်ငံများနှင့် အောက်ပါအတိုင်း သတ်မှတ်ကြသည်ကို တွေ့ရလေသည်။

၁၈၉၀ ပြည့်တွင် မောက်မယ်၊ မိုင်းပန်နှင့်ကရင်နီနယ်(ကယားနယ်)များနှင့် စပ်လျဉ်း၍ အင်္ဂလိပ်နှင့် ယိုးဒယားအဖွဲ့ဝင်များ ပါဝင်သော ကော်မရှင်တစ်ခုကို ဖွဲ့စည်း၍ ထိုနယ်နိမိတ်ကို ပိုင်းခြားသတ်မှတ်ကာ ယိုးဒယားမပိုင်တော့သောအပိုင်းမှ ယိုးဒယားတပ်များကို ရုပ်သိမ်းစေသည်။

၁၈၉၂ ခုတွင် အင်္ဂလိပ်နှင့်တရုတ်တို့ နယ်မြေသတ်မှတ်ပိုင်းခြားခဲ့ကြရာ ဆစ်ဆောင်ပန်းနားသည် တရုတ်နိုင်ငံထဲတွင် ပါဝင်သွားသည်။ ကျိုင်းဟုန်နှင့် မိန်းလျဉ်းသည် တရုတ်ပြည်ထဲ ပါဝင်သွားခဲ့သည်။

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၂) ဝန်းသိုစော်ဘွား နှာ ၄၄၂-၄၄၅
၂။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.295-302

၁၈၉၄ ခုနှစ်၊ ဧပြီလတွင် အင်္ဂလိပ်နှင့် ထိုင်းတို့က ကျိုင်းတုံနယ်မြေနှင့် ထိုင်းနိုင်ငံကိုပိုင်းခြားရာ၌ နမ့်ဟုတ်ချောင်းကို နယ်ခြားအဖြစ် သတ်မှတ်ကြသဖြင့် ကျိုင်းသေဉ်သည် ထိုင်းနိုင်ငံတွင် ပါဝင်သွား၏၊

၁၈၉၄ ခုနှစ် အောက်တိုဘာလ ၁၇ ရက်တွင် ဘန်ကောက်၌ အင်္ဂလိပ်အစိုးရနှင့် ထိုင်းဘုရင်မင်းမြတ်တို့သည် ထိုင်းနိုင်ငံ နယ်မြေ သတ်မှတ်ရေးကို ဆွေးနွေးခဲ့ကြသည်။

၁၈၉၄-၉၅ ခုတွင် အင်္ဂလိပ်နှင့် ပြင်သစ်တို့က မဲခေါင်မြစ်ကို လောနိုင်ငံနှင့် ရှမ်းပြည်နယ်နိမိတ်အဖြစ် သတ်မှတ်ခဲ့ပြီး မဲခေါင်မြစ် အနောက်ဘက်ကမ်းကို ကျိုင်းတုံနယ်အတွင်းသို့ သွတ်သွင်း၍ အရှေ့ဘက်ကမ်းကို လောနိုင်ငံ (ယခင် ပြင်သစ်ပိုင် အင်ဒိုချိုင်းနား) အတွင်းသို့ သွတ်သွင်းခဲ့သည်။

၁၈၉၇-၁၉၂၂ ခုတွင် အင်္ဂလိပ်တို့က ရှမ်းပြည်ကို မြန်မာနိုင်ငံ၏ ပြည်နယ်တစ်ခုအဖြစ်သတ်မှတ်ပြီး အတိုင်ပင်ခံအဖွဲ့ဖြင့်အုပ်ချုပ်ခဲ့၏၊

၁၉၂၀ ခုနှစ်တွင် အင်္ဂလိပ်တို့က သောင်သွတ်၊ ကလေး၊ ဝန်းသို၊ ဆင်ကလိုင်း၊ ခန္တီတို့ကို စစ်ကိုင်းတိုင်းထဲသို့ ထည့်သွင်းခဲ့သည်။ (မိုးညှင်း၊ မိုးကောင်းသည် ဘိုးတော်ဘုရားလက်ထက် ၁၇၈၂-၁၈၁၉ ကတည်းက မြန်မာနိုင်ငံထဲသို့ ပါဝင်ခဲ့ပြီးဖြစ်သည်။)

၄ း ၈ ။ မြန်မာမင်းလက်ထက် ရှမ်းပြည်အုပ်ချုပ်ရေးကဏ္ဍ

ရှမ်းပြည်နယ်များသည် မြန်မာမင်းတို့၏ သစ္စာတော်ခံနယ်များ ဖြစ်ခဲ့သော်လည်း အစောပိုင်းတွင် စံနစ်တကျ အုပ်ချုပ်ခြင်းကိုမူ မခံခဲ့ရပေ။ သို့သော် မြန်မာမင်းတို့အား အခွန်ပဏ္ဏာများကိုမူ ဆက်သကြရ လေသည်။ သာလွန်မင်းလက်ထက် ခရစ်နှစ် ၁၆၃၇ ခုနှစ်တွင် နိုင်ငံတော်၏ လူဦးရေ၊ အိမ်ခြေ၊ မြေအကျယ်အဝန်း၊ ထွက်သည့်သီးနှံ၊ ပေးဆောင်

ရသည့် အခွန်အတုတ်တို့ကို စစ်ဆေးမှတ်တမ်းတင်ရာ ရှမ်းနယ်များ ကလည်း စစ်တမ်းများပေးရသည်။ ကုန်းဘောင်မင်းဆက်မင်းများတွင် အလောင်းမင်းတရားလက်ထက်မှတစ်ပါး အခြားမင်းများလက်ထက်တွင် ရှမ်းနယ်များကို အုပ်ချုပ်ပုံမှာ နယ်ကြီးများတွင် စော်ဘွားထားသည်၊ နယ်လတ်များတွင် မြို့စား၊ နယ်ငယ်များတွင် ငွေမှူးနှင့်မှူးများထားသည်၊ မြန်မာနယ်ကြီးများကို အုပ်ချုပ်ရသော ဘုရင်ခံများနှင့် စော်ဘွားအလား တူသည်၊ ရှမ်းမြို့စားနှင့် မြန်မာမြို့စား အလားတူသည်။ သီပေါမင်းလက် ထက်တွင် ရှမ်းနယ်များအတွက် တပ်ရုံးသုံးရုံးထား၍ ခွဲခြားသတ်မှတ်အုပ် ချုပ်ရာ ထိုတပ်ရုံးများမှာ သိန္နီတပ်ရုံး၊ မိုးနဲတပ်ရုံး၊ မိုးဗြဲတပ်ရုံး ဟူ၍ဖြစ် သည်။ ထိုတပ်ရုံးသုံးရုံးပိုင်နယ်များတွင် စော်ဘွား၊ မြို့စား၊ မြို့ဝန်၊ မြို့အုပ် တို့အပေါ် မြန်မာအရာရှိကြီးသုံးဦးထား၍ အုပ်ချုပ်စေသည်။ ထိုအရာရှိ ကြီးများသည် စစ်ဗိုလ်များဖြစ်စေ၊ ဝန်ကြီး၊ ဝန်မှူး၊ ဝန်ထောက်ဖြစ်စေ ယင်းတို့နှင့် အဆင့်အတန်းတူ အရာရှိများဖြစ်စေ ခန့်ထား၍ ခန့်ထားခံ ရသူသည် ဆိုင်ရာတပ်ရုံးသို့ သွားရောက်နေထိုင်ရသည်။ မြန်မာလက် အောက်ခံ ရှမ်းနယ်များအတော်ကလေး ကျဉ်းသေးစဉ်က ကျိုင်းရုံ၊ ကျိုင်း တုံ၊ ကျိုင်းသေဉ်ကြီး၊ မိုင်းလျဉ်းကြီးများတွင် တပ်ရုံး၊ တပ်ဦးစီးချုပ် သီးခြား ထား၍ အုပ်ချုပ်ခဲ့သော်လည်း သီပေါမင်းလက်ထက်တွင် မဲခေါင်မြစ် အရှေ့ဘက်ကို လက်လွှတ်ရုံမက သံလွင်မြစ်အနောက်ဘက် ရှမ်းနယ် များတွင် တပ်ရုံးများမထားတော့ချေ။ မင်းတုန်းမင်းလက်ထက်တိုင်အောင် ကျိုင်းရုံ၊ ကျိုင်းတုံ၊ ကျိုင်းချိုင်းနယ်တို့က သုံးနှစ်တစ်ကြိမ်၊ နှစ်နှစ်တစ် ကြိမ်၊ တစ်နှစ်တစ်ကြိမ် အခွန်ပဏ္ဏာများ ဆက်သမြဲဆက်သခဲ့သော်လည်း သီပေါမင်းလက်ထက်တွင်မူ မဆက်သတော့ချေ။[၁]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁)၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၈၉-၃၉၀

အထက်တွင်ဖော်ပြခဲ့သော တပ်ရုံးသုံးရုံးသည် မြန်မာမင်းပြဖအခါ ရှမ်းနယ်အားလုံးကို အုပ်ချုပ်သည်မဟုတ်၊ တောင်ပိုင်၊ မိုးမိတ်၊ ဝန်းသို၊ သောင်သွပ်၊ ကလေးမြို့များကို စော်ဘွားထားသော်လည်း ဦးတိုက်ထမ်း မှတ်သား၍ သီးခြားဆင့်ဆိုအုပ်ချုပ်သည်။ စော်ဘွားမထားတော့သော မိုးညှင်း၊ မိုးကောင်း၊ ဗန်းမော်စသောမြို့များကို မြန်မာမြို့ရွာများတွင် အပါအဝင်ပြု၍ အဝေးမြို့ဝန်များ ခန့်ထားအုပ်ချုပ်လေသည်။[၁]

တပ်ရုံးများတွင် သွားရောက်နေထိုင်အုပ်ချုပ်ရသော မြန်မာအရာရှိကြီးများကို စစ်ကဲတော်ကြီးဟုခေါ်သည်။ ထိုစစ်ကဲတော်ကြီးများကို ဗိုလ်မှူးတစ်ဦးက တစ်ဖန်အုပ်ချုပ်ရသည်။ ထိုဗိုလ်မှူးများ အုပ်ချုပ်ရာတွင် မင်းညီမင်းသား ဝန်ထောက်များကို ခန့်ထားလေ့မရှိသဖြင့် ဗိုလ်မှူးမင်းသား ဟုခေါ်သည်။ ထိုဗိုလ်မှူးမင်းသားသည် အချက်အချာကျသော မိုးနဲမြို့တွင် ရုံးစိုက်လေသည်။ ဗိုလ်မှူးမင်းသားလက်အောက်တွင် တပ်သား ၁၀၀၀ ခန့်ပါသော တပ်ရှိ၍ ထိုတပ်ကို စစ်ကဲတော်ကြီး၊ နားခံကြီး၊ ဗိုလ်မားရဲစသော အရာရှိများက ဆင့်ကဲဆင့်ကဲ အုပ်ချုပ်ရလေသည်၊ စော်ဘွားများလည်း ဓားပိုင်သည်ဖြစ်၍ အမိန့်တော်မခံဘဲ လူသတ်နိုင်၏။ သို့သော် ဗိုလ်မှူးမင်းသားသည် စော်ဘွားများအထက်ကဖြစ်လေသည်။[၂]

မြန်မာမင်းများက စော်ဘွားများအား ပဒေသရာဇ်မင်းငယ်များ အနေနှင့် ခွင့်ပြုခဲ့သဖြင့် စော်ဘွားတို့သည် ပဒေသရာဇ်မင်းငယ်များ၏ အဆောင်အယောင် အစီးအနင်းများကို အသုံးပြုနိုင်ကြပြီးလျှင် ပဒေသရာဇ်မင်းငယ်များကဲ့သို့ ပြုမူနေထိုင်ခဲ့ကြသည်။ စော်ဘွားတို့သည် မိမိအရိုက်အရာကို ဆက်ခံရန် သားတော်၊ ညီတော်၊ တူတော်များအနက်မှ သင့်လျော်ရာတစ်ဦးကို ထီးရုံနန်းရုံအဖြစ် ရွေးချယ်ထား၍ ယင်းကို

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၉၀။
၂။ ၎င်း၊စာ၊

"ကျမိုင်း" ဟုခေါ်သည်။ ဗြိတိသျှအစိုးရလက်ထက်တွင်မူ ကျမိုင်းအဖြစ် ရွေးချယ်ထားသူကို ဝန်ရှင်တော်မင်းကြီးနှင့် ဘုရင်ခံတို့ သဘောတူညီချက် ရပြီးမှသာလျှင် ခန့်ထားနိုင်လေသည်။[၁]

၄း၉ ။ အင်္ဂလိပ်မင်းလက်ထက် ရှမ်းပြည်အုပ်ချုပ်ရေးကဏ္ဍ

မြန်မာနိုင်ငံ ဗြိတိသျှတို့ သိမ်းပိုက်ပြီးနောက် ၁၈၈၆ ခုနှစ်၊ မေလ (၄) ရက်နေ့တွင် ရှမ်းနယ်ကို အိန္ဒိယပြည်နယ်အဖြစ် သိမ်းပိုက်ကြောင်း ဗြိတိသျှအစိုးရက ကြေညာသည်။ ၁၈၈၇ ခုနှစ်တွင် ရှမ်းနယ်များကို အောက်ပါအတိုင်း ပိုင်းခြားအုပ်ချုပ်သည်။

(၁) ရှမ်းပြည်မြောက်ပိုင်း
(ရှမ်းပြည်ဥတ္တရတိုင်းဝန်ရှင်တော်မင်းကြီး လက်အောက်ခံ )
(၂) ရှမ်းပြည်တောင်ပိုင်း
(ဒက္ခိဏတိုင်း ဌာနချုပ်ဝန်နှင့် နိုင်ငံအရေးအရာရှိ လက်အောက်ခံ)
(၃) မြေလတ်ပိုင်း
(ဒက္ခိဏတိုင်း ဌာနချုပ်ဝန်နှင့် နိုင်ငံရေးအရာရှိ လက်အောက်ခံ)

ဟူ၍ဖြစ်သည်။[၂]

၁၉၂၂ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် ရှမ်းနယ်များကို "ပဒေသရာဇ် ရှမ်းပြည်နယ်စု" ဟု ခေါ်တွင်စေရန် ဘုရင်ခံချုပ်က ထုတ်ပြန်ကြေညာသည်။ မြောက်ပိုင်း၊ တောင်ပိုင်းနှင့် မြေလတ်ပဒေသရာဇ် ရှမ်းနယ်များဟူ၍ အောက်ပါအတိုင်း ခွဲခြားပြီးလျှင် နယ်၏အကျယ် အဝန်းကိုလိုက်၍ စော်ဘွား၊ မြို့စား၊ နယ်စားများအား အသီးသီး အုပ်ချုပ်စေသည်။[၃]

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၉၀။
၂။ ၎င်း၊စာ။
၃။ ၎င်း၊စာ။

၄း၉း၁။ မြောက်ပိုင်းစော်ဘွားအုပ်ချုပ်သော နယ်များ

(၁) သီပေါနယ် (၂) တောင်ပိုင်နယ်
(၃) မြောက်သိန္နီနယ် (၄) တောင်သိန္နီနယ်
(၅) မိုးမိတ်နယ် (၆) မိုင်းလွန်းနယ် တို့ဖြစ်ကြလေသည်။[၁]

၄း၉း၂။ တောင်ပိုင်းစော်ဘွားအုပ်ချုပ်သော နယ်များ

(၁) ကျိုင်းတုံနယ် (၂) မိုးနဲနယ်
(၃) ညောင်ရွှေနယ် (၄) မိုးဗြဲနယ်
(၅) ရပ်စောက်နယ် (၆) လဲချားနယ်
(၇) မောက်မယ်နယ် (၈) မိုင်းပန်နယ်
(၉) မိုင်းပွန်နယ် (၁၀) စံကားနယ်
(၁၁) မိုင်းကိုင်နယ် တို့ဖြစ်ကြသည်။[၂]

စော်ဘွားနယ်များမှာ နှစ်စားရှိသည်။ စော်ဘွားကြီးနှင့် စော်ဘွားဟုခွဲခြားပြီးလျှင် မောက်မယ်နယ်၊ မိုင်းပန်နယ်၊ မိုင်းပွန်နယ်၊ စံကားနယ်နှင့် မိုင်းကိုင်နယ်များကို ဟော်နန်းမပိုင်၊ ရာဇပလ္လင်နှင့် စော်ဘွားရာထူး ရရှိကြသည်။

၄း၉း၂း၁။ တောင်ပိုင်း မြို့စားနယ်များ

(၁) နမ့်ခုတ်နောင်မွန်နယ် (၂) မိုင်းနောင်နယ်
(၃) ဘောနယ် (၄) ကျေးသီးမန်စံနယ်
(၅) ပင်လောင်းနယ် (၆) သထုံ (ဆီဆိုင်နယ်)
(၇) ဘန်းယဉ်နယ် (၈) ဟိုပုန်းနယ်
(၉) စကွယ်နယ် (၁၀) သာမိုင်းခမ်းနယ်
(၁၁) မိုင်းရှူးနယ် (၁၂) ပွေးလှနယ်

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁) ရှမ်းပြည်နယ်၊ နှာ၊ ၃၉၀။
၂။ ၎င်းစာ။



တိုင်းခေါင် (ခေါ် ) ရှမ်းဖြူ (ဗီယက်နမ်)



တိုင်းခေါင် (ဗီယက်နမ်)



တေး လူဦးရေ (၁) သန်းခွဲရှိပြီး
ဗီယက်နမ်တိုင်းရင်းသား ၅၃ မျိုးတွင် ဒုတိယအများဆုံးဖြစ်





"ထို" အမျိုးသား (ဝဲ) နှင့် "ထို" အမျိုးသမီး (ယာ)
(ဗီယက်နမ် မြောက်ပိုင်း တရုတ်နယ်စပ်တွင် နေထိုင်သည်)





ဗီယက်နမ်ရှိ လူး (ဝဲ) နှင့် လော (ယာ) ပုံ



ဗီယက်နမ်ရှိ ရှမ်းနက်တို့၏ နာမည်ကြီး ယပ်တောင်အက



တိုင်းလမ် (ခေါ်) ရှမ်းနက်



နန်းစီ (ဗီယက်နမ်)



ခန္တီးရှမ်းတို့၏ နိုးစေတီတော်



ရှမ်းလူမျိုးတို့၏ နိုးဘုရား



ရှမ်းလူမျိုးတို့၏ နိုးဘုရား (လားရှိုး)



ရှမ်းလူမျိုးတို့၏ နိုးဘုရား (သီပေါ)





ဝတ်ချိုင်းမွန်ကွန်း၊ အယုဒ္ဒယမြို့ဟောင်း (ထိုင်းစေတီပုံ)



ဖထတ်လုံစေတီတော် (လောစေတီပုံ)



ဆစ်ဆောင်ပန်းနား (လှူးရှမ်းစေတီပုံ)



လားရှိုးမြို့နယ်ရှိ မိုင်းယော်စေတီတော်
(စေတီများကို တစ်နေရာတည်း စုပေါင်းတည်ခြင်းသည် ရှမ်းထုံးစံဖြစ်သည်)





လားရှိုးမြို့နယ် ဟန်နားဟောင်းလွှမ်ရွာရှိ
ဖရားကစ်နတ် (ခေါ်) နဂါးကြေးခွံသက်န်းဘုရား



နန်ချောင်မင်းများ
ကိုးကွယ်ခဲ့သည့်
ဗောဓိသတ္တ(ဘုရားလောင်း)





ရှမ်းများ သွန်းလောင်းပူဇော်သည့် ဆင်းတုတော်

၄း၉း၂း၂။ မြေလတ် ငွေခွန်မှူးအုပ်ချုပ်သောနယ်

(၁) ရွာငံနယ်

(၂) ပင်းတယနယ်

(၃) ပင်မှိုနယ်

(၄) ကျုံးနယ် တို့ဖြစ်ကြသည်။[၁]

ရှမ်းပြည်မြောက်ပိုင်းမှ ကိုးကန့်နယ်သည် မြို့စားနယ်ဖြစ်သည်။ ယခင်က သိန္နီစော်ဘွားလက်အောက်ခံ နယ်တစ်နယ်ဖြစ်ခဲ့သော်လည်း ဒုတိယကမ္ဘာစစ် မတိုင်မီကာလတွင် အကြောင်းကြောင်းတို့ကြောင့် ဗြိတိသျှအစိုးရတို့က မြောက်သိန္နီစော်ဘွားအား ထိုနယ်ကို အုပ်ချုပ်ခွင့် မပြုတော့ပေ။ ဒုတိယကမ္ဘာစစ်ပြီးကာလတွင်မူ သီးခြားမြို့စားနယ်တစ်နယ် အဖြစ် ထားရှိခဲ့သည်။ နယ်သူနယ်သားများသည် များသောအားဖြင့် တရုတ်လူမျိုးများသာလျှင်ဖြစ်ကြ၍ မြို့စားသည် ရှမ်းတရုတ်အနွယ်ဖြစ်လေသည်။ နယ်များ၏ အကျယ်အဝန်းသည် အမျိုးမျိုးအစားစားဖြစ်ရာ ကျိုင်းတုံနယ်သည် အကြီးဆုံးဖြစ်၍ စတုရန်းမိုင် ၁၂၀၀၀ ကျော်ကျယ်ဝန်းသော်လည်း အငယ်ဆုံးဖြစ်သော ကျုံးနယ်သည် ၂၄ စတုရန်းမိုင်မျှသာ ရှိလေသည်။ ဗြိတိသျှအစိုးရတို့၏ မြောက်ပိုင်းဌာန ရုံးစိုက်မြို့ဖြစ်သော လားရှိုး၊ တောင်ပိုင်းဌာနချုပ်ဖြစ်သော တောင်ကြီး နွေရာသီစခန်းမြို့များဖြစ်သော ကလောနှင့် လွိုင်ကော်မြို့များသည် ပဒေသရာဇ်ရှမ်းနယ်များအတွင်း တည်ရှိသော်လည်း ဗြိတိသျှအစိုးရ အရာရှိကြီး/ငယ်များ နေထိုင်ရာမြို့များဖြစ်သဖြင့် စော်ဘွား၊ မြို့စားတို့ အုပ်ချုပ်ပိုင်ခွင့်မရှိချေ။ ပြည်မရှိ မြို့ကြီးများကဲ့သို့ မြို့၏စည်ပင်သာယာရေးကို မြို့ပြကော်မတီများက အုပ်ချုပ်သည်။ ထိုမြို့များ၏ မြူနီစီပယ် ရေိယာအတွင်း၌ ပြည်မ၏ ရာဇဝတ်ကျင့်ဥပဒေများ၊ တရားမဥပဒေများအပြင် ရှမ်းပြည်

---

[၁] မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁) ရှမ်းပြည်နယ်၊ နှာ၊ ၃၉၁။

ဓလေ့ဥပဒေများဖြင့် အသီးသီး စိုးမိုးခဲ့ကြသည်။[၁]

မြို့စားနှင့် ငွေခွန်မှူးများသည် တရားမနှင့်ရာဇဝတ်တရားစီရင်ရေး အခွင့်အာဏာတွင် ဒုတိယတန်း တရားသူကြီး အဆင့်အတန်းမျှသာရှိသည်။ အချို့စော်ဘွားနယ်ကြီးများတွင် ဆိုင်ရာနယ်ရှင်ကို ကူညီရန် အမတ်ချုပ်ကြီး (ရာဇဝတ်မှု၊ တရားမအပါအဝင်) တရားရေးရာဌာနအမတ်၊ အခွန်တော်ဌာနအမတ်၊ နယ်ဝန်၊ ငွေတိုက်ဝန်စသည်ဖြင့် လစာရိက္ခာစားအရာရှိများ ခန့်ထားသည်။ ထို့ပြင် ရိုးရာအစဉ်အဆက်အားဖြင့် ခန့်ထားရသည့် ဟိန်၊ ထမုံ၊ ကျယ်စသော သူကြီးအဆင့်အတန်းမျိုးရှိသည့် ကျေးလက်ပိုင်းမှ အုပ်ချုပ်သူ အကြီးအကဲများလည်း ရှိပေသေးသည်။[၂]

၁၉၂၂ ခုနှစ်တွင် ပဒေသရာဇ် ရှမ်းပြည်နယ်စုကို ဖွဲ့စည်းပြီးနောက် ပဒေသရာဇ်ကောင်စီအဖွဲ့ကို တည်ထောင်သည်။ ကောင်စီအဖွဲ့၏ ဥက္ကဋ္ဌသည် တောင်ပိုင်းရှမ်းပြည်နယ်၏ ဌာနချုပ်ဝန်ဖြစ်သော ဝန်ရှင်တော်မင်းကြီးဖြစ်၍ ဒုတိယဥက္ကဋ္ဌသည် မြောက်ပိုင်းဌာနချုပ်ဝန်ဖြစ်သည်။ ယင်းတို့သည် ဗြိတိသျှအစိုးရကို ကိုယ်စားပြုသော အကြီးမြင့်ဆုံး ဗြိတိသျှအရာရှိကြီးများ ဖြစ်သည်။ စော်ဘွား၊ မြို့စား၊ ငွေခွန်မှူးများသည် ထိုအဖွဲ့၌ အဖွဲ့ဝင်များအဖြစ် ပါဝင်ကြလေသည်။ မြန်မာပြည်အား ဒိုင်အာခီအုပ်ချုပ်ရေးစနစ်ဖြင့် ပြောင်းလဲ အုပ်ချုပ်သောအခါ ဗြိတိသျှအစိုးရသည် ပဒေသရာဇ်ရှမ်းနယ်များအား မတိုးတက်သေးသော နယ်များအဖြစ် ဆက်လက်ထားရှိကာ မြန်မာပြည်တွင်းသို့ မသွတ်သွင်းခဲ့ပေ။ သို့သော် ရှမ်းနယ်များ အုပ်ချုပ်ရေးအတွက် ပြည်မ၌ ၉၁ ဌာနအုပ်ချုပ်ရေး ရရှိလာသည်အထိ ပြည်မ၏ ငွေကြေးအထောက်အပံ့ကို အမှီပြုခဲ့ရလေသည်။[၃]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၉၀-၃၉၂
၂။ ၎င်းစာ။
၃။ ၎င်းစာ။

## ၄း၁၀။ ဒုတိယကမ္ဘာစစ်မီးနှင့် ရှမ်းပြည်

၁၉၁၄ ခုနှစ်မှ ၁၉၁၈ ခုနှစ်တိုင်အောင် ဖြစ်ပွားခဲ့သော ပထမကမ္ဘာစစ်ကြီးမှာ နိုင်ငံအများအပြား ပါဝင်သည့် စစ်ပွဲကြီးပင်ဖြစ်သော်လည်း ကမ္ဘာတစ်ဝှမ်းလုံးရှိ နိုင်ငံတိုင်း၊ လူမျိုးတိုင်းကို ထိခိုက်ခြင်းမရှိခဲ့ချေ။ ၁၉၃၉ ခုနှစ်မှ ၁၉၄၅ ခုနှစ်တိုင်အောင် ဖြစ်ပွားသော ဒုတိယကမ္ဘာစစ်ကြီးမှာမူ နိုင်ငံတကာသို့ ကူးစက်ပျံ့နှံ့ခဲ့လေသည်။ ပထမကမ္ဘာစစ်မှာ ကမ္ဘာအနှံ့အပြားသို့ မကူးစက်ဘဲ ဥရောပတိုက်တစ်တိုက်တွင်သာ အသဲမဲဆုံး ဖြစ်ခဲ့သော်လည်း ဒုတိယကမ္ဘာစစ်မှာကား တောင်အမေရိကတိုက်မှလွဲ၍ တစ်ကမ္ဘာလုံးသို့ ကူးစက်ပျံ့နှံ့ခဲ့သည်။ ၁၉၃၉ ခုနှစ် ဂျာမန်တို့က ပိုလန်ကို ဝင်ရောက်တိုက်ခိုက်သိမ်းပိုက်ခြင်း၊ အီတလီက အီသီယိုးပီးယားနိုင်ငံကို ဝင်ရောက်တိုက်ခိုက်ခြင်း၊ စပိန်နိုင်ငံ၌ ပြည်တွင်းစစ်ဖြစ်ပွားခြင်း ဂျပန်က တရုတ်နိုင်ငံကို ရန်စကျူးကျော်တိုက်ခိုက်ခြင်း စသည်တို့ကြောင့် ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွားလာခဲ့သည်။[၁]

ဗိုလ်ချုပ်အောင်ဆန်း ဦးဆောင်သော ရဲဘော်သုံးကျိပ်*တို့သည် ဖော်မိုဆာကျွန်းနှင့် ဟိုင်နန်ကျွန်းတွင် ဂျပန်တို့ထံ စစ်ပညာသင် ယူခဲ့သည်။ ၁၉၄၁ ခု ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ယိုးဒယားသို့ ရောက် လာသော

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁)ကမ္ဘာစစ်(ဒုတိယ) နှာ ၊ ၄၂၁-၄၂၂။

*၊ ရဲဘော်သုံးကျိပ်တွင် ပါဝင်သော ဗိုလ်မိုးညို၊ ဗိုလ်သန်းတင်(သခင်သန်းတင်၊ ထိုင်ဝမ်တွင်ကွယ်လွန်) ၊ ဗိုလ်စောအောင်နှင့် ဗိုလ်စောနောင်တို့သည် ရှမ်းလူမျိုးများဖြစ်ကြသည်၊ ဗိုလ်စောအောင်နှင့် ဗိုလ်စောနောင်၏ အမည်ကို ဗိုလ်ချုပ်အောင်ဆန်းက မှည့်ပေးခဲ့ကြောင်း၊ ဖော်မိုဆာကျွန်း၌ စစ်သင်တန်းတက်ရောက်စဉ် ရှမ်းညီနောင်နှစ်ဦးသည် ရှမ်းသိုင်းများကပြခဲ့ရကြောင်း သူတို့၏အကြောင်းကို ၁၉၉၇ ခုနှစ်ထုတ် "ရွှေရတု ရှမ်းပြည်နယ်မဂ္ဂဇင်း Golden Jnbilee Shan State Magazine}၌ အမျိုးသားစာပေဆုရ ဒေါက်တာစိုင်းစံတိုက် ရေးသားသည့် "ရှမ်းပြည်နယ်မှား ပြည်ထောင်စုသားကောင်းများ" စာမျက်နှာ၊ ၄၅-၄၈တွင် ဖော်ပြထားသည်ကို ဖတ်ရှုရသည်။

အခါ ဗမာ့လွတ်လပ်ရေးတပ်မတော် (ဘီ၊ အိုင်၊ အေ)ကို ဖွဲ့စည်းခဲ့သည်။ ထိုတပ်မတော်ကြီးတွင် ဝင်ရောက်ကြသူများကား ရှေးယခင်ကပင် နယ်ချဲ့ မျက်နှာဖြူများကို စိတ်အနာကြီးနာ၍ ယိုးဒယားနိုင်ငံသို့ တိမ်းရှောင် သွားကြပြီးလျှင် အိုးအိမ်ထူထောင်လျက်ရှိကြသော မြန်မာများ နောက်မှ ရောက်ကြသော မြန်မာများ၊ မြန်မာတို့ကို ညီရင်းအစ်ကိုတစ်မျှ ချစ်ခင် လိုလားကြသော ယိုးဒယားများ၊ ရှမ်းယိုးဒယားများ၊ ရှမ်းတရုတ်များ၊ ရှမ်းဗမာများ အစရှိသည်တို့ဖြစ်ကြသည်။ ဘီ၊ အိုင်၊ အေတပ်သည် ဂျပန် တို့နှင့်အတူ မြန်မာနိုင်ငံထဲသို့ဝင်လာပြီး အင်္ဂလိပ်တို့ကို တိုက်ထုတ်ရာ အင်္ဂလိပ်တို့သည် အိန္ဒိယသို့ ဆုတ်ခွာကြရသည်။[၁]

၁၈ ၊ ၀၄ ၊ ၁၉၄၂ တွင် ဂျပန်တို့သည် လားရှိုးမြို့ကို သိမ်းပိုက် နိုင်ခဲ့သည်။ ဂျပန်တို့သည် ရှမ်းပြည်ကို သိမ်းပိုက်နိုင်ခဲ့ပြီးနောက် ယိုးဒယား နှင့် ကတိကဝတ်ပြုထားသည့်အတိုင်း ၇၊ ၇၊ ၁၉၄၃ တွင် ကျိုင်းတုံနယ်ကို ယိုးဒယားတို့ ပိုင်ဆိုင်ခွင့်ပေးခဲ့လေသည်။ ၀၁ ၊ ၀၈ ၊ ၁၉၄၃ တွင် ဂျပန်တို့က မြန်မာနိုင်ငံအား အတုအယောင် လွတ်လပ်ရေးပေးခဲ့သည်။ ဖက်ဆစ်ဝါဒကို မနှစ်သက်ကြသောကြောင့် ရှမ်းမျိုးချစ်ခေါင်းဆောင်နှင့် တိုင်းသူပြည်သားအချို့တို့သည် မဟာမိတ်တပ်တို့နှင့် ဆက်သွယ်ပြီး ဖက် ဆစ်တော်လှန်ရေးကို တက်ကြွစွာ ပါဝင်ဆင်နွှဲခဲ့ကြသည်။ ထင်ရှားသော ပုဂ္ဂိုလ်များမှာ စဝ်ထွန်းရင် (နောင်မွန်)၊ စဝ်ဆိုင်မိန်း (ကျိုင်းတုံ)နှင့် စဝ်အုံ (သိန္နီ)တို့ဖြစ်ကြသည်။ ၁၉၄၅ ခု ဩဂုတ်လတွင် ဂျပန်တို့က လက်နက်ချ ခဲ့သဖြင့် ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသွားခဲ့ရသည်။[၂]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ <u>မြန်မာ့တပ်မတော်</u>၊ နှာ၊ ၃၁
၂။ Hsen (Khur). op,cit..PP.320-322

## ၄း ၁၁ ။ ဒုတိယကမ္ဘာစစ် နောက်ပိုင်းကာလ ရှမ်းပြည်

### အခြေအနေ

ဒုတိယကမ္ဘာစစ်ကြီးအပြီးတွင် မြန်မာနိုင်ငံလွတ်လပ်ရေးအတွက် ကြိုးပမ်းသောအခါ ရှမ်းအမျိုးသားတို့သည်လည်း မြန်မာပြည်ဖွား အခြား တိုင်းရင်းသားများနည်းတူ သွေးစည်းညီညွတ်စွာဖြင့် ပူးပေါင်းဆောင်ရွက် ခဲ့ကြသည်။ ၁၉၄၇ ခုနှစ် ဖေဖော်ဝါရီလ ၇ ရက်နေ့၌ ပဒေသရာဇ်ကောင် စီကို ဖျက်သိမ်း၍ လူထုကိုယ်စားလှယ်များပါဝင်သော ရှမ်းပြည်နယ် ကောင်စီအဖြစ်သို့ ကူးပြောင်းသောအချိန်ကာလ သတ်မှတ်နိုင်ခဲ့သော နေ့ထူးနေ့မြတ်ကြီးကို "ရှမ်းအမျိုးသားနေ့"ဟု ခေါ်တွင်ခဲ့သည်။ လွတ်လပ် သော ပြည်ထောင်စုမြန်မာနိုင်ငံတော် ပေါ်ပေါက်ရန် စတင်ပန္နက်ချသော နေရာသည် ရှမ်းပြည်တောင်ပိုင်း ပင်လုံမြို့ကလေးပင်ဖြစ်သည်။ ပြည်မ ခေါင်းဆောင်များနှင့် တောင်တန်းဒေသခေါင်းဆောင်များသည် တိုင်းရင်း သား သွေးစည်းညီညွတ်ရေးအတွက် ညီလာခံကျင်းပပြီးလျှင် လွတ်လပ် သော ပြည်ထောင်စုမြန်မာနိုင်ငံတော်ကြီး ထူထောင်ရန် သဘောတူ ကြောင်း ၁၉၄၇ ခုနှစ် ဖေဖော်ဝါရီလ ၁၂ ရက်နေ့၌ လက်မှတ်ရေးထိုး ခဲ့ကြရာ ပြည်ထောင်စုစိတ်ဓာတ်ပေါ်ပေါက်ခဲ့သည့် ထိုနေ့ထူးနေ့မြတ်ကို "ပြည်ထောင်စုနေ့" အဖြစ် သတ်မှတ်ခဲ့လေသည်။ လွတ်လပ်ရေး ရအံ့ ဆဲဆဲတွင် မသမာသူတို့၏ လက်ချက်ဖြင့် ဗိုလ်ချုပ်အောင်ဆန်းအမှူးပြု သော အမျိုးသားခေါင်းဆောင်ကြီးများ ကျဆုံးရာ၌ ရှမ်းအမျိုးသား မိုင်းပွန် စော်ဘွားကြီးစဝ်စံထွန်းလည်း ပါဝင်ခဲ့လေသည်။[၁]

၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့တွင် မြန်မာနိုင်ငံသည် လွတ်လပ်သော အချုပ်အခြာအာဏာပိုင် သမ္မတနိုင်ငံဖြစ်လာသောအခါ

---

[၁] မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်။ နှာ၊ ၃၉၂-၃၉၅

ညောင်ရွှေစော်ဘွားကြီး စဝ်ရွှေသိုက်အား ပြည်ထောင်စု မြန်မာနိုင်ငံ၏ အထွတ်အထိပ် ပထမဆုံးသမ္မတအဖြစ် တင်မြှောက်ခဲ့ကြလေသည်။[၁]

မြန်မာနိုင်ငံ လွတ်လပ်ပြီးသည့်နောက်တွင် အုပ်ချုပ်ပုံစနစ် ပြောင်းလဲခဲ့ရာ ရှမ်းနယ်များအုပ်ချုပ်ရေးလည်း ပုံစံပြောင်းခဲ့သည်။ "ပဒေသရာဇ်ရှမ်းပြည်နယ်"ဟု မခေါ်တွင်တော့ဘဲ ရှမ်းနယ်များတွင် ဝနယ်များကိုပါ ပူးပေါင်းထည့်သွင်းကာ "ရှမ်းပြည်နယ်" ဟု ခေါ်တွင်စေပြီးလျှင် ပြည်ထောင်စု၏ ပြည်နယ်တစ်ခုအဖြစ်ဖြင့် အခြေခံဥပဒေ အပိုဒ် ၅ အရ သတ်မှတ်ပေးလိုက်လေသည်။ ပြည်ထောင်စု၏ ပြည်နယ်တစ်ခု ဖြစ်လာပြီးသည့် နောက်တွင် ရှမ်းပြည်နယ်အုပ်ချုပ်ရေးအတွက် ရှမ်းပြည်နယ်ကောင်စီဟူ၍ ဖွဲ့စည်းကာ အုပ်ချုပ်ရေးအသွင်ပြောင်းလိုက်သည်။ ထိုကောင်စီသည် ပြည်နယ်၏ ပါလီမန်ကလေးဖြစ်သည်။ ယင်းတွင် ရှမ်းပြည်နယ်ကို ကိုယ်စားပြုသော လူမျိုးစုလွှတ်တော်အမတ် ၂၅ ဦးနှင့် ရှမ်းပြည်နယ်၏ လူဦးရေအလိုက် ပြည်သူ့လွှတ်တော်သို့ ရွေးကောက်တင်မြှောက်ခံရသော အမတ် ၂၅ ဦးပါဝင်သည်။ ကောင်စီ၏ ဥက္ကဋ္ဌကို ပြည်ထောင်စုဝန်ကြီးချုပ်က ပြည်နယ်ကောင်စီနှင့် တိုင်ပင်၍ ခန့်အပ်သည်။ ပြည်နယ်ဥက္ကဋ္ဌသည် ပြည်ထောင်စုအစိုးရအဖွဲ့တွင် ရှမ်းပြည်နယ်ဆိုင်ရာ ဝန်ကြီးဖြစ်လေသည်။ ပြည်နယ်ကောင်စီသည် ပြည်နယ်ဆိုင်ရာ ဥပဒေများကို ပြုစု၍ ပြည်နယ်ဆိုင်ရာအုပ်ချုပ်ရေး၊ လုံခြုံရေး၊ ပညာရေး၊ ကျန်းမာရေး၊ တရားစီရင်ရေး၊ ဒေသန္တရအုပ်ချုပ်ရေး စသည်တို့ကို ဆောင်ရွက်ရသည်။ နိုင်ငံခြားရေးနှင့် ဆက်သွယ်ရေး၊ လမ်းပန်းဆက်သွယ်ရေး စသည်တို့ကိုမူ ပြည်ထောင်စုအစိုးရ ဆောင်ရွက်လေသည်။[၂]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁) ရှမ်းပြည်နယ်၊ နှာ ၃၉၂။
၂။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁) ရှမ်းပြည်နယ်၊ နှာ ၃၉၂-၃၉၃

ပြည်ထောင်စု အခြေခံဥပဒေရေးဆွဲစဉ်က ရှမ်းစော်ဘွားများ၏ ပဒေသရာဇ်အာဏာ အခွင့်အရေးနှင့် အုပ်ချုပ်ရေးနယ် အပိုင်းအခြားတို့ကို ဗြိတိသျှလက်ထက်ကအတိုင်း ထားရှိခဲ့သည်။ လူမျိုးစုလွှတ်တော်သို့ တင်မြှောက်သော ရှမ်းပြည်အမတ်များကို စော်ဘွားအချင်းချင်း ရွေးကောက်တင်မြှောက်ခွင့်ပြုခဲ့လေသည်။ ထို့ကြောင့် ရှမ်းပြည်နယ်အုပ်ချုပ်ရေးသည် နယ်ရှင်စော်ဘွားများသာလျှင် လွှမ်းမိုးကြီးစိုးရာ ဖြစ်ခဲ့သည်။ လွတ်လပ်ရေးမရမီကလည်း စော်ဘွားကြီးများက ခေါင်ဆောင်၍ စော်ဘွားအသင်းဟူ၍ တည်ထောင်ပြီးလျှင် မြို့စားများ၊ ငွေခွန်မှူးများကိုပါ စော်ဘွားအဆင့်အတန်းသို့ သိမ်းသွင်းခြင်းအလို့ငှါ နယ်ရှင်များအားလုံး "စဝ်ဖလုံ"ဟု ခေါ်တွင်စေရန် သတ်မှတ်ခဲ့လေသည်။[၁]

ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း ပြည်မ၌ ဒီမိုကရေစီနည်းအရ အုပ်ချုပ်လျက်ရှိနေစဉ် ရှမ်းပြည်နယ်တွင် ပဒေသရာဇ်စနစ်တည်တံ့နေခြင်းသည် ခေတ်နှင့်မလျော်ညီခဲ့ပေ။ ထို့ကြောင့် ရှမ်းပြည်နယ်၌ ဒီမိုကရေစီစနစ်ကို သွတ်သွင်းရန် ပြည်ထောင်စုအစိုးရနှင့် ပြည်နယ်အစိုးရတို့ ဆွေးနွေးလာခဲ့ရာ ၁၉၅၂ ခုနှစ်တွင် နယ်ရှင်စော်ဘွားများက အုပ်ချုပ်ရေးအာဏာကို စွန့်လွှတ်ရန် သဘောတူညီခဲ့ကြသော်လည်း အကြောင်းကြောင်းတို့ကြောင့် အာဏာစွန့်လွှတ်ရေးသည် အကောင်အထည်မပေါ်ခဲ့ပေ။ ၁၉၅၉ ခုနှစ်တွင် ဗိုလ်ချုပ်ကြီးနေဝင်း၏ အိမ်စောင့်အစိုးရလက်ထက်၌ နယ်ရှင်စော်ဘွားများသည် အုပ်ချုပ်ရေး အာဏာစွန့်လွှတ်ကြောင်းကို ထိုနှစ် ဧပြီလ ၂၄ ရက်နေ့တွင် လက်မှတ်ရေးထိုး၍ ၂၇ ရက်နေ့တွင် ရှမ်းပြည်နယ်ကောင်စီက အတည်ပြုလိုက်ခြင်းကြောင့် ပြည်နယ်တွင် ရာစုနှစ်ပေါင်းများစွာ အမြစ်တွယ်ခဲ့သော ပဒေသရာဇ်စနစ်ကို ဖြုတ်တောက်၍ ပြည်သူ့အုပ်ချုပ်ရေးပန္နက်ကို စိုက်ထူလိုက်ကြ

[၁] မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁) ရှမ်းပြည်နယ်၊ နှာ ၃၉၃။

လေသည်။ ယင်းသို့ စော်ဘွားများအာဏာစွန့်လွှတ်ပြီးနောက် အောက်ပါအတိုင်း ခရိုင်၊ ခရိုင်ခွဲ၊ မြို့နယ်များဟူ၍ ပိုင်းခြားပြီးလျှင် ပြည်မကဲ့သို့ အုပ်ချုပ်ရေးစနစ်များ ထွင်လိုက်လေသည်။[၁]

ရှမ်းပြည်မြောက်ပိုင်းတွင် အောက်ပါတို့ပါဝင်သည်။

(၁) လားရှိုးခရိုင်-

(၁) မြောက်သိန္နီနယ် (ရုံးစိုက်-လားရှိုးမြို့)

(၂) တောင်သိန္နီနယ်

(၂) ကျောက်မဲခရိုင်-

(၁) သီပေါနယ် (ရုံးစိုက်-ကျောက်မဲမြို့)

(၂) တောင်ပိုင်နယ်

(၃) မိုးမိတ်နယ်

(၃) ရှမ်းပြည်အရှေ့မြောက်-

(၁) ကိုးကန့်နယ်

(၂) မိုင်းလွန်းနယ်

(၃) ဝနယ်များ

လားရှိုးခရိုင်နှင့် ကျောက်မဲခရိုင်ကို ပေါင်းစပ်၍ ရှမ်းပြည်မြောက်ပိုင်းတိုင်းဟူ၍ သတ်မှတ်ကာ အထူးတိုင်းမင်းကြီးတစ်ဦးက ဆိုင်ရာခရိုင်ဝန်၊ နယ်ပိုင်စသော အုပ်ချုပ်ရေး အရာရှိများဖြင့် ကြပ်မတ်အုပ်ချုပ်သည်။ လာရှိုးမြို့သည် အထူးတိုင်းမင်းကြီး၏ ရုံးစိုက်မြို့ဖြစ်လေသည်။[၂]

ရှမ်းပြည်တောင်ပိုင်း၏ ခရိုင်နှင့် နယ်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁) ရှမ်းပြည်နယ်၊ နှာ ၃၉၃။
၂။ ၎င်းစာ။

(၁) တောင်ကြီးခရိုင် (ရုံးစိုက်-တောင်ကြီးမြို့)
(၁) ညောင်ရွှေနယ်၊
(၂) ရပ်စောက်နယ်၊
(၃) မိုင်းပွန်နယ်၊
(၄) စံကားနယ်၊
(၅) နန်းခုတ်နယ်၊
(၆) နောင်မွန်နယ်၊
(၇) လွယ်လုံနယ်၊
(၈) သထုံနယ် (ဆီဆိုင်)
(၉) ဘန်းယဉ်နယ်
(၁၀) စကွယ်နယ်
(၁၁) ဟိုပုံးနယ်
(၁၂) သာမိုင်ခမ်းနယ်
(၁၃) ပွေးလှနယ်
(၁၄) ဘော်နယ်
(၁၅) ရွာငံနယ်
(၁၆) ပင်းတယနယ်
(၁၇) ပင်မှီနယ်
(၁၈) ကျုံးနယ်

(၂) လွိုင်လင်ခရိုင် (ရုံးစိုက်-လွိုင်လင်မြို့)
(၁) မိုင်းနဲနယ်
(၂) မိုင်းပန်နယ်
(၃) မောက်မယ်နယ်

(၄) မိုင်းကိုင်နယ်
(၅) မိုင်းနောင်နယ်
(၆) မိုင်းရှူးနယ်
(၇) ကျေးသီးမန်စံနယ်
(၈) လဲချားနယ်
(၉) ရေဦးနယ်

(၃) ရှမ်းပြည်အရှေ့ပိုင်းခရိုင်

(၁) ကျိုင်းတုံနယ် ဟူ၍ဖြစ်သည်။ ၁၉၆၀ ပြည့်နှစ် ဇန်နဝါရီလ ၂ ရက်နေ့တွင် ဝနယ်ကို နယ်ခြားဒေသ အုပ်ချုပ်ရေးအဖြစ် ထားရှိပြီး ပြည်ထောင်စုအစိုးရက တိုက်ရိုက်အုပ်ချုပ်ခဲ့သည်။ ၁၉၆၃ ခုနှစ် ဇန်နဝါရီလ ၁ ရက်နေ့တွင် ရှမ်းပြည်အရှေ့ပိုင်းခရိုင် ကျိုင်းတုံနယ် ကိုလည်း နယ်ခြားဒေသအုပ်ချုပ်ရေးကဲ့သို့ လွှဲအပ်ပြီးလျှင် ကျိုင်းတုံခရိုင် နှင့် တာချီလိတ်ခရိုင်ဟူ၍ ပိုင်းခြားလိုက်လေသည်။[၁]

တောင်ကြီးခရိုင်နှင့် လွယ်လင်ခရိုင်တို့ကို ပေါင်းစပ်၍ ရှမ်းပြည် တောင်ပိုင်းဟု သတ်မှတ်ကာ တိုင်းမင်းကြီးတစ်ဦးက ဆိုင်ရာလက် အောက်ခံအရာရှိများနှင့် ကြပ်မတ်အုပ်ချုပ်သည်။ တိုင်းမင်းကြီး၏ ရုံး စိုက်မြို့သည် တောင်ကြီးမြို့ဖြစ်၍ တောင်ကြီးမြို့သည် ရှမ်းပြည်နယ်တစ် ခုလုံး၏ မြို့တော်လည်းဖြစ်လေသည်။

၁၉၆၁ ခုနှစ်နောက်ပိုင်းမှစ၍ ရှမ်းစော်ဘွားအများစုနှင့် ကယား ခေါင်းဆောင်များသည် ပြည်မကိုလည်း ပြည်နယ်တစ်ခုအဖြစ် ထားရှိ ပြီး ပြည်ထောင်စု၏ ပြည်နယ်အားလုံးအား တန်းတူအုပ်ချုပ်ပေးရန်ဟူ သော "ဖက်ဒရေးရှင်းမှု" ကို တောင်းဆိုလာကြသည်။ ထိုမှုကို ပြည်ထောင်

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၉၃-၃၉၄

စုအစိုးရ လက်မခံပါက ရှမ်းပြည်နယ်သည် ပြည်ထောင်စုအတွင်းမှ ခွဲထွက်ရန် ခြိမ်းခြောက်အရေးဆိုလာကြပြီးလျှင် ရှမ်းပြည်နယ်အတွင်း ထကြွပုန်ကန်မှု၊ ဆူပူလှုပ်ရှားမှုများကိုလည်း လှုံ့ဆော်အားပေးလာကြသည်၊ ထိုသို့ ပြည်ထောင်စုကြီး ယိမ်းယိုင်ပြိုကွဲမည့် အခြေအနေဆိုးကို ထိမ်းသိမ်းရန် ဗိုလ်ချုပ်ကြီးနေဝင်းခေါင်းဆောင်သော တော်လှန်ရေးကောင်စီသည် ၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် ပြည်ထောင်စုအုပ်ချုပ်ရေးအာဏာကို သိမ်းယူလိုက်သည်။ တော်လှန်ရေးကောင်စီအစိုးရသည် သမ္မတကြီးနှင့်တကွ ဝန်ကြီးချုပ်အမှူးပြုသော ပြည်ထောင်စုအစိုးရအဖွဲ့ဝင် ဝန်ကြီးအများစုအား ထိန်းသိမ်းလိုက်သည့်နည်းတူ "ဖက်ဒရေးရှင်း" ကို ထောက်ခံသော ရှမ်းစော်ဘွား(၃၀)ကျော်တို့ကိုလည်း ထိန်းသိမ်းလိုက်သည်။ ရှမ်းပြည်နယ်ကောင်စီကို မတ်လ ၃ ရက်နေ့တွင် ဖျက်သိမ်းပြီးလျှင် ဦးစီးအဖွဲ့ဝင် ငါးဦးပါဝင်သော ရှမ်းပြည်နယ်ဦးစီးအဖွဲ့ကို ဖွဲ့စည်းလိုက်သည်။ ထိုဦးစီးအဖွဲ့သည် ရှမ်းပြည်နယ်ကောင်စီနည်းတူ ရှမ်းပြည်နယ်၏ အုပ်ချုပ်ရေးအဝဝကို ဆောင်ရွက်ရ၍ ထိုအဖွဲ့၏ ဥက္ကဋ္ဌအား ပြည်နယ်ဥက္ကဋ္ဌ၏ အခွင့်အာဏာများကို အပ်နှင်းလိုက်လေသည်။



၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၉၄။

# အခန်း(၅)

## ၅ း ၁ ။ ရှမ်းပြည်နယ်

ရှမ်းပြည်နယ်ဟူသည်မှာ ဗြိတိသျှအစိုးရလက်ထက်က ပဒေသရာဇ်ရှမ်းပြည်နယ်စု ဟုခေါ်တွင်ခဲ့သော နယ်များအား လွတ်လပ်သော ပြည်ထောင်စုမြန်မာနိုင်ငံဟူ၍ ပေါက်ဖွားလာသောအခါ ပြည်ထောင်စု အခြေခံ ဥပဒေအပိုဒ် ၅ အရ အဆိုပါနယ်များတွင် ဝနယ်များကို ပူးပေါင်း၍ရှမ်းပြည်နယ်ဟု သတ်မှတ်ပိုင်းခြားခဲ့သော နယ်များကို ခေါ်ဝေါ်သမုတ်ခြင်းဖြစ်ပေသည်။[၁]

ရှမ်းပြည်နယ်သည် ပြည်ထောင်စုမြန်မာနိုင်ငံ၏ လေးပုံတစ်ပုံခန့်ရှိပြီး အကြီးဆုံးပြည်နယ်ဖြစ်သည်။ ပြည်မ၏အရှေ့ဘက်၌ရှိသော ထိုပြည်နယ်သည် အကြမ်းဖျင်းအားဖြင့် ပဥ္စဂံရှိလေရာ အနောက်ဘက်ရှိ ပြည်မ၏လွင်ပြင်ဒေသများကို ပဥ္စဂံ၏ အခြေပြုထားကာ အရှေ့ဘက်ရှိ မဲခေါင်မြစ်(လောနိုင်ငံ)ပေါ်တွင် ပဥ္စဂံ၏ ထိပ်ဖျားကျရောက်နေလေသည်။ ရှမ်းပြည်နယ်ကို မြောက်ဘက်တွင် ကချင်ပြည်နယ်၊ အရှေ့မြောက်ဘက်တွင် ယူနန်ပြည်နယ် (တရုတ်ပြည်သူ့သမ္မတနိုင်ငံ)၊ အရှေ့ဘက်တွင် ယူနန်ပြည်နယ်နှင့် လော (လာအို)နိုင်ငံ၊ အရှေ့ဘက်တွင် ယိုးဒယားနိုင်ငံ၊ တောင်ဘက်တွင်ကယားပြည်နယ်၊ အနောက်ဘက်တွင် မန္တလေးတိုင်း၊ အနောက်မြောက်ဘက်တွင် စစ်ကိုင်းတိုင်းတို့ဖြင့် ဝိုင်းရံလျက်ရှိသည်။ ထိုပြည်နယ်သည် မြောက်လတ္တီတွဒ် ၁၉ ဒီဂရီ ၂၀ မိနစ်နှင့် ၂၄ ဒီဂရီ ၉ မိနစ်၊ အရှေ့လောင်ဂျီတွဒ် ၉၆ ဒီဂရီ ၁၃ မိနစ်နှင့် ၁၀၁ ဒီဂရီ ၉

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၇၄။

မိနစ်တို့၏ အကြားတွင် တည်ရှိလေသည်။ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၆၂,၅၀၀ ရှိသည်။[၁]

၅း ၂။ မြေမျက်နှာသွင်ပြင်

ရှမ်းပြည်နယ်သည် ရေတံခွန်စိမ့်စမ်း တောစခန်း တောင်စခန်းတို့ဖြင့် သာတောင့်သာယာရှိပေသည်။ ဧရာဝတီမြစ်ရိုးတစ်ခုဆီမှ အရှေ့ဘက်သို့ လှမ်းမျှော်ကြည့်လိုက်လျှင် ရှမ်းရိုးမတောင်ဟု အများခေါ်ဆိုကြသော တောင်စဉ်တောင်တန်းများကို တောင်ခိုးတောင်ငွေ့ တဝေဝေဖြင့် တွေ့မြင်ကြရပေလိမ့်မည်။ ရှမ်းရိုးမတောင်ဟု ခေါ်ဆိုနေကြသော်လည်း စင်စစ် ရှမ်းပြည်နယ်တစ်ခုလုံးသည် ကုန်းပြင်မြင့်ဖြစ်ပေသည်။ ရှမ်းကုန်းပြင်မြင့်သည် ပျမ်းမျှခြင်းအားဖြင့် ပင်လယ်ရေပြင်မှ ပေ ၃၀၀၀, ၄၀၀၀ ကျော်အထိ မြင့်ပြီးလျှင် နေရာဒေသများစွာတို့၌ မြေမျက်နှာပြင်သည် လှိုင်းအိထိုးနေဘိသကဲ့သို့ နိမ့်တုံမြင့်တုံဖြစ်နေသည်။ အရှေ့ဘက်ပိုင်းကုန်းမြေမြင့်သည် အနောက်ဘက်ပိုင်းထက် ပို၍မြင့်သည်။ အမြင့်ဆုံးအပိုင်းသည် လားရှိုး၏ အနောက်တောင်ပိုင်းဖြစ်သည်။ ကုန်းမြေမြင့်မျက်နှာပြင်သည် သိန္နီနယ်၏ အလယ်ပိုင်းခန့်မှစ၍ မန္တလေးခရိုင် အထက်နားရှိ တောင်ကုန်းဒေသတို့တိုင်အောင် ကျယ်ပြန့်သွားသော်လည်း မိုးနဲနယ်နှင့် မောက်မယ်နယ်စပ်သို့ အရောက်တွင်မူ ကျဉ်းမြောင်းသွားလေသည်။[၂]

တောင်ရိုးတောင်တန်းတို့သည် ရှမ်းပြည်နယ်မြောက်ပိုင်း အချို့ဒေသများတွင် အရှေ့နှင့်အနောက် တန်းလျက်ရှိသည်မှလွဲ၍ ပြည်နယ်တစ်ခုလုံး၌ များသောအားဖြင့် တောင်နှင့်မြောက် တန်းလျက်ရှိကြသည်။

---

၁။ မြန်မာ့စွယ်စုံကျမ်း အတွဲ (၁၁) ရှမ်းပြည်နယ်၊ နှာ၊ ၃၃၄

၂။ မြန်မာ့စွယ်စုံကျမ်း ။ အတွဲ(၁၁)၊ ရှမ်းပြည်နယ်၊ နှာ ၊ ၃၃၄-၃၃၅။

တောင်ထိပ်များသည် ပေ ၆၀၀၀ မှ ၈၀၀၀ ကျော်အထိ မြင့်ကြ၍ အမြင့်ဆုံးတောင်ထိပ်သည် တောင်သိန္နီနယ်အတွင်းရှိ ပေပေါင်း ၈၇၇၇ မြင့်သော လွယ်လိန်းတောင်ထွတ်ဖြစ်သည်။ အခြားမြင့်မားသော တောင်ထွတ်များမှာ မြောက်သိန္နီနယ်အတွင်းရှိ လျှံရှန်၊ ကျိုင်းတုံနယ်အရှေ့ပိုင်းရှိ လွယ်ပန်နောင်၊ မိုင်းကိုင်နယ်အတွင်းရှိ လွယ်စန့်နှင့် လွယ်လမ်စသည်တို့ဖြစ်ကြ၍ ပေ ၈၀၀၀ ကျော်မြင့်ကြပေသည်။ ပင်းတယနယ်အတွင်းမှ မဲနယ်တောင်တန်းရှိ အရှေ့မြင်အနောက်မြင်တောင်ထွတ်သည် ၇၆၇၈ ပေမြင့်သည်။ ထို့ပြင် နမ့်တမ်ဖတ်ချောင်းဝှမ်းနှင့် နမ့်ပွန်ချောင်းဝှမ်းကို ခြားလျက်ရှိသော လွယ်မောနှင့် လွယ်မောင်ဟုခေါ်သည့်ပေ ၇၀၀၀ မှ ၈၀၀၀ ကျော်ရှိသော တောင်မြင့်ကြီးများလည်း ရှိပေသေးသည်။ ရှမ်းပြည်နယ်၏ မြစ်ချောင်းတို့သည် တောင်ကုန်းတောင်တန်းများကို ဖြတ်ကျော်စီးဆင်းရသဖြင့် မြစ်ကမ်းပါးတို့သည် များသောအားဖြင့် ကျဉ်းမြောင်းမတ်စောက်ကြသည်။ မြစ်ချောင်းတို့အကြား၌ တောင်နှာမောင်းတို့သည် မြစ်ချောင်းများဆုံးသည့်တိုင်အောင် တည်ရှိကြလေသည်။ ရှမ်းပြည်နယ်တွင် သံလွင်မြစ်သည် အကြီးဆုံးဖြစ်သည်။ ထိုမြစ်ကို ရှမ်းဘာသာဖြင့် 'နမ့်ခုန်း' မြစ်ဟုခေါ်သည်။ ယင်းသည် ရှမ်းပြည်နယ်တစ်ခုလုံးကို မြောက်မှတောင်သို့ ဖြတ်သန်းစီးဆင်းရာ အကြမ်းဖျင်းအားဖြင့် ပြည်နယ်ကို အရှေ့နှင့်အနောက် ပိုင်းခြားထားသကဲ့သို့ရှိသည်။ မြစ်ရိုးတစ်လျှောက် ဧရာဝတီမြစ်ကဲ့သို့ မြေပြင်ပြန့်ပြူးခြင်းမရှိဘဲ နက်ရှိုင်းမတ်စောက်သော ကမ်းပါးစောက်ကြီးများကို ဖြစ်ပေါ်စေလျက် အရှိန်ပြင်းစွာဖြင့် စီးဆင်းလေသည်။ ရှမ်းပြည်နယ်အတွင်း သံလွင်မြစ်ထဲသို့ စီးဝင်သော မြစ်လက်တက်များမှာ လက်ဝဲဘက်ကမ်းမှ စီးဝင်သော နမ့်တင်(နမ့်တိန်း) နမ့်မ၊ နမ့်ဆင်စသည်တို့ဖြစ်၍ လယ်ယာဘက်ကမ်းမှ စီးဝင်သော နမ့်ပန်နှင့် နမ့်တန်စသည်တို့ဖြစ်ကြလေသည်။ ရှမ်းပြည်နယ်၏ အခြားမြစ်

ကြီးတစ်မြစ်မှာ မဲခေါင်မြစ်ဖြစ်ပေသည်။ သို့သော် ရှမ်းနယ်နိမိတ်နှင့် လာအိုနိုင်ငံနယ်နိမိတ်ကို ပိုင်းခြားသတ်မှတ်ထားသည့် မိုင်ပေါင်း ၁၂၀ ခန့်မျှသာ ထိုမြစ်ကြီးသည် ရှမ်းပြည်နယ်နှင့် သက်ဆိုင်လေသည်။[၁]

နမ့်တူ၊ မြစ်ငယ်၊ ဒုဋ္ဌဝတီဟူသော သုံးမည်ရ နမ့်တူမြစ်သည် ရှမ်းပြည်နယ်၏ ထင်ရှားသောမြစ်တစ်သွယ်ဖြစ်သည်။ ပြည်နယ်အတွင်း တစ်စိတ်တစ်ဒေသမျှသာ ဖြတ်သန်းသွားသော်လည်း မဖော်ပြဘဲမနေ အပ်သော မြစ်တစ်သွယ်မှာ နမ့်မောဝ်ဟုလည်းခေါ်သော ရွှေလီမြစ်ပေ တည်း။ ထိုမြစ်၏ မြစ်ဖျားလက်ယာဘက်ကမ်းရှိ မိုင်းမောဒေသမှစ၍ ရှမ်းပြည်ထောင် အများပေါ်ပေါက်ခဲ့သည် ဟုဆိုကြသည်။ ဖော်ပြခဲ့သော မြစ်များအပြင် ရှမ်းပြည်နယ် အလယ်ပိုင်းမြေလတ်ဒေသ၌ မြစ်ဖျားခံပြီး လျှင် ရပ်စောက်နယ်၊ ဘော်နယ်တို့ကို ဖြတ်ကျော်ကာ ပြည်မရှိကျောက် ဆည်ခရိုင်မှတစ်ဆင့် ဧရာဝတီမြစ်အတွင်းသို့ စီးဝင်သော ဇော်ဂျီမြစ်၊ ဟိုပုံးနယ်တွင် မြစ်ဖျားခံသော နမ့်တစ်ဖတ်ချောင်း၊ မြေလပ်ဒေသ တစ် ဝိုက် စီးဆင်းကာ အင်းလေးထဲသို့ အနောက်ဘက်မှ စီးဝင်၍ တောင်ဘက် သို့ တစ်ဖန်ပြန် ထွက်ပြီးလျှင် ကယားပြည်နယ်အတွင်းသို့ စီးဝင်သော နမ့်ဘီလူးချောင်း၊ လဲချားနယ်တောင်ကုန်းများ၌ မြစ်ဖျားခံပြီးလျှင် တောင်ဘက်ကယားပြည်နယ်အတွင်းသို့ စီးဝင်ပြီးနောက် သံလွင်မြစ်သို့ စီးဝင်သည့် နမ့်ပွန်ချောင်း စသည်တို့လည်း ရှိပေသေးသည်။[၂]

အထက်တွင်ဆိုခဲ့သည့်အတိုင်း မြစ်ရိုးချောင်းရိုး၊ မြေပြန့်လွင်ပြင် များတွင် မြို့ရွာများကို များသောအားဖြင့် ရှမ်းလူမျိုးတို့က တည်ထောင် ကြရာ မြောက်ပိုင်းတွင် နမ့်တူမြစ်ရိုး မြေပြန့်တွင် သိန္နီနယ်၊ သီပေါနယ်

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၇၅။
၂။ ၎င်းစာ၊ နှာ၊ ၃၇၅-၃၇၆။

တို့ကို တွေ့ရသည်။ ရပ်စောက်၊ ရေဦး၊ ရွာငံ၊ ပင်းတယ၊ ပွေးလှနယ်တို့သည် ဇော်ဂျီမြစ်ရိုး မြေပြန့်တစ်လျှောက် တည်ထားသော မြို့ရွာများဖြစ်ကြသည်။ နမ့်ပွန်ချောင်းရိုးမြေပြန့်တွင် မိုင်းပွန်နယ်ကိုလည်းကောင်း၊ နမ့်တစ်ဖတ်ချောင်းရိုး မြေပြန့်တွင် ဟိုပုန်း၊ ဘန်းယဉ်၊ ဆီဆိုင်(သထုံ) နယ်တို့ကိုလည်းကောင်း တွေ့ကြရလေသည်။[၁]

မြစ်ချောင်းများသည် တောင်စဉ်တောင်တန်းများကို ဖြတ်ကျော်စီးဆင်းကြသဖြင့် ရှမ်းပြည်နယ်တွင် ရေတံခွန်စိမ့်စမ်းများ အနှံ့အပြားရှိသည်၊ သီပေါနှင့်လားရှိုးအကြားရှိ မန့်စန်းရေတံခွန်ကြီးသည် အမြင့်ပေ ၁၅၀၀ ကျော် ၂၀၀၀ ခန့်ရှိပြီး တောင်ခါးပန်းအဆင့်ဆင့်ကို စီးဆင်းလာခဲ့ရာ ကြည့်၍မငြီးဖွယ်ဖြစ်ပေသည်။ ထိုရေတံခွန်ကြီးမှ ရေအားကို အသုံးပြု၍ နမ္မတူမြို့ရှိ ဘားမားကော်ပိုရေးရှင်းလီမီတက်၏ သတ္တုတွင်းလုပ်ငန်းများကို ဆောင်ရွက်လျက်ရှိသည်။ အခြားရေတံခွန်များလည်း အများအပြားရှိရာ ရေအားလျှပ်စစ်အတွက် အသုံးချနိုင်သည်။ ရှမ်းပြည်တောင်ပိုင်းတွင် စက်မှုလုပ်ငန်း ဓာတ်အားပေးရေးအတွက် အလားအလာရှိသော ရေတံခွန်တို့မှာ မိုင်းပွန်မြို့အနီးရှိ ရေတံခွန်သုံးခု၊ ရပ်စောက်မြို့မှ ၁၀ မိုင်ခန့်ကွာ အင်းတော်သွားလမ်းရှိ ဇော်ဂျီရေတံခွန်၊ ညောင်ရွှေမြို့အနီးရှိရေတံခွန်ငယ်နှစ်ခုနှင့် လဲချားနယ်မှ နမ့်တွပ်ရေတံခွန်တို့ဖြစ်ကြသည်။ ကျိုင်းတောင်းစီရင်စုအတွင်းရှိ နမ့်တိန်းရေတံခွန်မှ ရေအားကိုယူ၍ မြန်မာနိုင်ငံ၌ အကြီးဆုံးသော ရေအားလျှပ်စစ်ရုံကြီးတစ်ခု တည်ဆောက်နိုင်မည်ဟုလည်း ခန့်မှန်းထားကြလေသည်။ မြစ်ချောင်းများအပြင် အင်းအိုင်များလည်း ရှိသေးရာ ယင်းတို့အနက် ညောင်ရွှေနယ်ရှိ အင်းလေးသည်၊ အကြီးဆုံး အကျော်ကြားဆုံးဖြစ်သည်။[၂]

---

၁။ မြန်မာ့စွယ်စုံကျမ်း ။ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၇၆။
၂။ ၎င်းစာ၊

ထိုပြင် ဆိုင်ရာမြို့နယ်လူထုအတွက် ဆဲ့နှစ်ရာသီ မပြတ်သုံးစွဲရန် ရေရနိုင်သော ရေထွက် (ခေါ်) စမ်းရေပေါက်များလည်း ရှိသေးသည်။ ဟိုပုံးရေထွက်၊ ဘော်ဆိုင်းရေထွက်၊ ရပ်စောက်ရေထွက် (ဗထူးစမ်း) ကရင်မရေထွက် (တောင်ကြီး)တို့သည် လူသိများသော စမ်းရေပေါက်များပေတည်း။ ရှမ်းပြည်နယ်၏ အောက်ခံကျောက်မြေသည် များသောအားဖြင့် ထုံးကျောက်များဖြစ်လေရာ ရွာချသော မိုးရေသည် မြေကြီးထဲသို့ စိမ့်ဝင်သွားသည်။ ထိုစိမ့်ဝင်သွားသော ရေများသည် အချို့နေရာများတွင် စမ်းရေပေါက်များဖြစ်ကာ မြေပြင်သို့ ပြန်ထွက်လာကြရာ ယင်းတို့ကို ရေထွက်များဟု ခေါ်ဝေါ်ကြသည်။ မြစ်ချောင်းနှင့်လည်း မနီး၊ ရေထွက်လည်းမရှိသော ဒေသများလည်း ရှိသေးရာ ထိုဒေသများတွင် ရေရှားပါးသဖြင့် မြေတွင်းသယံဇာတပစ္စည်းများဖြင့် ပေါများသည့်တိုင်အောင် စက်မှုလုပ်ငန်းများ မဆောင်ရွက်နိုင်ခြင်း၊ စိုက်ပျိုးရေးခက်ခဲခြင်း များရှိလေသည်။ ရေထွက်(သို့မဟုတ်) စမ်းရေပေါက်များအပြင် ရေပူစမ်းများလည်း ပေါများသည်။ ရှမ်းပြည်နယ်၏ မြေမျက်နှာပြင်တွင် မြေလွှာကျွံခြင်း (သို့မဟုတ်) မြေကြောအံလွဲခြင်း များရှိပေရာ ထိုနေရာများတွင် ရေပူစမ်းများ ဖြစ်ပေါ်သည်။ သီပေါ၊ လားရှိုး၊ သိန္နီ၊ လင်းခေး၊ ကျိုင်းတုံ၊ အင်းလေးဒေသရှိ ခေါင်တိုင်ရွာ စသည်တို့တွင် ထိုကဲ့သို့သော ရေပူစမ်းများ ရှိလေသည်။[၁]

၅း ၃ ။ အောက်ခံမြေနှင့် ကျောက်အမျိုးမျိုး

ရှမ်းပြည်နယ်၏ ဘူမိဗေဒကို သေချာစေ့ငုစွာ လေ့လာ၍ သုတေသနမပြုရသေးချေ။ အောက်ခံကျောက်မြေနှင့် စပ်လျဉ်း၍ ပြည်နယ်တစ်ခုလုံးကို ခြုံ၍ဆိုရလျှင် ရှမ်းကုန်းပြင်မြင့်သည် များသောအားဖြင့် ထုံးကျောက်မြေ အောက်ခံဖြစ်သည်။ သို့သော် အာစီယန်ခေတ် (ရှေးအ

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၇၆

ကျဆုံးခေတ်) ကျောက်များ၊ ပထမကပ်ကျောက်များ၊ ဒုတိယကပ်ကျောက်များနှင့် တတိယကပ်ကျောက်များစသော ခေတ်အမျိုးမျိုးမှ ကျောက်များကိုလည်း ကြိုကြားကြိုကြားတွေ့ရပေသည်။[၁]

ဘူမိဗေဒ ထုံးကျောက်ခေတ်ကာလက ရှမ်းပြည်နယ်သည် မြန်မာပြည်နည်းတူ ပင်လယ်ရေတိမ်အောက်တွင် ကျရောက်နေခဲ့ရာ မြစ်များမှ သဲများ၊ ပင်လယ်ပိုးကောင်သေများ၊ ရေညှိရေမှော်ပုပ်များ စသည်တို့သည် တဖြည်းဖြည်း စုပုံလာပြီးလျှင် ပင်လယ်အောက်မြေသားသည် တဖြည်းဖြည်းမို့တက်လာသည်။ ထို့ကြောင့် ထိုခေတ်ကကျောက်ဖြစ်ရုပ်ကြွင်းများကို ထုံးကျောက်မြေများအကြား၌ ညှပ်လျက်တွေ့ကြရသည်။ ထုံးကျောက်ခေတ် ကုန်ဆုံးလုနီးကာလ (သို့မဟုတ်) တတိယကပ်အစလောက်တွင် မြန်မာနိုင်ငံ၌ အပေါ်ယံ မြေလွှာပုံပြောင်းစေသော မြေလှုပ်ရှားမှုကြီးပေါ်ပေါက်ခဲ့ရာ ရှမ်းကုန်းပြင်မြင့်နှင့်ဆက်လျက် တောင်ဘက်သို့ မြန်မာနိုင်ငံအောက်ပိုင်းအထိ တောင်ရိုးတောင်တန်းများ ပေါ်ပေါက်လာခဲ့သည်။ ထိုလှုပ်ရှားမှုကြောင့် မြေကြောများပြတ်၍ အချို့နေရာများတွင် အက်ကြောင်းကြီးများ ဖြစ်ပေါ်ကာ မြေလွှာကျွံခြင်း (သို့မဟုတ်) အံလွဲများဖြစ်ပေါ်ခဲ့သည်။ ရှမ်းပြည်မြောက်ပိုင်း၌ သီပေါနယ် ဂုတ်ထိပ်ချိုင့်ဝှမ်းမှသည် သံလွင်မြစ်ကမ်းပေါ်ရှိ ကွမ်းလုံကူးတို့ဆိပ်တိုင်အောင် အရှေ့နှင့်အနောက် ရှည်လျားသော မြေလွှာကျွံချိုင့်ဝှမ်းကြီးတစ်ခုကို တွေ့ရ၍ ရှမ်းပြည်နယ်၏ မြေမျက်နှာပြင်တွင် ထူးခြားပေါ်လွင်သော ဘူမိဗေဒ လက္ခဏာတစ်ရပ် ဖြစ်ပေသည်။ ညောင်ရွှေနှင့် ရွှေညောင် မြောက်ဘက်မှ အင်းလေးတောင်ဘက်အထိလည်း ကြီးမား၍ တောင်နှင့်မြောက်ရှည်လျားသော မြေလွှာကျွံချိုင့်ဝှမ်းကြီး တစ်ခုရှိလေသည်။[၂]

---

၁။ မြန်မာ့စွယ်စုံကျမ်း ။ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၇၆။
၂။ ၎င်းစာ၊ နှာ၊ ၃၇၆-၃၇၇။

အထက်တွင် ဆိုခဲ့သည့်အတိုင်း ခေတ်အမျိုးမျိုးမှ သက်ရင့်ကျောက်များကို ရှမ်းပြည်နယ်အနှံ့အပြား၌ တွေ့ကြရသည်။ ရှမ်းပြည်မြောက်ပိုင်းတွင် မိုးကုတ်နယ်ပတ္တမြားမြေ၏ လိပ်သည်းကျောက်မြေနှင့် ဆက်စပ်လျက် ဝေဘူကျောက်မြေမျိုးကို တွေ့ကြရသည်။ ထိုမှ တောင်ဘက်သို့ ရွေ့လာခဲ့သော် ကမ်ဗရီယမ်ခေတ် ကျောက်မျိုးဖြစ်သော သလင်းကျောက်၊ သင်ပုန်းကျောက် စသည်တို့ကို တွေ့ရသည်။ သီပေါမြို့၏ အရှေ့ဘက်မှ ကျောက်မြေများသည် ထုံးကျောက်များတွင် သဲကျောက်နီများ ညှပ်လျက်ပါသော မြေမျိုးဖြစ်လေသည်။ လားရှိုးမှ မြောက်ဘက်ငါးမိုင်ကွာသော နမ့်ယော်မြစ်ဝှမ်းတွင်လည်းကောင်း၊ တောင်ဘက် နမ့်မမြစ်ဝှမ်းတွင်လည်းကောင်း၊ ကျောက်မီးသွေးကြောများ ပါရှိသော တတိယကျောက်ခေတ်မှ မြေစေးနှင့် သဲကျောက်များကို တွေ့ရလေသည်။[၁]

ရှမ်းပြည်နယ်တောင်ပိုင်းတွင် ဆိုင်ယင်နိုက်နှင့် နှမ်းဖတ်ကျောက်မျိုးတို့ ပါဝင်သော လိပ်သည်းကျောက်မြေမျိုးသည် ရှမ်းကုန်းပြင်မြင့်၏ အနောက်ဘက်နှုတ်ခမ်းသား အစွန်းများအဖြစ်သို့ ပေါ်နေကြသည်။ သီပေါနှင့် လားရှိုးအကြား၌ တွေ့ရသော ဒုတိယကျောက်ခေတ်၏ ခရမ်းပြာသဲကျောက်တို့သည် ထုံးကျောက်များအကြား၌ ညှပ်လျက်ရှိသည်။ ထုံးကျောက်တောင်တန်းများအကြား၌ ခေတ်မကြာသေးသော စရစ်ဖြူနှင့် သဲကျောက်နှင့် နုန်းမြေများသည် အလျားလိုက် အမြောင်းလိုက်ဖြစ်ပေါ်နေကြသည်။ ယင်းတို့မှလွဲလျှင် ရှမ်းပြည်တောင်ပိုင်း၌လည်း များသောအားဖြင့် ထုံးကျောက်မြေများသာလျှင်ဖြစ်သည်။ မြစ်ဝှမ်းချောင်းများ၌ တတိယကပ်ကျောက်များချထားစုပုံ၍ ယင်းတို့အတွင်း၌ ကျောက်မီးသွေးနုများလည်းရှိရာ ထိုချိုင့်ဝှမ်းမြစ်ဝှမ်းချောင်းဝှမ်းတို့၌ နုန်းမြေများဖြင့် ဖုံးအုပ်လျက်ရှိလေသည်။[၂]

၁။ မြန်မာ့စွယ်စုံကျမ်း ။ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၇၇။
၂။ ၎င်းစာ၊ နှာ ၊ ၃၇၇-၃၇၈

၅ း ၄ ။ ရာသီဥတု

ရှမ်းပြည်နယ်သည် ကုန်းပြင်မြင့်ဖြစ်၍ ယေဘုယျအားဖြင့် ဥတုသဘာဝအေးချမ်းမှုတသည်။ နေရာဒေသများစွာတို့တွင် အင်္ဂလန်ပြည်ကဲ့သို့ ဥရောပတိုက် ရေမြေအနေအထား ရာသီဥတုမျိုးဆန်ဆန်ရှိသည်။ သို့သော် ယခုအခါ တောရိပ်တောင်ရိပ်နည်းပါးလာ၍ အပူရှိန်အနည်းငယ် တက်လာသည်။ ကုန်းမြေအနိမ့်အမြင့် ပထဝီသဘာဝကိုလိုက်၍ တစ်နေရာနှင့်တစ်နေရာ ရာသီဥတုအေးမြ၍ ထင်းရှူးပင်တို့ဖြင့် ဝေဆာနေသော်လည်း ယင်းတို့၏ နီးကပ်ပါလျက် မြေနိမ့်ပိုင်းတွင် ရှိကြသောညောင်ရွှေ၊ မိုးနဲ၊ လင်းခေး၊ မောက်မယ်စသောဒေသများတွင် ရာသီဥတုပူအိုက်ကာ မန်ကျည်းပင်၊ အုန်းပင်၊ သရက်ပင်တို့ဖြစ်ထွန်းသည်ကို တွေ့ရသည်။ ရှမ်းပြည်မြောက်ပိုင်းတွင် သီပေါနယ်ချိုင့်ဝှမ်းသည် အပူရှိန်အများဆုံးတက်သော ဒေသဖြစ်သည်။ ဧပြီလအတွင်း နေ့အခါ ဖာရင်ဟိုက် ၉၆ ဒီဂရီထက်ပင် ကျော်လွန်သော်လည်း ညဥ့်ဘက်တွင် ၆၅ ဒီဂရီအထိ ကျဆင်းသွားတတ်ပြန်သည်။ ဆောင်းရာသီတွင် နေထွက်ပြီး၍ နာရီအနည်းငယ်ကြာသည့်တိုင်အောင် မြူများဆိုင်းနေတတ်သည်။ လားရှိုးမြို့တွင် (၁၈၉၆ ခုနှစ်မှ ၁၉၄၀ ပြည့်နှစ်များအတွင်း တိုင်းထွာချက်အရ) အပူဆုံးအချိန် ဧပြီလ၌ မဖျှမအပူချိန် ၉၂ ဒီဂရီဖာရင်ဟိုက်ရှိ၍ဇန်နဝါရီလ အအေးဆုံးအချိန်တွင် မဖျှမအပူချိန် ၅၉. ၉ ဒီဂရီဖာရင်ဟိုက်ရှိလေသည်။ ရှမ်းပြည်တောင်ပိုင်း တောင်ကြီးမြို့တွင် (၁၉၅၀ ပြည့်နှစ်မှ ၁၉၆၀ ပြည့်နှစ်များအတွင်း တိုင်းထွာချက်အရ) ဧပြီလတွင် မဖျှမအပူချိန် ၈၄. ၅ ဒီဂရီဖာရင်ဟိုက်ရှိ၍ ဇန်နဝါရီလတွင် မဖျှမအပူချိန် ၅၂. ၂ ဒီဂရီဖာရင်ဟိုက်ရှိလေသည်။ ကျိုင်းတုံမြို့တွင် (၁၉၅၁ ခုနှစ်မှ ၁၉၆၀ ပြည့်နှစ်များ အတွင်းတိုင်းထွာချက်အရ) ဧပြီလတွင် မဖျှမအပူချိန် ၉၂. ၅ ဒီဂရီဖာရင်ဟိုက်ရှိ၍ ဇန်နဝါရီလ အအေးဆုံးအချိန်တွင် မဖျှမ

အပူချိန် ၆၂. ၆ ဒီဂရီဖာရင်ဟိုက်ရှိကြောင်း တွေ့ရလေသည်။ တောင်ပေါ်ဒေသများ၌ကား အအေးဓာတ် ပိုမိုလွန်ကဲလေသည်။[၁]

အအေးဆုံးဖြစ်သော ဒီဇင်ဘာ၊ ဇန်နဝါရီလများတွင် မဏ္ဍိမလစဉ်အပူချိန်မှာ မြေနိမ့်လွင်ပြင်များမှအပ ၆၄ ဒီဂရီဖာရင်ဟိုက်အောက်လျော့နည်းသည်။ အဆိုပါ လများအတွင်း အချို့ဒေသများတွင် အနိမ့်ဆုံးအပူချိန်သည် ရေခဲမှတ်သို့ ရောက်အောင်ပင် လျော့ကျတတ်သည်။ အပူဆုံးလမှာ ဧပြီ၊ မေ၊ ဇွန်၊ ဇူလိုင်လများ ဖြစ်ကြသည်။ ယင်းလများ၏ အပူချိန်သည် တောင်ပေါ်ဒေသဖြစ်၍ မမြင့်လွန်းဘဲရှိရာ ရာသီဥတုမှာ နှစ်လိုဖွယ်ရာရှိသည်။ အဆိုပါလများ၏ မဏ္ဍိမလစဉ်အပူချိန်မှာ ၇၀ ဒီဂရီဖာရင်ဟိုက် နှင့် ၈၀ ဒီဂရီဖာရင်ဟိုက်အတွင်း၌သာ ရှိသည်။ နေ့လယ်အပူချိန်၌ပင် အပူချိန်သည် ၈၀ ဒီဂရီဖာရင်ဟိုက်ကျော်ရုံသာရှိ၍ ၉၀ ဒီဂရီဖာရင်ဟိုက်ထိအောင် တက်ခဲသည်။ မိုးရေချိန်မှာ ကုန်းမြေအနေအထားအလိုက် တစ်နေရာနှင့်တစ်နေရာ ကွာခြားမှုရှိသည်။ မိုးရေချိန် ကောက်ယူသောဌာနများ နည်းပါးသေးသော်လည်း ရှမ်းကုန်းပြင်မြင့် အနောက်ဘက်စွန်းနှင့် တောင်တန်းများတွင် မိုးပိုများ၍ မြေနိမ့်ပိုင်းများတွင် မိုးနည်းသည်ဟု ယူဆနိုင်သည်။ ဒေသတစ်ခုလုံးတွင် ပျမ်းမျှမိုးရေ ချိန်မှာ ၄၀ လက်မနှင့် ၆၀ လက်မအတွင်းတွင်ရှိသည်။ ၁၉၅၀ ပြည့်နှစ်မှ ၁၉၆၀ ပြည့်နှစ်အထိ ကောက်ယူခဲ့သော စာရင်းများအရ မြို့သုံးမြို့၏ ပျမ်းမျှနှစ်စဉ်မိုးရေချိန်မှာ အောက်ပါအတိုင်းဖြစ်သည်။[၂]

| | |
|---|---|
| လားရှိုး | ၅၄. ၅၀ လက်မ |
| တောင်ကြီး | ၅၇. ၀၅ လက်မ |
| ကျိုင်းတုံ | ၄၆. ၀၅ လက်မ |

[၁] မြန်မာ့စွယ်စုံကျမ်း ။ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၇၈

[၂] ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၈-၁၂

မိုးဥတုသည် မေလမှ အောက်တိုဘာလအတွင်းဖြစ်သည်။ ယင်းခြောက်လအတွင်း ရွာသွန်းသော မိုးရေချိန်သည် နှစ်စဉ်မိုးရေချိန်၏ ၉၀ ရာခိုင်နှုန်းကျော်သည်။ ဇွန်၊ ဇူလိုင်၊ ဩဂုတ်၊ စက်တင်ဘာလများတွင် မိုးအများဆုံးရသည်။ ဇူလိုင်လတွင် တောင်ဘက်မှ ဝင်လာသော လေစိုင်များမှ မိုးရ၍ ဩဂုတ်လ၊ စက်တင်ဘာလများတွင် အရှေ့ဘက်မှ ဝင်လာသော မုန်တိုင်းများမှ ရသည်။ မိုးဥတု၏ အပဖြစ်သော သွေ့ခြောက်သည့်ဥတုတွင်လည်း မိုးလုံးဝပြတ်သွားခြင်းမရှိလှဘဲ အနည်းငယ်မျှ ရွာသွန်းလေ့ရှိသည်။[၁]

၅ း ၅ ။ သဘာဝပေါက်ပင်

ရှမ်းပြည်နယ်သည် ကုန်းမြင့်ဒေသဖြစ်၍ သဘာဝပေါက်ပင်မှာလည်း တောင်ပေါ်သစ်တောများပင်ဖြစ်သည်။ ရှမ်းကုန်းပြင်မြင့် အနောက်ဘက် တောင်စောင်း ပေ ၃၀၀၀ အောက်လျော့သော ဒေသများတွင် ရွက်ပြတ်တောများကို တွေ့ရသည်။ တောင်ပေါ်တောများကို သုံးမျိုးထပ်မံခွဲနိုင်သည်။[၂]

၅ း ၅ း ၁ ။ အမြဲစိမ်းတောင်ပေါ်တော

ထိုသစ်မျိုးကို မိုးပိုရသော တောင်တန်းများ၊ ကုန်းမြင့်များတွင် တွေ့ရသည်။ အုံတို၊ သစ်ချ၊ သစ်အယ်စသောအပင်များပေါက်သည်။[၃]

၅ း ၅ း ၂ ။ တောင်ပေါ်သွေ့ခြောက်တော

ယင်းတောမျိုးကို မိုးပိုနည်းသော ချိုင့်ကျသည့် အရပ်များ၊ ထုံး

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၃
၂။ ၎င်းစာ။
၃။ ၎င်းစာ။

ကျောက်အောက်ခံမြေရှိသည့် ဒေသများတွင် တွေ့ရသည်။ လောက်ရား၊ မယ်ထူး၊ အင်ကြင်းပင်များပေါက်သည်။[၁]

၅း၅း၃ ။ ထင်းရှူးတောများ

ယင်းတောများကို အမြင့်ပေ ၄၀၀၀ ကျော်သော အချို့အရပ်များတွင် တွေ့ရသည်။ သို့ရာတွင် ယခုအခါ သဘာဝပေါက်ပင်မှာ တောင်ယာများကြောင့် အတော်ပင် ပြုန်းတီးနေပြီဖြစ်သည်။ တောင်ယာအတွက် တောင်များတွင် ပေါက်လာသော နောက်ဆင့်တောများတွင် ဝါးအများအပြား ပေါက်လာတတ်သည်။ အချို့နေရာများတွင် သစ်ပင်၊ ပန်းပင်လုံးဝမရှိတော့ဘဲ တောင်ကတုံးများဖြစ်လျက်ရှိသည်ကို တွေ့ရသည်။[၂]

ရှမ်းပြည်၏ သဘာဝသစ်ပင်များကို ကြည့်ရှုလေ့လာလျှင် သမနွေးပိုင်း ရောနှောပေါက် တောင်ပေါ်သစ်တောမျိုးဖြစ်ကြောင်း တွေ့ရပေမည်။ သို့သော် ကွက်ကြား၍ သမပိုင်းစိုစွတ်သစ်တောများနှင့် သံလွင်မြစ်ဝှမ်း တစ်လျှောက်တွင် အပူပိုင်းစိုစွတ်အမြဲစိမ်းသစ်တောဟူ၍ သုံးမျိုးသုံးစား တွေ့ရသည်။ ပေ ၄၀၀၀ အထက်မြင့်သော နေရာများတွင် မြက်ခင်းများ ဝက်သစ်ချနှင့် ထင်းရှူးပင်များကို တွေ့ရသည်။ သစ်စေးပင်* မှ သစ်စေးကို ထုတ်ယူရသည်။ သီပေါနှင့် သိန္နီတောင်ပိုင်းတွင် ပေါက်ရောက်သည်။ ပေါက်ပင်♦မှ အသားကို ရှမ်းအမျိုးသားတို့ ဓားအိမ်လုပ်ကြသည်။ စက္ကူပိုးစာပင်တမျိုး♥ကို မိုင်းကိုင်စက္ကူလုပ်သည်။ မှို့ပင်

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၃-၁၄။
၂။ ၎င်းစာ။

*။ Melanorrhoeusitata

♦။ Cedrsla Toon

♥။ Broussonetia Papyrifera

တမျိုး*မှ ခေါင်းအုံး၊ မွေ့ရာများအတွက် မှိုများကိုရသည်။[၁]

ဥရောပတိုက်နှင့် မြေထဲပင်လယ်ဒေသများတွင် ပေါက်ရောက်သော သစ်သီးပင်မျိုးကိုလည်း တွေ့ရသည်။ မက်မွန်၊ မက်မန်း၊ ပင်စိမ်း၊ သစ်တော်ရိုင်း၊ နှင်းသီးရိုင်း၊ သကြားသီး၊ ထောပတ်သီးနှင့် မြေပြန့်တွင် ပေါက်ရောက်သော ငှက်ပျော၊ သြဇာ၊ မာလကာ၊ သဘော်သီးများကိုလည်း တွေ့ရသည်။ သာမန်မျက်စိအားဖြင့် မြင်တွေ့နေကျ သစ်ပင်၊ ပန်းပင်များမှာ မြောက်ပိုင်း ရှမ်းပြည်နယ် မေမြို့၊ ကျောက်မဲ၊ သီပေါ၊ သိန္နီ၊ လားရှိုးတစ်ဝိုက်တွင် ချယ်ရီပင်များ၊ ငုနီပင်များ၊ ပိတောက်ပင်များ၊ ထင်းရှူးပင်များ၊ ဒဟပ်၊ ကျွန်း၊ အင်ပင်များနှင့် ဝါးရုံများဖြစ်သည်။ တောင်ပိုင်းရှမ်းပြည်နယ်တွင် အောင်ပန်း၊ ကလောတစ်ဝိုက်၌ ထင်းရှူးပင်များ၊ စွယ်တော်ပင်များ။ ငုနီ၊ ပိတောက်အမျိုးမျိုး၊ ချယ်ရီအမျိုးမျိုး၊ စိန်ပန်းပြာများကို လှပဝေဆာစွာ တွေ့ရသည်။ ညောင်ရွှေတစ်ဝိုက်တွင် မန်ကျည်းပင်၊ ကုက္ကိုပင်စသော အပူပိုင်းတွင် ပေါက်ရောက်သည့် အပင်များကို တွေ့ရသည်။ ကြက်လျှာနှင့် နာနတ်ရိုင်းများကို ယာစည်းရိုးအဖြစ် အသုံးပြုကြသည်။ အရှေ့ပိုင်းရှမ်းပြည်နယ် ကျိုင်းတုံနယ် တစ်ဝိုက်တွင် ဝါးရုံကြီးများသည် အရွက်ကြီး၍ ပင်စည်ရှည်သော ဝက်သစ်ချပင်များကဲ့သို့ အပင်များ ပေါက်ကြသည်။ တာချီလိတ်၊ မိုင်းဖုံးစသောဒေသများတွင်မူ အပူပိုင်းဒေသ မန္တလေး၊ မြင်းခြံစသော နေရာများတွင် ပေါက်သော တမာ၊ ကုက္ကို၊ စိန်ပန်းစသော အပင်များ ပေါက်ကြသည်။[၂]

သစ်ပင်ကြီးများအောက်တွင် ချုံပင်၊ နွယ်ပင်များနှင့် မြက်အမျိုးမျိုး၊ ပေါင်းပင်၊ ဆေးပင်အမျိုးမျိုး ပေါက်ရောက်ကြသည်။ ပန်းရိုင်းပင်၊ ရေညှိပင်အမျိုးမျိုး၊ ခံသီးပင်အမျိုးမျိုး စထရောဗယ်ရီရိုင်းပင်များ ပေါက်

---

* Bombax Malabaricum

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၄-၁၅။

၂။ ၎င်းစာ၊ နှာ၊ ၁၅-၁၆။

ရောက်ကြသည်။ သစ်ပင်ကြီးများ၏ သစ်ကိုင်းသစ်ခွများတွင် လှပဆန်းကြယ်သော သစ်ခွပန်းပင် အမျိုးမျိုးများကို တွေ့ရသည်။ နွေရာသီ၌ ပွင့်လှသော လများမှလွဲ၍ ကျန်ရာသီအချိန်များတွင် ရှမ်းပြည်နယ်တစ်ခုလုံး၏ တောတောင်သဘာဝရှုခင်းမှာ စိမ်းလန်းစိုပြေ သာယာစွာရှိသောကြောင့် မြေပြဇာဓာတ်ကောင်းသော သဘောကိုဆောင်သည်။ စုစုပေါင်း ကြိုးဝိုင်း၊ ကြိုးပြင်သစ်တော စတုရန်းမိုင်ပေါင်း ၄၂၂၁၀ ရှိသည်။[၁]

၅း၆ ။ စိုက်ပျိုးရေးနှင့် အခြားလုပ်ငန်းများ

ရှမ်းပြည်နယ်သူနယ်သားတို့၏ အဓိကလုပ်ငန်းသည် စိုက်ပျိုးရေးဖြစ်သည်။ ခန့်မှန်းခြေအားဖြင့် ရှမ်းပြည်နယ်တွင် စိုက်ပျိုးရေးလုပ်ကိုင်နိုင်သည့် မြေဧရိယာ ငါးဒသမခုနစ် (၅. ၇) သန်းခန့်ရှိသည့်အနက် ဧကနှစ်သန်းခန့်သာ စိုက်ပျိုးလုပ်ကိုင်ကြ၍ ကျန်ဧက သုံးသန်းခွဲကျော်သည် ကောလျက်ရှိသည်။ လူဦးရေကျဲသော ဒေသများဖြစ်သောကြောင့် စိုက်ပျိုးရေးကို ကျယ်ကျယ်ပြန့်ပြန့် မဆောင်ရွက်နိုင်သဖြင့် ရှမ်းပြည်နယ်ဦးစီးအဖွဲ့သည် စက်ယန္တရားဖြင့် စိုက်ပျိုးရေးကို တိုးချဲ့ဆောင်ရွက်ရန် စီမံကြိုးပမ်းလျက်ရှိသည်။ ဆန်စပါးစိုက်ပျိုးရေးတွင် ဒုတိယကမ္ဘာစစ်မတိုင်မီကာလက ရှမ်းပြည်နယ်မှပင် ပြည်မသို့ ဆန်တင်ပို့နိုင်လောက်အောင် ဆန်စပါးပိုပိုလျှံလျှံ ထွက်ခဲ့သော်လည်း ယခုအခါ ပြည်မမှပင် ရှမ်းပြည်သို့ ဆန်တင်သွင်းခဲ့ရသည်။ ယခင်က အင်းလေးဒေသသည် ဆန်စပါး အထွက်များခဲ့သော်လည်း ယခုအခါ လယ်များအပျက်အစီးများသဖြင့် စပါးထွက်ယုတ်လျော့ခဲ့လေသည်။[၂]

---

[၁] ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၆။
[၂] မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ၊ ၃၇၉။

ရှမ်းပြည်နယ်တွင် စပါးကို နည်းသုံးမျိုးဖြင့် စိုက်ပျိုးကြသည်။ ရှမ်းလူမျိုးတို့သည် မြေနိမ့်ဒေသများ၌ စိုက်ပျိုးကြရာ၊ ကန်သင်းဖို့၍ လယ်ကွက်အတွင်း ရေသွင်းစိုက်ပျိုးကြသည်။ သိန္နီ၊ လဲချား၊ မောက်မယ်နှင့် ကျိုင်းတုံနယ်များ၏ မြစ်ဝှမ်းချောင်းဝှမ်း မြေနိမ့်ဒေသများ၌ ထိုနည်းဖြင့် စိုက်ပျိုးကြသည်။ ထိုဒေသများမှ စပါးအထွက်များ၍ လူနေအိမ်ခြေလည်း များပြားလေသည်။ ဒုတိယနည်းသည် တောင်ယာစပါးစိုက်ပျိုးရေးဖြစ်၍ ထိုနည်းကို ပအိုဝ်းလူမျိုးများနှင့် အခြားယင်းနက်၊ လွယ်လ၊ ပလောင်၊ ပလေး၊ ပဒေါင်၊ တောင်ရိုး၊ ဓနု၊ ဓနော့၊ လီဆူးစသော တောင်ပေါ်သားတို့ လုပ်ကိုင်ကြသည်။ စိုက်ပျိုးမည့် တောင်ကုန်းဆင်ခြေလျှောရှိ သစ်တောဝါးတောများကို ခုတ်ထွင်မီးရှို့၍ စိုက်ပျိုးလုပ်ကိုင်ခြင်းဖြစ်ရာ ပထမသုံးနှစ်တွင် စပါးအထွက်ကောင်းသော်လည်း နောင်အခါ မြေဩဇာ ခန်းခြောက်လာသဖြင့် နေရာပြောင်း၍ စိုက်ပျိုးလုပ်ကိုင်ပြန်သည်။ စိုက်ပျိုးလုပ်ကိုင်ခြင်း မရှိ၍ တိမ်ကောနေသော မြေဧကများတွင် ထိုကဲ့သို့ စွန့်ပစ်ခဲ့သော တောင်ယာများလည်း ပါဝင်လေသည်။ တတိယနည်းမှာ လှေကားထစ်စိုက်ပျိုးနည်းဖြစ်၍ တောင်ပေါ်သားတို့ အသုံးပြုသည့် နည်းတစ်နည်းလည်းဖြစ်သည်။ ထိုစိုက်ပျိုးနည်းအတွက် တောင်ပေါ်မှ စီးကျလာသော ချောင်းရေကို အမှီပြုရသည်။ လယ်ကွက်နှင့် စိုက်ခင်းများကို တောင်စောင်းဆင်ခြေလျှော၌ လှေကားထစ်သဖွယ် အဆင့်ဆင့်ပြုလုပ်ထားပြီးလျှင် တောင်ပေါ်ချောင်းမှ ရေကိုအဆင့်ဆင့် သွယ်ယူကြရသည်။ ထိုစိုက်ပျိုးနည်းဖြင့် အချို့သော အရပ်ဒေသများတွင် သီးထပ်ပင်စိုက်ပျိုးနိုင်လေသည်။ ပဲစသည်တို့ကို စိုက်ပျိုးရာ၌လည်း တောင်ယာစနစ်၊ လှေကားထစ်စနစ်မျိုးတို့ဖြင့် စိုက်ပျိုးကြလေသည်။[၁]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ ရှမ်းပြည်နယ်၊ အတွဲ ၁၁၊ နှာ ၊ ၃၇၉။

ရှမ်းပြည်နယ်၏ ကြီးကျယ်သော စိုက်ပျိုးရေးထွက်ကုန်တစ်ရပ်မှာ လက်ဖက်ဖြစ်၍ ရှမ်းပြည်မြောက်ပိုင်း တောင်ပိုင်နယ်* မှ အများဆုံး ထွက်သည်။ ရှမ်းပြည်တောင်ပိုင်း မိုင်းကိုင်နယ်၊ မိုင်းရှူးနယ်၊ မိုင်းနောင်၊ ကျေးသီးမန်စံ၊ ပင်လောင်းနှင့်ဘော်ဆိုင်းနယ်တို့မှလည်း ထွက်သည်။ စင်စစ် လက်ဖက်ပင်သည် ရှမ်းပြည်နယ်၌ ဖြစ်ထွန်းလွယ်သော အပင်မျိုးဖြစ်သည်။ တောင်ပိုင်နယ်တွင် လက်ဖက်လုပ်ငန်း လုပ်ကိုင်သူတို့သည် များသောအားဖြင့် ပလောင်လူမျိုးများဖြစ်သည်။ ရှမ်းပြည်နယ်တောင်ပိုင်း၏ အဓိကလုပ်ငန်းတစ်ရပ်သည် သနပ်ဖက်လုပ်ငန်းဖြစ်သည်။ ပင်လုံ အနောက်ဘက် တောင်တန်း၊ မိုင်းကိုင်၊ လဲချား၊ ရွာငံ၊ ရေဦး၊ ပင်လောင်းနယ်များနှင့် မဲနယ်တောင်တန်းတို့တွင် သနပ်ဖက်ခြံများရှိသည်။ ရှမ်းပြည်နယ်၏ ကျော်ကြားသော စိုက်ပျိုးရေးလုပ်ငန်းတစ်ရပ်မှာ အာလူးစိုက်ပျိုးရေးဖြစ်သည်။ အထူးသဖြင့် မြေလတ်ပိုင်းဖြစ်သော ပင်းတယ၊ ပွေးလှ၊ အောင်ပန်း၊ သီကျစ်စသည့်ဒေသများတွင် အာလူးစိုက်ပျိုးရေးသည် အဓိကလုပ်ငန်းတစ်ရပ်ဖြစ်ပေတည်း။ ပြည်ထောင်စုမြန်မာနိုင်ငံတစ်ဝန်းလုံးမှ ထွက်သော အာလူး ၈၅ ရာခိုင်နှုန်းသည် ရှမ်းပြည်နယ်မှ ထွက်သည်။ ရှမ်းပြည်နယ်တွင် မြေပဲ၊ ကြက်သွန်ဖြူ၊ ဂျုံ၊ ကော်ဖီစေ့၊ ဗာဂျီးနီးယားဆေးတို့ကိုလည်း စိုက်ပျိုးဖြစ်ထွန်းသည်။ ရှမ်းပြည်မြောက်ပိုင်း သီပေါနယ်နှင့် တောင်ပိုင်းရပ်စောက်နှင့် မိုင်းကိုင်နယ်တို့မှ လိမ္မော်သီးအကြီးအကျယ်ထွက်သည်။ ဒုတိယကမ္ဘာစစ်ကြီး အပြီးတွင် သစ်တော်ခြံများကို တောင်ကြီး၊ အောင်ပန်း၊ ရပ်စောက်စသောနယ်များတွင် စိုက်ပျိုးလုပ်ကိုင်လျက်ရှိရာ ယခုအခါ ပြည်မသို့ အများအပြား တင်ပို့လျက်ရှိပေပြီ။ သံလွင်မြစ်၏ အရှေ့ဘက်နယ်ခြားဒေသတစ်လျှောက် ဘိန်းပင်များ

* တောင်ပိုင်းမဟုတ်။ တောင်ပိုင်ဖြစ်သည်။ တောင်ပိုင်နယ်သည် ရှမ်းပြည်မြောက်ပိုင်း ကျောက်မဲခရိုင်တွင် တည်ရှိသည်။ တောင်ပိုင်စော်ဘွား ခွန်ပန်းစိန်သည် ထင်ရှားသော ပုဂ္ဂိုလ်ဖြစ်သည်။

ကို အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ခဲ့ကြသော်လည်း ဘိန်းသည် တိုင်းရင်းသားများ၏ အကျင့်စာရိတ္တနှင့် ကျန်းမာသန်စွမ်းရေးကို အကြီးအကျယ် ထိခိုက်စေသဖြင့် ဘိန်းပင်စိုက်ပျိုးမှု ပပျောက်စေရန် သက်ဆိုင်ရာအာဏာပိုင်များက ကြိုးပမ်းလျက်ရှိလေသည်။ အင်းလေးရှိ ကျွန်းမျောများတွင် ဟင်းသီးဟင်းရွက်စိုက်ပျိုးရေးလုပ်ငန်းများ အောင်မြင်ဖြစ်ထွန်းသည်။[၁]

စိုက်ပျိုးရေးလုပ်ငန်းအပြင် အခြားစီးပွားရေးလုပ်ငန်းများလည်း ရှမ်းပြည်နယ်တွင် ဆောင်ရွက်လျက်ရှိကြသေးသည်။ အင်းလေးဒေသမှ ပိုးထည်လုပ်ငန်းသည် ကြီးကျယ်ကျော်ကြားလှပေသည်။ ပိုးထည်အများဆုံးလုပ်ကိုင်သောရွာမှာ အင်းပေါ်ခုံဖြစ်၍ နန်းပန်၊ သာလေးရွာများသည် ဒုတိယအများဆုံးလုပ်ကိုင်သည်။ ဟဲလုံ၊ ရွာကန့်လန့်၊ ပြားပင်၊ ကျွန်းကြီးရွာများတွင် ဖျင်ဖြူ ဖျင်နီများ၊ ရက်လုပ်ကြသည်။ အထည်ရက်လုပ်သောလုပ်ငန်းများအပြင် လဲချားနယ်မှ ယွန်းထည်လုပ်ငန်း၊ မိုင်းကိုင်နယ်မှ ရှမ်းစက္ကူ (မိုင်းကိုင်စက္ကူ) လုပ်ငန်းနှင့် အိုးခွက်လုပ်ငန်း၊ မိုင်းနောင်နယ်ထွက် ဝါးရက်ပစ္စည်းတို့ရှိပေသေးသည်။ ငွေထည်ပစ္စည်းများကိုလည်း ရှမ်းပြည်နယ်အနှံ့အပြား၌ လုပ်ကိုင်ကြသည်။ ဖော်ပြပါ လုပ်ငန်းများကို ရှေးသမားရိုးကျအတိုင်းပင် လုပ်ကိုင်နေကြ၍ တွင်ကျယ်သလောက် မတွင်ကျယ်နိုင်ချေ။[၂]

### ၅ း ၇ ။ တွင်းထွက်ပစ္စည်းများ

ဘူမိဗေဒအရဆိုလျှင် ရှမ်းပြည်နယ်သည် များသောအားဖြင့် သက်ရင့်ကျောက်မြေဖြစ်သည်။ ထို့ကြောင့် ရေနံမှတစ်ပါး သတ္တုမျိုးစုံကို

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ <u>ရှမ်းပြည်နယ်</u>၊ အတွဲ ၁၁၊ နှာ ၊ ၃၇၉-၃၈၀။

၂။ မြန်မာ့စွယ်စုံကျမ်း၊ <u>ရှမ်းပြည်နယ်</u>၊ အတွဲ ၁၁၊ နှာ ၊ ၃၈၀။

တွေ့ရသည်။ သို့သော် ရှမ်းပြည်မြောက်ပိုင်း နမ္မတူနှင့် ဘော်တွင်းရှိ ဘားမားကော်ပိုရေးရှင်းလီမိတက်၏ သတ္တုတွင်းလုပ်ငန်းသာလျှင် ကြီးကြီးကျယ်ကျယ် ဆောင်ရွက်နေသော လုပ်ငန်းကြီးဖြစ်သည်။ အခြားသတ္တုလုပ်ငန်းများကို တိုင်းရင်းသားများက တတ်အားသမျှ ငွေအင်အား၊ လူအင်အားတို့ဖြင့်သာ ဆောင်ရွက်နေကြခြင်းဖြစ်၍ ကြီးကြီးကျယ်ကျယ် မရှိလှချေ။ ၁၉၆၀ ပြည့်နှစ်အတွင်း ရှမ်းပြည်နယ်ထွက် သတ္တုများမှာ-

| | |
|---|---|
| ခဲတန်ချိန် | ၃၁၆၀၀ တန် |
| သွပ်တန်ချိန် | ၁၇၇၄၃ တန် |
| ကြေးနီတန်ချိန် | ၃၅၀ တန် |
| ခနောက်စိမ်းတန်ချိန် | ၂၀၉ တန် |
| သံရိုင်းတန်ချိန် | ၁၅၆၇၀ တန် |
| ငွေသတ္တု | ၂၀၄၁၃၉၅ အောင်စ |
| အခြားသတ္တုတန်ချိန် | ၄၁၀ ခန့် ဖြစ်လေသည်။ |

နမ္မတူ သတ္တုတွင်း (သို့မဟုတ်) ဘော်တွင်းသည် ခဲ၊ သွပ်၊ ဘော် အများဆုံးထွက်သော ကမ္ဘာကျော် သတ္တုတွင်းပေတည်း။ နမ္မတူသတ္တုတွင်းမှ လွဲလျှင် ဘော်ဆိုင်းသတ္တုတွင်းသည် အကျိုးအခံစားရဆုံးဟု ဆိုကြသည်။ ဘော်ဆိုင်းသတ္တုကြောကြီးသည် မိုင် ၄၀ ခန့်ရှည်လျား၍ ဟဲဟိုးတောင်ဘက် မဲနယ်တောင်မှ ရပ်စောက်နယ်အထိ ရောက်သည်ဟု ဆိုသည်။ ထိုသတ္တုကြော၏ အနောက်စူးစူး ကလောနှင့် မိတ္ထိလာခရိုင်အစပ်ရှိ မင်းပလောင်တောင်တန်း၌လည်း ခဲအမြောက်အမြား ရနိုင်သည်ဟုဆိုကြသည်။ ဒုတိယကမ္ဘာစစ်မတိုင်မီက ပင်းတယနယ်မြောက်ပိုင်းနှင့် မြင်ကြားဒိုးနယ်ရှိ တောင်မင်းကြီး၌လည်း ခဲများတူးဖော်ရရှိလေသည်။ သွပ်ထွက်စံချိန်တွင် ဘော်တွင်းကို ချိုးနိုင်မည့် သွပ်သတ္တုတွင်းသည် မိုင်းပွန်မြို့၏ တောင်ဘက်မိုင် ၃၀ ခန့်တွင် ရှိသော လုံချိန်သတ္တုတွင်းဖြစ်

သည်။ နမ့်တင်းရေစတံခွန်နှင့်လည်း မဝေးလှသော်လည်း လမ်းပန်းဆက်သွယ်ရေး အခက်အခဲကြောင့် ကြီးကြီးကျယ်ကျယ် လုပ်ကိုင်နိုင်ရန် မဖြစ်သေးပေ။[၁]

ရွှေအနည်းငယ် ရောနှောပါဝင်သော ကြေးနီတူးဖော်ခြင်းကို ဟဲဟိုးနယ်အတွင်း၌ လုပ်ကိုင်ကြသည်။ သို့သော် ရေအခက်အခဲရှိ၍ ကြီးကြီးကျယ်ကျယ် မလုပ်နိုင်ကြချေ။ စံကားနှင့် လင်းခေးစီရင်စုတို့၌ လည်း ကြေးနီများ တွေ့ရှိရသည်ဟု သိရလေသည်။ ဝင်ငွေဖြောင့်သော သတ္တုတစ်မျိုးသည် မင်းဂနီးဖြစ်၍ ဟိုပုံးနယ်၌ တူးဖော်လုပ်ကိုင်ကြသည်။ ဘော်တွင်းနှင့် ဘော်ဆိုင်းနယ်များအပြင် ဝနယ်အချို့ဒေသများ၌လည်း ငွေသတ္တုကို တူးဖော်ရရှိလေသည်။ ကျောက်မီးသွေးကို လားရှိုး၊ သီပေါ၊ တောင်ကြီးနယ်များအနီး၌ တွေ့ရသော်လည်း အမျိုးအစားမကောင်းချေ။ သာစည် ကလောမီးရထားလမ်းအနီး မင်းပလောင်တောင်တန်းမှ တွေ့ရှိရသော ကျောက်မီးသွေးသည် အမျိုးအစား မညံ့လှသော်လည်း အကြောင်းအမျိုးမျိုးကြောင့် တူးဖော်လုပ်ကိုင်နိုင်ခြင်း မရှိသေးပေ။[၂]

ရှေးက မောက်မယ်နယ်မှ အလွန်ကောင်းသော သံများတူးဖော်ရရှိ၍ မောက်မယ်နယ်ထွက် ဓားများသည် ကျော်ကြားလှသည်။ ကျိုင်းတုံနယ်နှင့် ကျိုင်းခမ်းစီရင်စုတို့မှလည်းကောင်း၊ ဝနယ်များမှလည်းကောင်း သံထွက်သည်ဟုဆိုကြလေသည်။ ၁၉၆၃ ခုနှစ် တောင်ကြီးမြို့အနီး ပင်းပက်တွင် သံတန်ချိန် ၆၃ သန်းခန့် ထွက်နိုင်မည့် သံတွင်းတစ်တွင်းကို တွေ့ရှိခဲ့ကြသည်။ သယ်ယူပို့ဆောင်ရေးလည်း မခက်ခဲသဖြင့် အလားအလာရှိသော သံတွင်းပေတည်း။ ရှမ်းပြည်နယ်တွင်မလေ့လာမတူးဖော်ရသေးသော သတ္တုရိုင်းအမျိုးမျိုးကို နေရာအနှံ့အပြား၌တွေ့ရှိနိုင်သည်။[၃]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းပြည်နယ်၊ နှာ ၊ ၃၈၀-၃၈၁။

၂။ ၎င်းစာ၊

၃။ ၎င်းစာ၊ နှာ၊ ၃၈၂။

## ၅ း ၈ ။ လမ်းပန်းဆက်သွယ်ရေး

ရှမ်းပြည်နယ်၏ လမ်းပန်းဆက်သွယ်ရေးတွင် အဓိကအားဖြင့် မီးရထားလမ်း၊ မော်တော်ကားလမ်းနှင့် လေယာဉ်လမ်းဟူ၍ သုံးမျိုးရှိပေသည်၊ သို့ရာတွင် အဆိုပါလမ်းများမှာ အဓိကမြို့ကြီးများသာ ဆက်သွယ်ထား၍ ယင်းလမ်းကြောင်းနှင့်ဝေးသော အရပ်များတွင်ခြေကျင်လမ်းများနှင့် ဝန်တင်တိရစ္ဆာန်သွားလမ်းများကိုသာ အသုံးပြုကြသည်၊ ရှမ်းပြည်နယ်နှင့် ပြည်မဆက်သွယ်သော မီးရထားလမ်းနှစ်သွယ်ရှိ၍ ထိုလမ်းတို့မှာ မန္တလေးမှ လားရှိုးသို့သွားသောလမ်းနှင့် သာစည်မှ ရွှေညောင်သို့သွားသောလမ်းဖြစ်သည်၊ မန္တလေး-လားရှိုးလမ်းတွင် နမ့်ယော်မှ နမ္မတူဘော်တွင်းသို့ခွဲထွက်သော လမ်းခွဲရှိသည်။[၁] ယခုအခါရွှေညောင်မှ လွယ်ကော်သို့ မီးရထားလမ်းကိုလည်း ဖောက်လုပ်ဆက်သွယ်ထားသည့်အပြင် ရွှေညောင်မှ နမ့်စန်၊ မိုးနဲအထိရထားလမ်း ဖောက်လုပ်ရေးစီမံကိန်းကို အကောင်အထည် ဖော်လျက်ရှိသည်။

### ၅ း ၈ း ၁ ။ ကားလမ်းများ[၂]

ရှမ်းပြည်မြောက်ပိုင်းတွင် မန္တလေးမှ မြန်မာတရုတ်နယ်ခြားမြို့ကလေးဖြစ်သော ကျူကုတ်အရောက် တောက်လျှောက်သွားနိုင်သော မော်တော်ကားလမ်းရှိသည်။ ထိုလမ်းသည် ကျောက်မဲ၊ သီပေါ၊ လားရှိုး သိန္နီ၊ ကွတ်ခိုင်၊ မိုင်းယုတို့ကို ဖြတ်သန်းသွား၍ မန္တလေးမှ မိုင်းယုအထိ ၂၇၇ မိုင်ရှိသည်။ မိုင်းယုမှ အနောက်တောင်ဘက်ရှိမူဆယ်သို့လည်းကောင်း၊ မူဆယ်မှတစ်ဖန် အနောက်တော်ဘက်ယွန်းယွန်းရှိ နမ်ခမ်းမြို့သို့လည်းကောင်း လမ်းခွဲရှိသည်။ နမ်းခမ်းမြို့မှတစ်ဆင့် ကချင်ပြည်နယ်ရှိ

---

[၁] ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၂၅။
[၂] မြန်မာ့စွယ်စုံကျမ်း၊ ရှမ်းပြည်နယ်၊ အတွဲ ၁၁၊ နှာ ၊ ၃၈၃-၅ နှင့် မြန်မာနိုင်ငံမြေပုံ။

ဗန်းမော်၊ မြစ်ကြီးနား၊ ပူတာအိုအထိ သွားနိုင်လေသည်။ မန္တလေးမှ နယ်စပ်အရောက် ထိုမော်တော်ကားလမ်းတစ်လျှောက်တွင် လမ်းခွဲရှိသေးရာ ကျောက်မဲမှ မိုးကုတ်၊ မိုးမိတ်တို့သို့လည်းကောင်း၊ ထိုမှတစ်ဆင့် သပိတ်ကျင်းသို့လည်းကောင်း၊ နမ္မတူနှင့် ဘော်တွင်းသို့လည်းကောင်း၊ လားရှိုးမှ နမ္မတူနှင့် ဘော်တွင်းသို့လည်းကောင်း၊ လားရှိုးမယ်ဟန် မှ မိုင်းရယ်နှင့် တန့်ယန်းသို့လည်းကောင်း၊ တန့်ယန်းမှ မိုင်းရှူးသို့လည်းကောင်း၊ တန့်ယန်းမှ သံလွင်မြစ်ကို တာကောင်းအစ်တံတားမှ ဖြတ်၍ တရုတ်နယ်စပ်ရှိ ပန်ဆန်းသို့လည်းကောင်း လမ်းခွဲများရှိသည်။

ရှမ်းပြည်တောင်ပိုင်းတွင် သာစည်မှ ယိုးဒယားနယ်စပ်ရှိ တာချီလိတ်သို့အရောက် ၄၈၅ မိုင်ခန့် ရှည်လျားသော မော်တော်ကားလမ်းရှည်ကြီးဖြင့် တောက်လျှောက်သွားနိုင်သည်။ ဖြတ်သန်းသွားသော မြို့များမှာ ကလော၊ တောင်ကြီး၊ ဟိုပုံး၊ လွိုင်လင်၊ နမ့်စန်၊ ကွန်ဟိန်း၊ တာကော်၊ ကျိုင်းတုံတို့ဖြစ်သည်။ ထိုမော်တော်ကားလမ်းရှည်ကြီးမှလည်း လမ်းခွဲများရှိလေရာ နမ့်စန်မှ မိုးနဲ၊ လင်းခေး၊ မိုင်းပန်သို့ သွားသောလမ်းခွဲရှိသည်၊ မိုးနဲမှ မောက်မယ်သို့ သွားသော လမ်းခွဲလည်းရှိသည်။ အောင်ပန်းမှ ပင်းတယသို့ ၂၄ မိုင်ရှည်သော လမ်းခွဲရှိသည်။ ပင်းတယမှ တစ်ဖန် ၃၂ မိုင်ဝေးကွာသော ရပ်စောက်သို့ သွားလာနိုင်၍ ရပ်စောက်တွင် ဗထူးတပ်မြို့ ရှိလေသည်။ ပင်းတယမှ ရွာငံသို့သွားသော ကားလမ်းမှတစ်ဆင့် ကျောက်ဆည်သို့ ပေါက်ရောက်သော ကားလမ်းလည်းရှိသည်၊ ထို့အပြင် ဟဲဟိုးမှ ဘော်ဆိုင်းသို့ ၁၉ မိုင်မျှရှည်သော လမ်းခွဲရှိသည်၊ တောင်ကြီး မရောက်မီ ရွှေညောင်မှ ညောင်ရွှေမြို့သို့ (၇) မိုင်ရှည်သော လမ်းခွဲရှိပြီး ညောင်ရွှေမှ မိုင်းသောက်အထိ ကားလမ်းပေါက်ရောက်သည်၊ မိုင်းသောက်မှ ပင်လောင်းအထိလည်း ကားလမ်းပေါက်ရောက်သည်။

ရှမ်းပြည်မြောက်ပိုင်းနှင့် တောင်ပိုင်းကို ဆက်သွယ်ထားသော

မော်တော်ကားလမ်းများမှာ လွိုင်လင်၊ သီပေါ၊ လားရှိုး ၁၈၅ မိုင် တစ်လမ်းနှင့် လွိုင်လင်၊ ကျေးသီးမန်စံ၊ လားရှိုး ၂၀၂ မိုင် တစ်လမ်းတို့ဖြစ်သည်။ ထိုလမ်းရှည်ကြီးများမှာ လမ်းခွဲတိုများလည်းရှိသေးသည်။ လွိုင်လင်အနီး ရှိနမ့်စန်မှ မိုးနဲ၊ လင်းခေး၊ မိုင်းပန်သို့ ရောက်ရှိနိုင်သော လမ်းခွဲတစ်ခု ရှိသေးသည်။ ရှမ်းပြည်နယ်နှင့် ကယားပြည်နယ်ကို ဆက်သွယ်နိုင်သော မော်တော်ကားလမ်းနှစ်လမ်းမှာ (၁) ဟိုပုံးမှ ကယားမြို့တော် လွယ်ကော်သို့အရောက် ၈၅ မိုင်ရှည်လျားသောလမ်း၊ (၂) အောင်ပန်းမှ ပင်လောင်း၊ ပင်လောင်းမှ လွယ်ကော်သို့အရောက် ၁၀၅ မိုင်ရှည်လျားသော လမ်းတို့ ဖြစ်၍ အောင်ပန်းလွယ်ကော်လမ်းသည် ပို၍ကောင်းလေသည်။ ရှမ်းပြည်နယ်သည် ပြည်မနှင့်ဆက်သွယ်သော လေကြောင်းခရီးလည်းရှိသည်။ လေယာဉ်ကွင်းရှိသော မြို့များမှာ လားရှိုး၊ ဟဲဟိုး၊ ကျိုင်းတုံ၊ တာချီလိတ်၊ နမ့်စန်နှင့် မိုင်းဆတ်တို့ဖြစ်ကြသည်။

## ၅း၉ ။ ပြည်ထောင်စုမြန်မာနိုင်ငံရှိရှမ်းလူမျိုးများ

ရှမ်းလူမျိုးများသည် မူလအစက တစ်နေရာတည်းမှ ပေါက်ဖွားလာခဲ့ကြသူများ ဖြစ်ကြသော်လည်း အကြောင်းအမျိုးမျိုးကြောင့်လည်းကောင်း၊ နယ်မြေဒေသကွဲပြားခြားနားမှုကြောင့်လည်းကောင်း ရှမ်းအမည်ကွဲများလည်း အမျိုးမျိုးကွဲပြားလာသည်ကို တွေ့ရသည်။ ရှမ်းလူမျိုးကွဲတို့၏ အခြေခံစကားများမှာ တူညီမှုရှိကြသော်လည်း အသံနေအသံထားအချို့မှာမူ ထားဝယ်သားနှင့် အညာသားမြန်မာလူမျိုးများ ကွဲပြားသကဲ့သို့လည်းကောင်း၊ ရခိုင်နှင့် မြန်မာလူမျိုးများ စကားကွဲလွဲမှုကဲ့သို့လည်းကောင်း ရှိကြသည်။ ၎င်းအပြင် ခန္တီးရှမ်း၊ အဟုမ်ရှမ်းနှင့် တိုင်းလိုင် (ခေါ်)ရှမ်းနီတို့၏ စကားသည် ရှမ်းကြီး၊ ထိုင်း၊ လောစသောစကားတို့နှင့် ကြိယာပုဒ်၊ ကံပုဒ်ရှေ့နောက်ထားပုံ ကွဲပြားကြသည်ကို တွေ့ရသည်။

ဥပမာ ရှမ်းကြီးတို့စကား၌"ကျင်ခေါက်- ထမင်းစားသည်"တွင် "ကျင်-စား သည်"ဟူသော ကြိယာကို ရှေ့ကထား၍ "ခေါက်-ထမင်း" ဟူသော ကံ ပုဒ်ကို နောက်မှထားသည်။ ခန္တီးရှမ်း အဟုမ်ရှမ်းနှင့် ရှမ်းနီတို့ကမူ မြန်မာ ဝါကျကဲ့သို့ "ခေါက်-ထမင်း" ဟူသော ကံပုဒ်ကို ရှေ့ကထား၍ "ကျင်-စား သည်" ဟူသော ကြိယာကိုနောက်မှထားကာ "ခေါက်ကျင်" ပြောဆိုကြ သည်။

ခေတ်စနစ်များ ပြောင်းလဲတိုးတက်လာသည်နှင့်အမျှ ခေတ်သစ် ထိုင်းနှင့်လာဝစကားတို့တွင် သက္ကတ၊ ပါဠိသက်များ များစွာပါဝင်လာကြ သဖြင့် ကျန်သော ရှမ်းအုပ်စုများနှင့် စကားကွဲလွဲမှုများ များပြားလာသည် ကို တွေ့ရသည်။ ရှမ်းကြီးတို့၏ နေထိုင်ရာဒေသသည် အာရှတိုက်တွင် ပျံ့နှံ့ရောက်ရှိနေကြသော ရှမ်းလူမျိုးစုတို့၏ အလယ်ဗဟိုတွင် ကျရောက် နေသဖြင့် ရှမ်းကြီးစကားသည် စကားဖိုစကားမ (ရှေ့စကား၊နောက်စ ကား) နှစ်မျိုးစလုံးကိုတွဲ၍ အသုံးပြုကြသဖြင့် ရှမ်းလူမျိုးတိုင်း နားလည် လွယ် သဘောပေါက်လွယ်သော စကားဖြစ်ပေသည်။ ဥပမာ 'သွားသည်' ကို ရှမ်းကြီးတို့က 'ကွာကွာပိုင်ပိုင်'ဟူ၍ တွဲသုံးသည်ကို ထိုင်းတို့ကမူ 'ပိုင်' တစ်လုံးတည်းကိုသာ သုံးသည်။ 'ငယ်သည်'ကို ရှမ်းကြီးတို့က 'လိတ် နွဲ့'ဟူ၍ နှစ်မျိုးစလုံးသုံးသော်လည်း ထိုင်းနှင့်လာဝတို့က 'နွဲ့'ဟူ၍သာ သုံးနှုန်းပြောဆိုကြသည်။ သို့သော် ရှမ်းလူမျိုးများ၏ အခြေခံ ဂဏန်းသင်္ချာ ရေတွက်ပုံမှာ အသံနိမ့်အသံမြင့်မှလွဲ၍ အားလုံးတူညီကြသည်ကို တွေ့ရ သည်။ ဥပမာ "တစ်၊ နှစ်၊ သုံး၊ လေး၊ ငါး၊ ခြောက်၊ ခုနစ်၊ ရှစ်၊ ကိုး၊ တစ်ဆယ်"ကို ရှမ်းလူမျိုးများက "နိမ်၊ ဆောင်၊ ဆမ်၊ ဆိ၊ ဟာ့၊ ဟုတ်၊ စစ်၊ ပက်(တ်)၊ ကောက်၊ ဆစ်(ပ်)" ဟုဆိုသည်။ ပြည်ထောင်စု မြန်မာနိုင်ငံ တော်အတွင်း၌ နေထိုင်ကြသော ရှမ်းလူမျိုးများကို ဆက်လက်ဖော်ပြလို ပါသည်။

၅း၉း၁။ ရှမ်းကြီး (ခေါ်) တိုင်းလုံ (ခေါ်) တိုင်းယိုင်

ရှမ်းကြီးတို့သည် ရှမ်းပြည်နယ် အနှံ့အပြားတွင်လည်းကောင်း၊ ကချင်ပြည်နယ်၊ ကယားပြည်နယ်တို့တွင်လည်းကောင်း၊ နေထိုင်ကြသည်။ မြေပြန့်တွင် ပခုက္ကူ၊ မန္တလေး၊ ကျောက်ဆည်၊ ဖြူး၊ တောင်ငူ၊ ပဲခူး၊ တိုက်ကြီး၊ ရန်ကုန်စသော မြို့ကြီးများတွင်လည်း ရှမ်းစု၊ ရှမ်းရွာဟူ၍ ဖွဲ့စည်းနေထိုင်ကြသည်ကို တွေ့ရသည်။ သို့သော် 'ရှမ်းကြာ ဗမာဖြစ်' ဟူသော စကားအရ အချို့ဒေသရှိ ရှမ်းများသည် မြန်မာဖြစ်သွားကြသည်လည်း ရှိကြသည်။ ရှမ်းကြီးတို့သည် အိုက်လောဝ် Ai-Lao တို့ဖြစ်ကြပြီး လွန်ခဲ့သော နှစ်ပေါင်းနှစ်ထောင်ခန့်က တရုတ်တို့ကို စစ်ရှုံးပြီး သံလွင်မြစ်၊ ဧရာဝတီမြစ်အတိုင်း စုန်ဆင်းလာခဲ့ကြသူများဖြစ်သည်။ နန်ချောင်ခေတ်တွင် ရှမ်းကြီးတို့သည် မိန်းမင်းဆက် Mong Dynasty များဖြစ်ကြပြီး နန်ချောင်ထီးနန်းကို စိုက်ထူခဲ့ကြသူများဖြစ်သည်။ လုံနိုင်ငံတော်မှလာကြသော ရှမ်းများဖြစ်ကြသဖြင့် "တိုင်းလုံ- ရှမ်းကြီး" ဟုခေါ်ကြ၏။ 'လုံ'သည် ရှမ်းစကားတွင် "ကြီးသည်"ဟု အဓိပ္ပါယ်ရှိ၏။ "ယိုင်" သည်လည်း "ကြီးသည်" ဟု အဓိပ္ပါယ်ထွက်သဖြင့် ရှမ်းကြီးကို "တိုင်းယိုင်" ဟုလည်းခေါ်ကြသည်။ "ယိုင်" Yao သည် "ငေါဝ်" Ngao နှင့် တူသည်။ "ငေါင်" မှ တစ်ဆင့် "ငြို့" ဖြစ်လာသည် ဟုဆိုသည်။[၁]

၅း၉း၂။ တိုင်းလိုင်း

တိုင်းလိုင်းတို့သည် ရှမ်းပြည်နယ်၊ ထိုင်းနိုင်ငံ၊ တရုတ်နိုင်ငံ နယ်စပ်တို့တွင် နေထိုင်ကြပြီး အမျိုးသမီးများသည် အကြောင်အကြားအဝတ်များကို ဝတ်ဆင်သောကြောင့် တိုင်းလိုင်း ဟုခေါ်ကြခြင်းဖြစ်သည်။

---

၁ Hsen (Khur), The Oregin of Tais and A Short History of Shan. P.121

အကြောင်အကြားအရောင်ကို ရှမ်းစကားအရ "လိုင်း" ဟုခေါ်သည်။[၁]

၅ း ၉ း ၃ ။ တိုင်းနေ၊ တိုင်းမောဝ်၊ တိုင်းတုမ်း၊ တိုင်းတိန်၊
တိုင်းဆာ၊ တိုင်းလာ့၊ တိုင်းဝမ်း၊ တိုင်းဟိန်း(မ်)
တိုင်းလျဦး(မ်)၊ တိုင်းခွင်(န်)

ဤရှမ်းအုပ်စုတို့သည် နေရာဒေသကွဲပြား၍ အမည်များ ကွဲပြားသွားကြခြင်းသာဖြစ်သည်။ ၎င်းတို့၏ မူရင်းမှာ မောနိုင်ငံတော်မှဖြစ်ပြီး နန်ချောင်မင်းဆက်ကို တည်ထောင်ကြသော ရှမ်းအုပ်စုများဖြစ်သည်၊ နန်ချောင်မင်းဆက်တွင် ထောဝ့် Tawn Dynesty မင်းဆက်များတွင် အပါအဝင်ဖြစ်သည်။ ရှမ်းပြည်နယ် အနှံ့အပြားတွင် အုပ်စုအလိုက် နေထိုင်ကြသည်။ မြန်မာပြည်မြို့ကြီးများတွင်လည်း စီးပွားရေးလုပ်ငန်းများကို လုပ်ကိုင်ကြသည်ကို တွေ့ရသည်။[၂]

၅ း ၉ း ၄ ။ တိုင်းလူး(ခေါ်) တိုင်းလိ

ဆစ်ဆောင်ပန်းနားတွင် နေထိုင်ကြသော ရှမ်းလူမျိုးများဖြစ်ကြ၍ ရှမ်းပြည်နယ် အရှေ့ပိုင်း ကျိုင်းတုံ၊ မိုင်းဆတ်၊ မိုင်းယောင်း၊ တာချီလိတ်တို့တွင် အများဆုံးနေထိုင်ကြသည်။[၃]

၅ း ၉ း ၅ ။ တိုင်းဆမ်တောင့်

ရှမ်းပြည်နယ် အရှေ့ပိုင်းတွင် နေထိုင်ကြ၍ အမျိုးသမီးများသည် အင်္ကျီအနက်ရောင်၊ ထဘီစင်းကြားအရောင်ကို ဝတ်ဆင်ကြသည်။ အမျိုး

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan.P.121

၂။ Ibit.

၃။ Ibit.

သားများမှ အခြားသော ရှမ်းအမျိုးသားများကဲ့သို့ ဝတ်ဆင်ကြသည်။[၁]

၅း၉း၆။ တိုင်းအင်

မွန်ခမာသွေးနှောသော ရှမ်းလူမျိုးများဖြစ်ကြပြီး မိုင်းကိုး၊ မိုင်းလိန်း(မ်) မိုင်းဖြတ်စသည့်အရပ်တို့တွင် နေထိုင်ကြသည်။[၂]

၅း၉း၇။ တိုင်းခွဲ (ခေါ်) ဂုံရှမ်း

ခွဲတို့သည် ထိုင်းတရုတ်အုပ်စုနှင့်အတူ တရုတ်ပြည်မှ တောင်ဖက်သို့ ဆင်းသက်လာသူများ ဖြစ်ကြသည်။ မြန်မာနိုင်ငံအတွင်းသို့ ရွှေလီမြစ်ကြောင်းအတိုင်း ဆင်းသက်လာကြသည်။ ထိုမှတစ်ဖန် ရှမ်းကုန်းပြင်မြင့်ကိုဖြတ်၍ အရှေ့စူးစူးဘက်သို့ ရွှေ့ပြောင်းခဲ့ရာ ယခုအရှေ့ပိုင်းရှမ်းပြည်နယ်နှင့် မြန်မာ၊ လောနှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံ ယူနန်နယ်စပ်ဒေသများတွင် အနှံ့အပြား နေထိုင်ခဲ့ကြသည်။ ဂုံ(ခွဲ)အမျိုးသားတို့ အများဆုံးနေရာဒေသမှာ ကျိုင်းတုံနယ်ဖြစ်သည်။ ရှေးနှစ်ပေါင်းများစွာကပင် မြန်မာများနှင့် အဆက်အသွယ်ရှိခဲ့သည်ကို မြန်မာစာပေတွင် တွေ့ရပေသည်။ မြန်မာသမိုင်းများတွင် ဂုံ(ခွဲ) အမျိုးသားတို့နေထိုင်ရာ ကျိုင်းတုံနယ်ကို "ခေမာဝရတိုင်း ဂုံပြည်" ဟုရေးသားထားသည်။[၃]

ရှမ်းပြည်ပထဝီအနေအထားအရ မြစ်ရေချောင်းရေများသည် များသောအားဖြင့် မြောက်ဘက်မှ တောင်ဘက်သို့သာ စီးဆင်းကြသည်။ နမ့်ခွဲချောင်းကား တောင်ဘက်မှ မြောက်ဘက်သို့ စီးဆင်းသဖြင့် ယင်း

---

၁။ Hsen (Khur), The Oregin of Tais and A Short History of Shan. P.122.

၂။ Ibit.

၃။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၅၆-၅၈။

ချောင်းကို ပြောင်းပြန်စီးသောချောင်း "နမ့်ခွံ"ဟုခေါ် ဆိုကြခြင်းဖြစ်သည်။ ထိုနမ့်ခွံချောင်းအနီးတွင် နေထိုင်ကြသဖြင့် ထိုချောင်းကို အစွဲပြု၍ "တိုင်းခွံ" ဟုခေါ် ဆိုခြင်းဖြစ်သည်ဟု ဆိုသည်။ ရှေးလူကြီးများ ပြောစကားအရ ညီနောင်သုံးပါးတို့သည် နောင်တော်ကြီးသည် ကျိုင်းသေဘ်ကို အုပ်စိုးသည်၊ နောင်တော်လတ်သည် မိန်းမျဉ်းကို အုပ်စိုး၍ ညီတော်ငယ်သည် ကျိုင်းတုံကို အုပ်စိုးသည်ဟုဆိုသည်။ ညီတော်ငယ်အုပ်စိုးသော ကျိုင်းတုံပြည်ကြီးသည် ကျယ်ဝန်းလှပြီး ညီတော်ငယ်မှာ အသက်ငယ်သေးသဖြင့် အုပ်ချုပ်နိုင်စွမ်းမရှိသေးသောကြောင့် နောင်တော်လတ်နှင့် တိုင်းပြည်လွှဲလှယ်အုပ်ချုပ်လေသည်။ ညီတော်ငယ် အသက်ကြီးလာ၍ အမြော်အမြင်ရှိလာသောအခါ မိမိတိုင်းပြည်ကို နောင်တော်လတ်ထံ ပြန်လည်လွှဲလှယ်ယူကြသဖြင့် ကျိုင်းတုံကို အစိုးရသော ညီတော်ငယ်ကို "စဝ်ခွံ" ခွံသခင်ဟုခေါ်၍ တိုင်းသူပြည်သားများကိုလည်း 'တိုင်းခွံ'ဟု အမည်တွင်ကြသည်ဟုဆိုသည်။[၁]

ၚင်းအပြင် ရှမ်းစကားအရ "ခွံ"သည် "ပြန်လှည့်လာသည်"ဟု အဓိပ္ပါယ်ရှိသည်။ ဤရှမ်းအုပ်စုသည် တောင်ပိုင်းဒေသသို့ သွားရောက်နေထိုင်ကြရာမှ မရောက်နိုင်ဘဲ ဤဒေသသို့ ပြန်လှည့်လာခဲ့ကြသဖြင့် "တိုင်းခွံ" ဟုခေါ်တွင်ခဲ့ကြသည်ဟုလည်း ဆိုသည်။[၂]

၅ း ၉ း ၈ ။ တိုင်းညန်း(မ်)

မိုင်းညန်း(မ်) ဒေသတွင်နေထိုင်ကြသော ရှမ်းများဖြစ်ကြသည်။[၃]

---

၁။ ပူလွှယ်သန်းကျိုင်းတုံ (အသက် ၈၆ နှစ်)၏ ပြောပြချက်၊ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ၊

၂။ Hsen (Khur).The Oregin of Tais and A Short History of Shan.P.122

၃။ Ibit.

၅း၉း၉ ။ တိုင်းနောင်(ခေါ်)တိုင်းဟိုင်းယာ

အင်းလေးဒေသတွင် အင်းသားများနှင့် အတူနေထိုင်ကြသော ရှမ်းများဖြစ်ကြသည်။ ဖောင်တော်ဦးဘုရားအနီး နမ့်ဟူးရွာသည် တိုင်းနောင်ရွာဖြစ်သည်။[၁]

၅း၉း၁၀ ။ တိုင်းယန်း

နမ့်စန်၊ မိုင်းနောင်နှင့် ရှမ်းပြည်တောင်ပိုင်းတွင် နေထိုင်ကြသည်။ တရုတ်ပြည်တွင်ရှိသော တိုင်းနွံ၊ ဗီယက်နမ်တွင်ရှိသော တိုင်းလမ်တို့နှင့် မျိုးတူသည်။ အနက်ရောင်ဝတ်စုံများကို ဝတ်ဆင်ကြပြီး တောင်ယာအလုပ်ကို လုပ်ကိုင်စားသောက်ကြသည်။[၂]

၅း၉း၁၁။ တိုင်းလွယ်

လွိုင်လင်ခရိုင်နှင့် ဆနင်းတောင်တန်းတွင် နေထိုင်ကြသော ရှမ်းလူမျိုးများဖြစ်ကြသည်။ တောင်ယာလုပ်ငန်းများကို လုပ်ကိုင်ကြသည်။ တောင်ပေါ်ဒေသတွင် နေထိုင်သောကြောင့် 'တိုင်းလွယ်'ဟုခေါ်ခြင်းဖြစ်သည်။ ရှမ်းကြီးတို့နှင့်တူပြီး စကားသံ အနည်းငယ်ဝဲသည်။[၃]

၅း၉း၁၂ ။ တိုင်းလှိုင်

တိုင်းလှိုင်ကို ရှေးယခင်တွင် မြန်မာတို့က(ဒရဲ ၊ သရဲ) ဟုခေါ်ကြသည်။ ကချင်ပြည်နယ်၊ ချင်းပြည်နယ်တို့တွင် အများအပြားနေထိုင်ကြ၍ စစ်ကိုင်းတိုင်း၌လည်း တွေ့ရသည်။ ရှမ်းနီဟူ၍လည်းကောင်း၊

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan.P.122

၂။ Ibit.

၃။ Ibit.op.cit., P.123

ရှမ်းကလေးဟူ၍လည်းကောင်း ခေါ်ကြသေးသည်။ ရှမ်းပြည်တောင်ပိုင်း တောင်ကြီးအနီး တောင်နီ၊ တောင်လေးလုံး အရပ်တွင်လည်း တိုင်းလွိုင် လူမျိုးများ ရှိကြသည်။ ၎င်းတို့သည် ညောင်ရွှေစော်ဘွားကို စစ်ကူတိုက် ခိုက်ရန် ပင်လယ်ဘူးမှ ရောက်လာကြခြင်းဖြစ်သည်ဟုဆိုသည်။ တိုင်းလွိုင် တို့သည် နန်းချောင်ခေတ်တွင် စစ်သူရဲကောင်းများ ဖြစ်ကြ၍ စစ်တိုက် ရာတွင် သတ္တိလွန်စွာရှိကြသူများဖြစ်ကြသည်။ အနီရောင်ဝတ်စုံကို ဝတ် ထားကြသဖြင့် 'တိုင်းလွိုင်'ဟု ခေါ်ဆိုခြင်းဖြစ်သည်။ ယင်းတို့ ဝတ်ထား ခြင်းသည် ရဲရင့်သော တိုင်းလွိုင်တို့၏ ရဲရင့်ခြင်းလက္ခဏာကို ဖော်ညွှန်း သည်။[၁]

၅ း ၉ း ၁၃ ။ တိုင်းခမ်းတိ (ခေါ်) ခန္တီးရှမ်း

ပူတာအို၊ လုပ်ခွန်၊ ဟူးကောင်းချိုင့်ဝှမ်း၊ ချင်းတွင်းမြစ်ဝှမ်း၊ ဗြဟ္မပုတ္တရမြစ်ဝှမ်း၊ ဆာဒိယ (အိန္ဒိယ) နှင့် ဆင်ကလိုင်းဒေသတို့တွင် နေထိုင်ကြသော ရှမ်းများဖြစ်ကြသည်။ နန်းချောင်ဘုရင် ခိလိုဖုန်း (အေဒီ ၇၅၄ - ၇၆၃ ) သည် ခန္တီးတို့၏ဒေသ ပူတာအိုတွင် တပ်စခန်းချခဲ့ဖူးသည်။ နန်းချောင်နိုင်ငံတော်၏ ဘဏ္ဍာတော်အတွက် ခန္တီးတို့၏ ဆား၊ ရွှေ ပယင်း ထောက်ပံ့ပေးခဲ့ရသည်။ ခန္တီးရှမ်းအုပ်စုသည် ဆာဒိယ၊ ခန္တီးလုံ၊ ဆင်ကလိုင် ခန္တီး၊ သောင်သွပ်ခန္တီး ဟူ၍ဖြစ်သည်။[၂]

၅ း ၁၀ ။ လူမျိုးအုပ်စုများ

ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ ပြည်ထောင်စုဖွား တိုင်းရင်း သားများအားလုံးသည် မွန်ဂိုမျိုးနွယ်မှ ပေါက်ဖွားဆင်းသက်လာကြသူ

---

၁။ Hsen (Khur),The Oregin of Tais and A Short History of Shan.P.123

၂။ Ibit.

များဖြစ်သည်ဟု မနုဿဗေဒပါရဂူကြီးများက မှတ်ချက်ချခဲ့သည်။ ရှေး နှစ်ပေါင်း ပဝေသဏီက အောက်ပါအုပ်စုကြီးသုံးစုခွဲကာ မြန်မာနိုင်ငံအ တွင်းသို့ ဝင်ရောက်နေထိုင်လာသည်ဟု ယူဆကြသည်။

၎င်းတို့မှာ-

(၁) မွန် ခမာ အုပ်စု၊

(၂) တိဗက် မြန်မာ အုပ်စု၊

(၃) ထိုင်း တရုတ် အုပ်စုတို့ဖြစ်ကြသည်။[၁]

ရှမ်းပြည်နယ်သို့ ဝင်ရောက်ခဲ့ကြသော ထိုအုပ်စုကြီးသုံးစုမှ ယခု တိုင် တွေ့ရှိရသော လူမျိုးများမှာ အောက်ပါအတိုင်းဖြစ်သည်။

၎င်းတို့မှာ-

မွန် ခမာအုပ်စုကြီးမှ ပေါက်ဖွားလာသော-

(၁) ဝ၊

(၂) ပလောင်၊

(၃) မြောင်၊

တိဗက် မြန်မာအုပ်စုကြီးမှ ပေါက်ဖွားလာသော-

(၁) ကချင်၊

(၂) မြန်မာနှင့် ရှေးမြန်မာအနွယ်စုများ။

(၃) လိုလိုမုဆိုး အုပ်စုဝင်များဖြစ်သော-

(က) လီဆူ (ခေါ်) ယောယင်၊

(ခ) လားဟူ၊

(ဂ) မုဆိုး၊

(ဃ) ကော်။

---

[၁] တိုင်းရင်းသားယဉ်ကျေးမှု ရိုးရာဓလေ့ထုံးစံများ (ရှမ်း)၊ နှာ ၊ ၃၀။

ထိုင်း တရုတ်အုပ်စုကြီးမှ ပေါက်ဖွားလာသော-

(၁) ရှမ်း၊

(၂) ရှမ်းတရုတ်များ၊

(၃) ကိုးကန့်များ ဖြစ်ကြသည်။[၁]

ရှမ်းပြည်နယ်တွင် နေထိုင်ကြသော တိုင်းရင်းသားများအားလုံးကို ရှမ်းတိုင်းရင်းသားများဟု ကျန်တိုင်းရင်းသားများက ခြုံ၍ခေါ်လိုက်ပြီး ရှမ်းပြည်နယ်နေ ပြည်သူအားလုံးကိုလည်း ရှမ်းလူမျိုးများသာ ဖြစ်သည်ဟု အမှတ်မထင် ယူဆထားကြသည်။ အမှန်မှာ ရှမ်းပြည်နယ်တွင် ရှမ်းအမျိုးသားများသာ မဟုတ်ပဲ အခြားတိုင်းရင်းသားပေါင်း လေးဆယ်ကျော်တို့ နေထိုင်လျက်ရှိကြသည်။[၂]

လူဦးရေ အသင့်အတင့်များသော တိုင်းရင်းသားများသည် ၂၇ မျိုးရှိသည်။ ၎င်းတို့မှာ-

| | | |
|---|---|---|
| (၁) ရှမ်း | (၂) ပအိုဝ်း | (၃) ပလောင် |
| (၄) ကချင် | (၅) အင်းသား | (၆) ဓနု |
| (၇) ဝ | (၈) လားဟူ | (၉) မူဆေး |
| (၁၀)ကော် | (၁၁)မိုင်သာ(ရှမ်းတရုပ်) | (၁၂)ပဒေါင်(ကယမ်း) |
| (၁၃)တော်ရှီး | (၁၄)ယင်း | (၁၅)ခွဲ (ဂုံ) |
| (၁၆) လိ (လူး) | (၁၇) လျှဦး (လမ်း) | (၁၈) ကယား |
| (၁၉) ထိုလွိုက် | (၂၀) စန်တို | (၂၁) လီရှော |
| (၂၂) ယင်းကြား | (၂၃) ယင်းနက် | (၂၄) ကိုးကန့် |
| (၂၅) မြောင်ဇီး | (၂၆) တိုင်းနေ(ရှမ်းတရုတ်) | (၂၇)ယွန်းနှင့် ယွန်းအနွယ်ဝင်များ |

တို့ဖြစ်ကြသည်။[၃]

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၃၀-၃၁

၂။ ၎င်း၊စာ။

၃။ ၎င်း၊စာ။

အထက်ပါ လူမျိုး (၂၇) မျိုးအပြင် ဒေသန္တရ အခြေအနေအရ ကူးလူးဆက်ဆံမှု နည်းပါးခြင်းကြောင့် သီးခြားလူမျိုးအသွင်ဖြင့် ကွက်ကွက်ကျား တွေ့ရှိရသော တိုင်းရင်းသားများမှာ-

(၁) ကွိ
(၂) အခေ(အခို)
(၃) ပလေး
(၄) အပယ်
(၅) ဆံတောက်
(၆) ဆံတင်
(၆) အင်
(၇) အင်
(၈) အင်စင်(အစီး)
(၉) ခမူ
(၁၀) ခမင်
(၁၁) လိ
(၁၂) ကျောက်စီ
(၁၃) လ(လွယ်လ)
(၁၄) မူဆေး
(၁၅) ယဲကြား
(၁၆) ယောယင်
(၁၇) လင်း
(၁၈) ဖျင်
(၁၈) စိတ်
(၁၉) စိတ်
(၂၀) ယင်းလမ်(ယင်းနက်)
(၂၁) ပဒဲ
(၂၂) ဇယိမ်း
(၂၃) ဂေခို
(၂၄) ဂေဘား
(၂၅) မနုမနော
(၂၆) ယင်းတလဲ
(၂၇) ဂဒူး
(၂၈) ဂကာန်း
(၂၉) လွယ်
(၃၀) မြွေ
(၃၁) ပွေး
(၃၂) တိယန်တို့ဖြစ်ကြသည်။[၁]

၅း ၁၁ ။ ရှမ်းလူမျိုးအနွယ်နှင့် ကြန်အင်လက္ခဏာ

လူမျိုးအနွယ်အားဖြင့် 'ရှမ်း'(တိုင်း)တို့မှာ မြန်မာနိုင်ငံရှိ အခြားတိုင်းရင်းသား အများစုကဲ့သို့ပင် မွန်ဂိုလွိုက် လူမျိုးအနွယ်တွင် ပါဝင်ကြသည်။ ပူပြင်းသော မြေပြန့်မှာထက် အေးမြသောကုန်းမြင့်ပေါ်တွင် ကြာမြင့်စွာ နေထိုင်လာခဲ့ဖူးသူများ ဖြစ်ကြသည့်အလျောက် အသားလတ်၍ဖြူကြသည်။ အရပ်အမောင်းမမြင့်လှ၊ သွယ်ဖြောင့်၍ မည်းနက်သောဆံပင်၊ ခပ်ဝိုင်းဝိုင်းရှိသော ဦးခေါင်း၊ တို၍ကျယ်သောနှာခေါင်း၊ ပြားသော

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၃၁-၃၄။

(၂) အယ်လ်ထစ် အုပ်စု [AUSTRONESIAN]
(၃) ဩစထရို-အေဆီယားတစ်အုပ်စု
[AUSTRO-ASI ATIC]
(၄) ဩစတေးလီယန် အုပ်စု [AUSTRALIAN ]
(၅) ဒရာဗီဒီယန်အုပ်စု [DRAVIDIAN]
(၆) အင်ဒို-ယူလိုပီယန်အုပ်စု [INDO-EUROPEAN]
(၇)ဂျပန်နှစ်စ်ကိုးရီးယန်းအုပ်စု[JAPANESE/ KOREAN]
(၈) ကမ်း-တိုင်းအုပ်စု [KAM-TAI]
(၉) နိုင်းဂျား-ကွန်ဂိုအုပ်စု [NIGER-CONGO]
(၁၀) နီလို-ဆာဟာရန်အုပ်စု [NILO-SAHARAN]
(၁၁) ဆိုင်းနို-တိဗက်တန်းအုပ်စု [SINO-TIBETAN]
(၁၂) ယူရာလစ်အုပ်စု [URALIC]
(၁၃) ယူရာလစ်အုပ်စု [OTHER]

မြန်မာစကားသည် "ဆိုင်းနို-တိဗက်တန်းအုပ်စု"တွင် ပါဝင်၍ ရှမ်းစကားသည် "ကမ်းတိုင်း"အုပ်စုတွင် ပါဝင်သည်ကိုတွေ့ရသည်၊ "ကမ်း-တိုင်း"စကားပြောဆိုသည့် ဒေသများကို-

(၁) ကဒိုင်း (Kadai)
(၂) ကမ်းဆု (Kam Sui)
(၃) တိုင်း (Tai) ဟူ၍ အုပ်စုသုံးစု ခွဲခြားထားသည်၊

"ကဒိုင်း" ဘာသာစကားပြောဆိုသူတို့သည် ဟိုင်နန်ကျွန်း၏ တောင်ဘက်ခြမ်းတွင် နေထိုင်ကြသည်။ "ကမ်းဆု" ဘာသာစကားပြော ဆိုသူတို့သည် တရုတ်ပြည်တောင်ပိုင်း နန်းနင်း Nangning နှင့် လွိုစောင် Liuzhor ဒေသ၏အကြားတွင် နေထိုင်ကြသည်၊ "တိုင်း" Tai စကားပြောသူတို့သည် ယိုးဒယားနိုင်ငံ၊ လောနိုင်ငံ၊ ရှမ်းပြည်နယ်

တောင်ပိုင်း၊ ကယားပြည်နယ်၊ ယိုးဒယားနှင့်နယ်စပ်ဖြစ်သော ကရင်ပြည်နယ်နှင့် တနင်္သာရီမြောက်ပိုင်းဒေသ၊ ရှမ်းပြည်နယ်မြောက်ပိုင်း၊ စစ်ကိုင်းတိုင်းအထက်ပိုင်းဒေသအချို့၊ အာသံပြည်နယ်၊ မဏိပူရပြည်နယ်၊ တရုတ်ပြည်တောင်ပိုင်းနှင့် အတွင်းပိုင်းဒေသအချို့တို့တွင် နေထိုင်ကြသည်။

လူမျိုးကြန်အင် လက္ခဏာအရဆိုလျှင် ရှမ်း(တိုင်း) တို့ကို မြန်မာနိုင်ငံရှိ အခြားတိုင်းရင်းသားအများစုနှင့် ခွဲခြား၍ မဖြစ်နိုင်ပေ။ ပြောဆိုသော ဘာသာစကားအရသာ ခွဲခြားနိုင်၏။ တိဗက်, တရုတ်အနွယ်ကြီးဟု ဘာသာဗေဒသုတေသီတို့ အသိအမှတ်ပြုထားသော အာရှတိုက်အရှေ့ပိုင်းနှင့် အရှေ့တောင်ပိုင်းတို့တွင် အများစုပြောဆိုနေသည့် ဘာသာစကားအနွယ်ကြီးတွင် ရှမ်း(တိုင်း)စကားများနှင့် အခြားဘာသာစကားတို့မှာ ဆွေဆက်မျိုးဆက်နီးသည်ဟု မဆိုနိုင်ပေ။ ဆွေမျိုးတော်စပ်သည်ကား မဟုတ်ပေ။ ဤအနွယ်ကြီးတွင် ပါဝင်နေသော အစုတို့တွင် ရှမ်း (တိုင်း)မြန်မာတို့မှာ ထင်ရှားသော အစုများဖြစ်ကြသည်။ အခြားအစုတို့မှာ တိဗက်အစု၊ တရုတ်အစု၊ မျောင်(မိဝ့်)၊ သက်၊ ကရင်၊ ချင်း၊ ကချင်၊ လိုလိုအစု စသည်တို့ဖြစ်၏။ မြန်မာသည် ဘာသာစကားတွင် တရုတ်နှင့်အခြေခံမကွာလှသော်လည်း တိဗက်နှင့် ပို၍နီးစပ်သည်။ ဤကဲ့သို့ နီးစပ်သော အစုများကိုစု၍ တိဗက်တရုတ်အနွယ်ကြီးကို တိဗက် မြန်မာအနွယ်၊ ထိုင်းတရုတ်အနွယ်ဝင်ဘာသာစကားတို့တွင် အသံအလေး၊ အပေါ့၊ အနိမ့်၊ အမြင့် ပို၍များသည်။ ပြောဆိုရာဒေသများသည် မည်မျှပင် ကွာဝေးစေကာမူ ရှမ်း(တိုင်း)တို့ ပြောဆိုသော ဘာသာစကား တို့မှာ ကွဲပြားလှခြင်းမရှိ။ သံနေသံထား အနိမ့်အမြင့်၊ မတူခြင်းမျိုးမျှသာရှိသည်။ ဘာသာစကားကွဲပြားခြင်းမရှိ၊ သံခွဲဘာသာစကားများ ဖြစ်ကြသည်။[၁]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁) ရှမ်းလူမျိုး၊ နှာ ၃၉၆-၃၉၇။

တွေ့ကြုံဖြစ်ပျက်ခဲ့ပြီးသော နိုင်ငံသမိုင်း၏ ဖြစ်စဉ်တို့သည် ရှမ်း(တိုင်း)လူမျိုးများနှင့် မြန်မာလူမျိုးတို့ကို များလှစွာသော ဆက်သွယ်မှုများဖြင့်နှောင်ဖွဲ့ပေးခဲ့၏။ ဤလူမျိုးနှစ်မျိုးသည် ရှေးယခင် တရုတ်ပြည်၏ အနောက်ပိုင်းတွင် အိမ်နီးချင်းများအဖြစ် နေခဲ့ကြ၏။ ထိုအချိန်မှစ၍ မြန်မာနိုင်ငံတွင်းသို့ ရောက်လာသည့်တိုင်အောင် ဒိုးတူပေါင်ဖက်၍လည်းကောင်း၊ တစ်မျိုးကတစ်မျိုး တစ်ပြန်တစ်လှည့်စီကို ကြီးစိုးလည်းကောင်း နေလာခဲ့ကြသည်မှာ နှစ်ပေါင်း ၂၀၀၀ ကျော်မျှ ကြာခဲ့ပြီးဖြစ်၏။ ယခုအခါ ရှမ်း(တိုင်း)စကားတွင် မြန်မာဝေါဟာရအများ ပါဝင်နေသကဲ့သို့ မြန်မာစကားတွင်လည်း ရှမ်း(တိုင်း)ဝေါဟာရများ ပါဝင်နေသည်။ မြန်မာစကားတွင် "အိုက်၊ အိုင်" အသံထွက်သော စကားတို့သည် မူလက ရှမ်း(တိုင်း)တို့ထံမှ ရခဲ့သော စကားများဟုယူဆရပေသည်။ နန်ချောင်ပြည်တွင် နေခဲ့ရစဉ်က ရှေးမြန်မာတို့သည် ရှမ်း(တိုင်း)တို့ထံမှယဉ်ကျေးမှုနှင့် စပ်လျဉ်းသည့်အလေ့အထ၊ နည်းစနစ်နှင့် အတတ်ပညာတို့ကို သင်ယူတတ်သိခဲ့ကြဟန်တူ၏။ နောက်ပိုင်းတွင် မြန်မာတို့ထံမှ ရှမ်း(တိုင်း)တို့က တစ်လှည့်သင်ယူတတ် သိကြပြန်သည်။ အထူးသဖြင့် မြန်မာနိုင်ငံ၏ အခြေခံယဉ်ကျေးမှုဖြစ်၍ မြန်မာရောရှမ်းပါ ကိုးကွယ်ယုံကြည်လျက်ရှိသော ဗုဒ္ဓအယူဝါဒကို ရှမ်း(တိုင်း)တို့သည် မြန်မာတို့ထံမှလည်းကောင်း၊ ယိုးဒယားဘက်မှလည်းကောင်း၊ အိန္ဒိယအရှေ့မြောက်ပိုင်းမှလည်းကောင်း တစ်ဆင့်ရယူခဲ့ကြလေသည်။[၁]



---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ (၁၁) ရှမ်းလူမျိုး၊ နှာ၊ ၃၉၇။

ကမ္ဘာပေါ်တွင် "ကမ်းတိုင်း"စကားပြောသူလူဦးရေ သန်း ၁၀၀ နီးပါးရှိပါသည်။



# အခန်း(၆)

## ၆ း ၁ ။ ဗုဒ္ဓရှင်တော်မြတ်

ရှေးအခါက မဇ္ဈိမဒေသတွင် တိုင်ကြီး (၁၆) တိုင်း၊ ပြည်ကြီး (၂၀)ရှိသည့်အနက် မာဂဓတိုင်း ကပိလဝတ်ပြည်ကြီး၌ ကမ္ဘာဦးအစ မဟာသမ္မတမင်းမှစ၍ လူတို့ရေတွက်လာသော သက္ကရာဇ် (၁၁၄၉၇၈၇) သို့ရောက်သောအခါ အာကာရဉ္စမင်းက နှစ်ပေါင်း (၁၁၄၉၇၈၃) ခုနှစ်ကို ဖြို၍ (၂)ခုကြွင်းထားသည်။ ထို(၂)ခုကြွင်းမှစ၍ ရေတွက်လာပြန်ရာ ပပဝ တိ၏ မြောက်သားတော်ကုသမင်းကြီး၏ ခမည်းတော် မဟာကုသမင်း လက်ထက်သို့ ရောက်သောအခါ သက္ကရာဇ်(၁၄၉၁၃၈၅၆၂) ခုနှစ်သို့ တိုင် ခဲ့လေသည်။ ထိုအခါ မဟာကုသမင်းကြီးသည် နှစ်ပေါင်း(၁၄၉၁၃၈၅၆၀) ခုနှစ်ကိုဖြို၍ (၂)ခုကြွင်းထားပြန်သည်။ ယင်း(၂)ခုကြွင်းကို ရေတွက်လာ ပြန်ရာသက္ကရာဇ်(၈၆၄၇)သို့ ရောက်သောအခါ ဘုရားလောင်းသိဒ္ဓတ္ထမင်း သား၏ ဘိုးတော်များဖြစ်သောသီဟနုမင်းကြီးနှင့် အဥ္စနမင်းကြီးတို့ တိုင် ပင်၍ (၈၆၄၅)ခုနှစ်ကို ဖြို၍ အကြွင်း(၂)ခုကိုထားပြန်သည်။ ထိုသက္ကရာဇ် (၂)ခုကို မဟာသက္ကရာဇ်ခေါ်သည်ဟု အဆိုရှိသည်။[၁]

ယင်းမဟာသက္ကရာဇ် (၆၈) ခုနှစ်၊ ကဆုန်လပြည့်သောကြာ နေ့၌ ဘုရားအလောင်း သိဒ္ဓတ္ထမင်းသားကို သုဒ္ဓေါဒနဘုရင်မင်းမြတ်၏ တောင်ညာစံမဟေသီ မာယာဒေဝီ မိဖုရားမှဖွားမြင်တော်မူခဲ့သည်၊ ဖွားမြင်ပြီး (၇)ရက်မြောက်၌ မယ်တော်မာယာ နတ်ရွာစံခဲ့သော်လည်း မိထွေးတော် ဂေါတမီ၏ သားရင်းတမျှ ပြုစုယုယမှုကို ခံယူတော်မူခဲ့သည်၊ သုဒ္ဓေါဒနမင်းကြီးက သားတော်အတွက် ရမ္မ၊ သုဘ၊ သုရမ္မဟူသော နန်းမ

၁။ စိန်ထွန်း (ဦး) ကမ္ဘာပတ်၍ ဘုရားရှာခြင်း၊ နှာ၊ ၁၉၃။

ပြသာဒ် (၃)ဆောင်တွင် နွေ၊ မိုး၊ ဆောင်းဥတုပြောင်းတိုင်း အလဲအလှယ် နေထိုင်လျက် ဖွားဖက်တော်၊ ရံရွေများဖြင့် အပျော်မွေ့ဆုံး ဖြစ်နိုင်ရေး အတွက် စီမံဖန်တီးပေးထားခဲ့သည်။[၁]

သို့သော် အလောင်းတော်သည် သက်တော် (၂၉) နှစ်သို့ ရောက် လာသောအခါ သူအို၊ သူနာ၊ သူသေ၊ ရဟန်းတည်းဟူသော နိမိတ်ကြီး လေးပါးကို တွေ့မြင်ရပြီး ယသောဓရာ ဇနီးကလျာမှ သားတော်တစ်ပါး ဖွားမြင်ကြောင်း ကြားသိလိုက်ရပြန်သည်။ သို့ရာတွင် အလောင်းတော် ၏ တရားကောင်းရှာရန် ဆန္ဒအလင်းရောင်ကို ရာဟုလာဟူသော အမိုက် မှောင်ကလေးက မဖုံးလွှမ်းနိုင်ခဲ့ပေ။ ထို့ကြောင့် အလောင်းတော်သည် မဟာသက္ကရာဇ် (၉၇) ခုနှစ်၊ ဝါဆိုလပြည့်ည သန်းခေါင်ယံအချိန်၌ ဖွား ဖက်တော် ဆန္နအမတ်နှင့် အတူ ကဏ္ဍကမြင်းဖြူကို စီးတော်မူ၍ အနော် မာမြစ်တစ်ဘက်ကမ်းရှိ ဥရုဝေလတောသို့ တောထွက်ကာ ရဟန်းပြုတော် မူသည်။ အလောင်းတော်သည် အာဠာရ နှင့် ဥဒက ရသေ့ထံသို့ သွား ရောက်နည်းခံကာ လောကီစျာန်အဆင့်ထိ ရခဲ့သည်။ သို့သော် မိမိအလို ရှိသော တရားမဟုတ်သေးသောကြောင့် ထိုဆရာနှစ်ပါးထံ ဖယ်ခွါခဲ့သည်။ ၎င်းနောက် အလောင်းတော်သည် ဆရာမမှီး တစ်ကိုယ်တည်းဖြင့် ဒုက္ကရ စရိယာအကျင့်ကို (၆)နှစ်ပတ်လုံး အရှိုးပေါ်အရေဖုံးလောက်သည်အထိ မလျှော့သော ဇွဲလုံ့လဖြင့် အပြင်းအထန် ကျင့်ကြံကြိုးကုတ် အားထုတ် ခဲ့သည်။ နောက်ပိုင်းတွင် ထိုအကျင့်သည် တရားထူးကို ရရှိနိုင်သော နည်းလမ်းမဟုတ်ကြောင်း သိရှိပြီး စွန့်လွှတ်ကာ မဇ္ဈိမပဋိပဒါ နည်းလမ်း ဖြင့် ကျင့်ကြံကြိုးကုတ် အားထုတ်ခဲ့သည်။ ထိုသို့ အားထုတ်လာခဲ့ရာ တစ်နေ့သ၌ သုဇာတာသူဌေးသမီး လှူဒါန်းအပ်သော ဃနာနို့ဆွမ်းကို ဘုဉ်းပေးပြီး ဗောဓိပင်ရှိရာသို့ ကြွတော်မူလာစဉ် သောတ္ထိယ မြက်ရိပ်သ

၁။ စိန်ထွန်း (ဦး) ကမ္ဘာပတ်၍ ဘုရားရှာခြင်း၊ နှာ၊ ၁၉၄။

များ လျှံဒါန်းသော မြက်ရှစ်ဆုပ်ကိုယူ၍ ဗောဓိပင်ရင်းသို့ ကြွလိုက်လေသည်။ ထိုအခါ ရွှေပလ္လင် ပေါ်လာသဖြင့် ၎င်းပလ္လင်ထက်၌ ထက်ဝယ်ဖွဲ့ခွေ ထိုင်နေတော်မူလျက် "တရားထူး မရကမထ"ဟု အဓိဋ္ဌာန်ပြုပြီး တရားကို ဆက်လက်အားထုတ်ခဲ့သည်။ ထိုနေ့ကား သက်တော်အားဖြင့် (၃၅) နှစ်၊ မဟာသက္ကရာဇ် (၁၀၃)၊ ဘီစီ (၅၈၉) ခု၊ ကဆုန်လပြည့်နေ့ ပထမယံ၌ ရှေးဘဝများကို ပြန်လည်အောက်မေ့နိုင်သော ပုဗ္ဗေနိဝါသာနုဿတိဉာဏ်၊ ဒုတိယယံ၌ နတ်မျက်စိကဲ့သို့ မြင်နိုင်သော ဒိဗ္ဗစက္ခုဉာဏ်၊ ပစ္ဆိမယံ၌ အာသဝေါတရားလေးပါး ကုန်ခန်းသော အာသဝက္ခယဉာဏ် ဟူသော ဝိဇ္ဇာ(၃)ပါးကို ရတော်မူလျက် ဘုရားအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။[၁]

သဗ္ဗညုတရွှေဉာဏ်တော် ရပြီးနောက် ဗုဒ္ဓဂေါတမသည် ဗာရာဏသီအနီး ဣသိပတန (ယခု ဆာရ်နသ်)ရှိ သမင်တို့၏ ဥယျာဉ်တွင်း၌ ရှေးအခါက တရားကျင့်ဖော်ကျင့်ဖက်ဖြစ်ခဲ့ဖူးသော ပဉ္စဝဂ္ဂီအရှင်တို့အား တရားဦးကို ဟောတော်မူလေသည်။ ထိုနေ့မှစ၍ (၄၅) နှစ်ပတ်လုံး ဘုရင်နှင့်ကျေးတောသား၊ ပုဏ္ဏားနှင့် ယာစကာ၊ ဘောဂဝါနှင့် သူတောင်းစား၊ ခိုးသားနှင့် လူသူတော်ဟူ၍ မြူတစ်စိတ်မျှ ခွဲခြားမှု မထားဘဲ ယောကျ်ား မိန်းမ မဟူ အားလုံးသော လူအမျိုးအစားတို့အား တရားရေအေးကို တိုက်ကျွေးတော်မူခဲ့လေသည်။ ရှင်တော်မြတ်သည် အမျိုးဇာတ် ရာထူးဂုဏ်သိန် အဆင့်အတန်း ခွဲခြားမှုများကို လက်ခံတော်မမူဘဲ ၎င်း၏မဂ္ဂင်တရားကို သိရှိနားလည်စေရန် ဆန္ဒရှိ၍ လိုက်နာကျင့်ကြံလိုသူ ယောကျ်ား၊ မိန်းမအားလုံးတို့အား ဟောကြားတော်မူလေသည်။ အသက်တော် (၈၀)တွင် ကုသိနာရုံ (ယခု ဥတ္တာပရာဒေ့ရှ်) ၌ ဗုဒ္ဓရှင်တော်မြတ်သည် ပရိနိဗ္ဗာန် ပြုတော်မူလေသည်။ ယခုအခါတွင် ဗုဒ္ဓဝါဒီကို သိဟိုဠ်

---

၁။ စိန်ထွန်း (ဦး) ကမ္ဘာ့ပတ်၍ ဘုရားဖူးခြင်း၊ နှာ၊ ၁၉၄။

မြန်မာပြည်၊ ယိုးဒယား၊ ကမ္ဘောဒီးယား၊ လောပြည်၊ ဗီယက်နမ်၊ တိဗက်၊ တရုတ်၊ ဂျပန်၊ မွန်ဂိုလီးယား၊ ကိုးရီယား၊ ဖော်မိုဆာနှင့် အိန္ဒိယပြည် အချို့အပိုင်း၊ ပါကစ္စတန်၊ နီပေါနှင့် ဆိုဗီယက်ယူနီယံတွင် တွေ့ရှိရပေသည်။ ဗုဒ္ဓဘာသာကိုးကွယ်သူ လူဦးရေပေါင်းမှာ ကမ္ဘာပေါ်တွင် သန်းပေါင်း (၅၀၀) ကျော်ရှိပေသည်။ [၁]

၆း၂။ ရှမ်းလူမျိုးတို့၏ ယုံကြည်ကိုးကွယ်မှု

ရှမ်းအမျိုးသား ၉၅ ရာခိုင်နှုန်းမှာ ဗုဒ္ဓဘာသာဝင်များဖြစ်ကြသည်။ များသောအားဖြင့် ထေရဝါဒဗုဒ္ဓဘာသာများဖြစ်ကြသည်။ သို့သော် အချို့ဒေသများသည် မဟာယာနဆန်သော ဗုဒ္ဓဘာသာဘုန်းကြီးများလည်းရှိသည်။ ပုံစံအားဖြင့် မြောက်ပိုင်းရှမ်းပြည်နယ်၊ ကိုးကန့်နယ်နှင့် အရှေ့ပိုင်း ရှမ်းပြည်နယ် ကျိုင်းတုံ၊ တာချီလိတ်၊ မိုင်းဖုံးနယ်များတွင် မဟာယာနဆန်သော ဂိုဏ်းများရှိသည်။ ရှမ်းပြည်နယ် တစ်ခုလုံးရှိ ဗုဒ္ဓဘာသာဂိုဏ်းများကို အောက်ပါအတိုင်း တွေ့ရှိရသည်။[၂]

(၁) သုဓမ္မာဂိုဏ်း
(၂) ရွှေကျင်ဂိုဏ်း
(၃) ပွဲကျောင်းဂိုဏ်း
(၄) မြိုင်ကျော်ဂိုဏ်း
(၅) ယွမ်းဂိုဏ်း
(၆) ဇောတိဂိုဏ်း
(၇) တောနေဂိုဏ်း ။

သုဓမ္မာဂိုဏ်းနှင့် ရွှေကျင်ဂိုဏ်းများမှာ ရှမ်းပြည်နယ်တွင် အကြီးအကျယ်ဆုံးဂိုဏ်း၊ အထွန်းကားဆုံးဂိုဏ်းများဖြစ်ကြသည်။ နှစ်စဉ်

၁။ ဦးကိုလေး (ဇေယျာမောင်)၊ မြတ်ဗုဒ္ဓဒေသနာ၊ နှာ၊ ၁-၂။
၂။ပြည်ထောင်စုမြန်မာနိုင်ငံတိုင်းရင်းသားယဉ်ကျေးမှု ရိုးရာဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၂၈၄။

နှစ်တိုင်း အင်းလေး၊ ညောင်ရွှေစသော မြို့ကြီးများတွင် ပရိယတ္တိစာပြန်ပွဲများ ကျင်းပသည်။ ဇောတိဂိုဏ်းတွင် ရဟန်းဝတ်များသာမက လူဝတ်ကြောင်များလည်း ပါဝင်သည်။ ဇောတိဂိုဏ်းဝင်ရှမ်းများက မိမိတို့ကိုယ်ကို ဇောတိရှမ်းဟု ခေါ်သည်။ ဇောတိဂိုဏ်းဝင် ရဟန်းရှင်လူတို့သည် အသားလုံးဝမစား၊ အသီးအရွက်သာ စားကြသည်။ ငါးပါးသီလကို ကလေးအရွယ်မှစပြီး လုံခြုံအောင် ထိန်းသိမ်းကြသည်။ အခြားဂိုဏ်းဝင်များ လူများနှင့် ရောနှောနေထိုင်မှုမရှိ။ သီးခြားခွဲခြားနေကြသည်၊ လောဘ၊ ဒေါသလည်း ကင်းရှင်းအောင် နေထိုင်ပြီး သမ္မာအာဇီဝ ကောင်းသောအသက်မွေးမှုကို ပြုလုပ်ကြသည်။ ဆင်းရဲသော်လည်း လိမ်လည်ကောက်ကျစ်မှုမပြုကြဘဲ အရာခပ်သိမ်းတွင် ငြိမ်းချမ်းစွာ ကျင့်ကြသည်။ ယွမ်းဂိုဏ်းမှာ ကျိုင်းတုံ၊ တာချီလိတ်ဒေသများတွင် ထွန်းကား၍ ယင်းဂိုဏ်းဝင်တို့သည် ညနေပိုင်းတွင် ထမင်း၊ ခေါက်ဆွဲစသည်တို့ကို စားနိုင်ခွင့်ရှိသည်။ သက်န်းမှာ အဝါနုနှင့် အနီရင့်ရောင်ပိုးများ ဖြစ်သည်။[၁]

မြေပြန့်သားတို့က ရှမ်းပြည်နယ်တွင် နတ်ကိုးကွယ်မှုနှင့် စုန်း၊ တစ္ဆေ၊ ကဝေစသော မိစ္ဆာအယူဝါဒ ထွန်းကားသည်ဟု လွဲမှားစွာ ယူဆခဲ့သည်။ ရှမ်းဗုဒ္ဓဘာသာဝင်တို့မှာ ဗုဒ္ဓဘာသာကိုသာ ကိုးကွယ်ကြသည်။ ရှမ်းအိမ်များတွင် ဘုရားစင်များသာ ရှိသည်။ နတ်စင်မရှိ။ ဗုဒ္ဓဘာသာဝင် ရှမ်းအမျိုးသား မှန်သရွေ့ ရိုးရာကိုးကွယ်မှုမရှိ။ တစ်နှစ်တစ်ကြိမ်ကျ ရွာစောင့်နတ်၊ လယ်စောင့်နတ်၊ သမ္မာဒေဝါနတ်များအား ပူဇော်မှုလောက်သာရှိသည်။ သို့သော် ထုံးစံသဘောမျှသာဖြစ်ပြီး ကြီးကျယ်စွာ မကိုးကွယ်ကြ။ မြေပြန့်မှာကဲ့သို့ နတ်ကနားပေးခြင်း၊ နတ်ပွဲကြီးများ ကျင်းပခြင်းများ မရှိပေ။[၂]

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံတိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၂၈၅-၆

၂။ ၎င်းစာ၊ နှာ၊ ၂၉၄။

## ၆.၃။ ရှမ်းလူမျိုးနှင့် ဗုဒ္ဓသာသနာ

ရှမ်းလူမျိုးများက မိမိတို့သည် ဂေါတမဘုရားရှင်လက်ထက်ကပင် ဘုရားရှင်ကို ကိုးကွယ်ယုံကြည် လာခဲ့ကြသည်ဟု ဆိုကြသည်။[၁] ဘုရားရှင်လက်ထက်က ကောသမ္ဗီဘုရင်ဥတေနသည် ရှမ်းဘုရင်တစ်ပါးဖြစ်သည်ဟု မောရှမ်းရာဇဝင်နှင့်သိန္နီရာဇဝင်တို့က ဆိုသည်။[၂]

ထိုရာဇဝင်အရ ငှက်ဆင်ကြီးတစ်ကောင်သည် ဥတေနမင်း၏ မယ်တော်ဖြစ်သူ အဂ္ဂမဟေသီမိဖုရားကို ဟိမဝန္တာတောသို့ အစာအဖြစ် ယူဆောင်လာသည်။ လက်ပံပင်ပေါ်သို့ ရောက်သောအခါ ကိုယ်ဝန်အရင့်အမာရှိနေသော မိဖုရားက ထိုငှက်ကြီးကို ခြောက်လန့်ပြေးစေခဲ့သည်။ ထိုသစ်ပင်ပေါ်၌ သားတော်ကို ဖွားမြင်ခဲ့သည်။ 'အလကပ' ရသေ့နှင့် တွေ့ဆုံ၍ ရသေ့က လှေခါးပြုလုပ်ပေးပြီး မိဖုရားနှင့်သားတော်လေးကို မိမိနေရာသို့ ခေါ်ယူသွားသည်။ နောက်ပိုင်းတွင် ရသေ့နှင့် မိဖုရားတို့သည် အတူတကွ ပေါင်းဖက်ကြလေသည်။ သားတော်လေး အရွယ်ရောက်လာသောအခါ အလကပသည် မိမိတတ်ထားသော ဆင်နိုင်စောင်းအတတ်ပညာကို သင်ကြားပေးလေသည်။ သားတော်လေး၏ အမည်သည် ရှမ်းဘာသာအားဖြင့် "ခွန်အုန့်မ်တိန်"© (စောင်းပိုက်သခင်)ဟု အမည်တွင်ရှိသည်။[၁]

ထိုစောင်းပိုက်သခင်မင်းသားသည် တောထဲမှ ဆင်များကို ခေါ်ဆောင်၍ကောသမ္ဗီပြည်ချီတက်လေသည်။ ခမည်းတော် ကောသမ္ဗီမင်းကြီးသည် နတ်ရွာစံလေပြီဖြစ်သဖြင့် မင်းသားသည် ကောသမ္ဗီ ထီးနန်းကို စိုးစံရလေသည်။ နောက်ပိုင်းတွင် မယ်တော်ရှိရာ တောထဲသို့ ပြန်လာခဲ့ပြီး မြို့တစ်မြို့ကို တည်ခဲ့သည်။ ထိုမြို့သည် ဓမ္မမိတ်ဆွေဖြစ်ခဲ့ဖူးသူ နတ်မင်း

©။ ခွန်-မင်း။ အရှင်၊ သခင် ။ အုန့်မ်-ပွေ့ပိုက်သည်။ တိန်-စောင်း (စောင်းပိုက်သခင်)

၁။ Saimong Mangrai (Sao), op.cit., P.37 ၊ စံရိ (လယ်ဝန်)၊ ၎င်းစာ၊ နှာ၁-၂။

ကြီးက ဖထွေးတော်ရသေ့အား ဆင်နိုင်စောင်းကို ပေးခဲ့သော နေရာဖြစ်သဖြင့် 'စောင်းမြို့တော်' အဖြစ်အသိအမှတ်ပြုပြီး "အုန်နမ်တိန်" ဟု မြို့တည်လေသည်။ ယခုအခါ ထိုမြို့သည် နမ့်တိန်မြစ် တရုတ်မြန်မာနယ်စပ်အနီးရှိ မိန်းတိန်မြို့ Mong Ting အဖြစ်ထင်ရှားသည်။ နောက်ပိုင်းတွင် မိဖုရားနေထိုင်သော တောအရပ်သည် ကောသမ္ဗီအဖြစ် အမည်တွင်သည်။ မိဖုရားကို ငှက်ဆင်ချီလာ၍ ထိုငှက်ကြီး ဝဲပတ်ဆင်းသောနေရာတွင် မိဖုရားကြီးမူးဝေသွားသဖြင့် ထိုဒေသကို မိုင်းမောဝ် Mong Mao ဟုခေါ်သည်။ "မိုင်း"သည် "တိုင်းပြည်၊ ဌာနီ"ဟု အဓိပ္ပါယ်ရှိ၍ "မောဝ်" သည် "မူးဝေသည်" ဟု အဓိပ္ပါယ်ရှိသည်။ ယခုအခါ ထိုဒေသသည် မောရှမ်းပြည်ဟုခေါ်သော ရွှေလီမြစ်ဝှမ်းဖြစ်သည်။[၁]

ထိုဒေသတို့တွင် အဆိုပါ သာသနာနှင့် ပတ်သက်သော သမိုင်းဝင်သက်သေ အထောက်အထားများအဖြစ်-

(၁) ကောသမ္ဗီသူဌေးကြီး ဃောသကလှူဒါန်းထားသောဃောသိကာရုံကျောင်းဟောင်းနေရာ၊ (ရှမ်းစကားအရ 'လွယ်ကျောင်းဆိုင်'ဟုခေါ်ပြီး တရုတ်မြန်မာနယ်စပ် ရွှေလီမြစ်၏တရုတ်ဘက်ကမ်းတွင်တည်ရှိသည်၊ ၁၂၊ ၅၊ ၂၀၀၁ ရက်နေ့တွင် ကျမ်းပြုသူ ထိုနေရာသို့ ရောက်ခဲ့ပြီး စေတီဟောင်းတစ်ဆူတွင် ရှေးဟောင်း ရွှေ ငွေ၊ ကြေး၊ မြေဆင်းတုတော်များ များစွာတူးဖေါ်တွေ့ရှိရ၏)

(၂) ဥတေနမင်း၏ သချိုင်းအုတ်ဂူ။

(၃) ဃောသကသူဌေးကုန်း။

(၄) ပန်ဖေဟို (ခေါ်) ခေါင်းဖြတ်တောင် (မာဂဏ္ဍီမိဖုရားတို့ ခေါင်းဖြတ်ခံရသောနေရာ)

(၅) လွယ်ကျောင်းဆိုင် တောင်ခြေရှိ ဥတေနမင်း၏ ဆင်ချည်

၁။ SaiMong Mangrai (Sao),op.cit., P.38. စံရိ (လယ်ဝန်)၊ ၎င်း၊ နှ၁၂-၃။

ရာ ကျောက်တိုင်။

(၆) ပလလဲတောစသည်တို့သည် ယခုတိုင် တရုတ်မြန်မာ နယ်စပ် ရွှေလီမြစ်ဒေသ (တရုတ်ပြည်)တွင် တည်ရှိနေသည်ကို တွေ့ရသည်။

ဤသိန္နီရာဇဝင် အဆိုတို့ကို ထောက်ရှု၍ ရှမ်းလူမျိုးတို့က မိမိတို့သည် ဘုရားလက်ထက်ကပင်သာသနာတော်ကို ယုံကြည်ကိုးကွယ်လာ ခဲ့သူများဖြစ်သည်ဟု ယူဆကြခြင်းဖြစ်သည်။

ရှမ်းလူမျိုးများ ဗုဒ္ဓဘာသာဖြစ်လာပုံကို သမိုင်းကြောင်းဖြင့် လေ့လာတင်ပြလိုပါသည်။ ဘာသာရေးနှင့် ပတ်သက်လျှင် ရှမ်းမင်း၊ ရှမ်းအုပ်ချုပ်သူတို့က မိမိတို့သည် သာကီဝင်မှ ဆင်းသက်လာသည်ဟု ယူဆကြသည်။ ရှမ်းရှေးဟောင်းရာဇဝင်သမိုင်းများတွင်လည်း *"ငါတို့ ဂေါတမမြတ်စွာဘုရား ထင်ရှားပွင့် တော်မမူသေးမီ နှစ်ပေါင်း (၃၀၀) အတွင်းလောကက ရှမ်းပြည်နိုင်ငံရင်းသားတို့ အပေါ်တွင် မဇ္ဈိမဒေသမှ သာကီဝင်များလာရောက်အုပ်စိုးကြသည်"* ဟုဆိုထားသည်။[၁]

ဘီစီ ၆ ရာစုနှစ်အတွင်း အိန္ဒိယနိုင်ငံ၌ ဘုရားရှင်ပေါ်ပေါက်ခဲ့သော ခေတ်ကာလတွင် ရှမ်းလူမျိုးတို့သည် စူနိုင်ငံတော်ကို စိုးမိုးအုပ်ချုပ်နေသော ကာလဖြစ်သည်။ စူနိုင်ငံတော်တွင် ဘုရင်ခံနိုင်ငံ (၂၀) ပါဝင်ဖွဲ့စည်းထားသော ပြည်ထောင်စုနိုင်ငံတော်ဖြစ်သည်။ ထိုဘုရင်ခံနိုင်ငံတို့တွင် သျှင် Tsen (ခေါ်) Tien နိုင်ငံသည် ယခုယူနန်နယ်ဖြစ်သည်။ သျှင်နိုင်ငံ၏ အနောက်တောင်ဘက်၌ သမိုင်းတွင်ထင်ရှားသော တကောင်းမြို့တည်ရှိသည်။ တကောင်းသည် သကျသာကီဝင်တို့နှင့် အဆက်အနွယ်ရှိသဖြင့် ယင်းနှင့်ပတ်သက်သော အကြောင်းအရာများကို ချန်လှပ်၍ ရမည်မဟုတ်ပေ။

၁။ ခေမိန္ဒ(ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၃၃-၃၄။

၆ း ၃ း ၁ ။ တကောင်း နှင့် ရှမ်းလူမျိုးဆက်နွယ်ပုံ

မဟာရာဇဝင်၌ တကောင်းသည် ဂေါတမမြတ်စွာဘုရားလက်ထက်ကပင်လျှင် တကောင်းဟု ခေါ်တွင်ကြောင်း ဖော်ပြထားသည်။ မဇ္ဈိမဒေသမှ သာကီယအနွယ်ဖြစ်သော အဘိရာဇာမည်သောမင်းသည် တကောင်းပြည်ကြီးကို လက်မွန်တည်ကြောင်းလည်းဆိုသည်။ တကောင်းသည် မန္တလေးမှ ဧရာဝတီမြစ်ကို ဆန်တက်သော် မြစ်အရှေ့ဘက်ကမ်းမြေပြန့်ဒေသတွင် တည်ရှိသည်။ ယခုအခါ ကသာခရိုင်အတွင်း အိမ်ခြေအနည်းငယ်မျှရှိသော ရွာကလေးသာဖြစ်သည်။ တကောင်းကို စတင်တည်ထောင်သည့် အချိန်က မြန်မာနိုင်ငံအထက်ပိုင်းတွင် အရှေ့ဘက်၌ ပျူလူမျိုး၊ အနောက်ဘက်၌ ကမ်းယံလူမျိုး၊ မြောက်ဘက်၌ သက်လူမျိုး၊ ဧရာဝတီ၊ စစ်တောင်း၊ သံလွင်မြစ်ဝှမ်းတို့ တွင် မွန်လူမျိုးများရှိနှင့်ကြပြီဟု သမိုင်းဆရာတို့ ယူဆကြသည်။ ထိုအခါက ပြည်မြို့သည် ပင်လယ်ဆိပ်ကမ်းမြို့ဖြစ်သည်ဟုလည်း မှတ်ယူကြသည်။ 'တကောင်း' ဟူသော အမည်မှာ ရှမ်းဘာသာဖြင့် "စည့်ကူး" တို့ ဟု အဓိပ္ပါယ်ရသည်။[၁]

"မြန်မာအစ တကောင်းက" ဆိုသော စကားအရ တကောင်းသည် မြန်မာမြို့ဟောင်းဟု မြန်မာလူမျိုးများက ယူဆခဲ့သော်လည်း နောင်းစာရေးဆရာ၏ အဆိုအရ တကောင်းမြို့သည် အိန္ဒိယမြောက်ပိုင်းမှ ကျူးကျော်လာသူများက တည်ထောင်ခဲ့သည်ဟု ဆိုသည်။ စိတ်ဝင်စားဖွယ်ကောင်းသော အချက်မှာ ရှမ်းသမိုင်းစာပေအရ တကောင်းမြို့သည် ရှမ်းလူမျိုးတို့၏ မြို့တော်ဟောင်း ဖြစ်၍ ၎င်းအုပ်ချုပ်သော မင်းများသည် အိန္ဒိယနှင့် အဆက်အသွယ်ရှိခဲ့သည် ဟုဆိုသည်။ တကောင်းမြို့၏ အမည်သည်လည်း ရှမ်းစကားအရ "တာကောင်" ဟုခေါ်ပြီး "စည်ကူးတို့မြို့" Drum Ferry ဟု အဓိပ္ပါယ်ရှိသည်။ ထိုအမည်မျိုးကို "မိုးကောင်း"

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၄။ တကောင်း၊ နှာ ၃၉၈။

ရှမ်းအခေါ် "မိန်းကောင်" (Drum Town - အိုးစည်မြို့)နှင့် အခြား ရှမ်းအမည်များကို နှိုင်းယှဉ်ကြည့်နိုင်သည်။ တကောင်းတွင် တွေ့ရသော အိန္ဒိယအမှတ်အသားပါ အုတ်ခဲအစအနများသည်လည်း ထိုအဆိုကို တစ်နည်းမဟုတ်တစ်နည်း သက်သေပြနေပါသည်။ ခိုင်လုံသော သက်သေပြရန်အတွက် အခြားနည်းလမ်းများလည်း အများအပြားရှိပါသည်။ နန်ချိုနိုင်ငံတော်၏ ကျယ်ပြန့်မှုနှင့် ယင်း၏ နိုင်ငံရေး အဆောက်အဦ စစ်တပ်အင်အားတို့ကို ထောက်ရှုခြင်းအားဖြင့် တကောင်းမြို့သည် ရှမ်းလူမျိုးများကျက်စားရာ အရပ်မဟုတ်ဟု ငြင်းဆိုနိုင်စရာ အကြောင်းမရှိပေ။ ထိုအချိန်၌ ဧရာဝတီမြစ်ဝှမ်း၏ အထက်ပိုင်း ဒေသတစ်လျှောက်တွင် ရှမ်းလူမျိုးများ နေထိုင်ကျက်စားရာဌာန ဖြစ်ခဲ့သည်ကိုလည်း ယုံမှားသံသယ မရှိနိုင်ချေ။[၁]

တကောင်းသည် ရှေးဟောင်းအခါက သမိုင်းဝင်ဌာနဖြစ်သည့်အပြင် ဂေါတမဘုရားရှင်လက်ထက် မတိုင်မီကတည်းက အိန္ဒိယပြည်ကြီးနှင့် သမိုင်းကြောင်းအရ အဆက်အသွယ်ရှိသော ဒေသဖြစ်သည်။ မှန်နန်းရာဇဝင်၌ကား "ပထမတကောင်းနန်းတည် သာကီဝင်သုံးကျိပ်သုံး အဆုံးဖြစ်သော ဘိန္နကရာဇာ မင်းကြီးလက်ထက်၌ ဂန္ဓာလရာဇ်တိုင်း စိန့်ပြည်က တရုတ်တရက်တို့ ဖျက်ဆီး၍ သံယသသရဠမည်သော တကောင်းပြည်ကြီး ပျက်စီးလေသည်။ ဘိန္နကမင်းကြီးသည် အလုံးအရင်း သင်းပင်း ဗိုလ်ခြေနှင့်တကွ ထွက်ခွာလာရာ ဧရာဝတီမြစ်ကြီး၏ အနောက်ဘက် မလည်ချောင်းအရပ်သို့ ရောက်ရှိပြီး တပ်မြို့တည်ထောင်စံနေတော်မူသည်။ ထိုသို့ စံနေတော်မူခိုက်တွင် ဘိန္နကရာဇာမင်းကြီးသည် လူ့ပြည်ပြီး၍ နတ်ထီးစံတော်မူလေသော် ဗိုလ်ခြေခပင်း သုံးသင်းကွဲပြားသွားလေသည်။ တစ်သင်းသော ဗိုလ်ခြေတို့သည် ဧရာဝတီမြစ်၏ အရှေ့မျက်နှာ

---

၁။ Cochrane (W.W) The Shans. PP.46-47.

ရှမ်းတစ်ဆယ့်ကိုးခရိုင် တည်ထောင်၍ နေကြ၏" ဟု "ရှမ်းမျိုးဘုရင်" တို့၏ အစမူလဘူတသည် တကောင်းသံယသဿရဋ္ဌ ဘိန္နကရာဇာမင်းမှ ဆက်နွယ်ပေါက်ဖွားလာကြောင်း အသေအချာရေးသား ပြဆိုထားလေသည်။ "ရှမ်းမျိုးဘုရင်"တို့၏ အရင်းအစ မူလဘူတများမှာ သကျသာကီဝင်မင်းမျိုးတို့မှ ဆင်းသက်ပေါက်ဖွားလာကြကြောင်းကိုကား ရှမ်းပညာရှိကြီးများနှင့် မြန်မာပညာရှိကြီးများ အညီအညွတ် ယုံကြည်ကြောင်း ထင်ရှားလေသည်။[၁] "ရှမ်းမင်းအစ ဘိန္နက" ဟုပင် ဆိုရိုးပြုထားကြလေသည်။

"တကောင်း"ကို တရုတ်တို့က တိုက်ခိုက်လာသည့် အချိန်တွင် ဘီစီ ၇၀၀ ဖြစ်သည်။ မစ္စတာခေါက်စ် Mr Cocks ၏ ဖော်ပြချက်အရ ကျူးကျော်သည့်အချိန်သည် ဘီစီ ၆ ရာစုခန့်ဖြစ်နိုင်သည်ဟုဆိုသည် ကျူးကျော်လာသူများတွင်လည်း တရုတ်များမဟုတ်ဘဲ ဧရာဝတီအရှေ့ဘက်တောင်တန်းဒေသမှလာသော ရှမ်းများဖြစ်နိုင်သည် ဟုဆိုသည်။[၂] တရုတ်တရက် Tarok Taret ဟူသော စကားသည် တရုတ်နှင့် ရှမ်းစကားရောနှောသော စကားဖြစ်သည်ဟု ဆိုသည်။[၃] ထိုစကားသည် "ရှမ်းခြောက်ပြည်ထောင်" ဟု အဓိပ္ပါယ်ရှိ "တိုင်းဟုတ်" ဟူသော ရှမ်းစကား မှ လဝသည်ဟု ရှမ်းသမိုင်းပညာရှင်များက ယူဆကြသည်။[၄]

အစောပိုင်းကာလ၌ မြန်မာပြည်ကို ရှမ်းများကြီးစိုးချိန်နှင့် ပတ်သက်၍ မစ္စတာတော်စိန်ခိုအဆိုအရ အနော်ရထာမင်းအုပ်စိုးသည့် အချိန် (အေဒီ ၁၁ ရာစု) အထိ ဧရာဝတီအရှေ့ဘက်ကမ်းဒေသနှင့် ဋင်း၏ မြစ်ကမ်းပါးဒေသတို့သည် ရှမ်းတို့၏ အုပ်ချုပ်မှုအောက်တွင်ရှိသည်။ ရမည်းသင်း၊ မိတ္ထီလာ၊ မကွေး၊ ကျောက်ဆည်၊ မန္တလေးနှင့်

---

၁။ ခေမိန္ဒ(ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၅၂။

၂။ Cochrane (W.W) The Shans. P.47.

၃။ Ibit.,

၄။ Hsen (Khur), The Oregin of Tais and A Short History of Shan.P.58

မြောက်ပိုင်းနယ်ပယ်တို့သည် ရှမ်းတို့၏ကျက်စားအုပ်စိုးရာ အရပ်ဒေသများဖြစ်ကြသည်။ ရှမ်းလူမျိုးများ၏ ကြီးစိုးမှုသည် ခရစ်ပေါ်ပြီး အစောပိုင်းကတည်းက တောင်ပိုင်းဒေသ ပြည်မြို့အထိရောက်ရှိသည်။ အထက်ပါဖော်ပြချက်ကို ထောက်ရှု၍ တကောင်းသည် ဗမာလူမျိုး (သို့မဟုတ်) အိန္ဒိယလူမျိုး (သို့မဟုတ်) အိန္ဒိယလူမျိုးများ တည်ထောင်သည်ထက် ရှမ်းများက တည်ထောင်သည်ဟုဆိုလျှင် ပိုပြီးဖြစ်နိုင်သည်။ အိန္ဒိယလူမျိုးများက တချိန်ချိန် ကျူးကျော်ခဲ့သည်မှာ မှန်ကန်သော်လည်း တကောင်းသည် ယခုအချိန်အထိ "တာကောင်း-စည်ကူးတို့မြို့" ဟု ရှမ်းစကားဖြင့် ခေါ်ဝေါ်နေခြင်းဖြစ်သည်။ တကောင်းမြို့သည် ရှမ်းများတည်ထောင်သောမြို့ ဟုတ်မဟုတ်ကို ထည့်တွက်စရာ မလိုတော့ပေ။ အဘယ်ကြောင့်နည်းဟူမူကား တကောင်းမြို့သည် ရှမ်းများအချင်းချင်း စစ်ခင်းသည့်နေရာဒေသဖြစ်သောကြောင့်တည်း။[၁]

ဘုရားရှင် လက်ထက်တွင်လည်း ဝိဋူဍူပမင်း၏ တိုက်ခိုက်မှုကြောင့် သာကီဝင်များ တကောင်းသို့ ထပ်မံရောက်ရှိလာသည်ဟုဆိုသည်။ နောက်ဆုံးရောက်လာသော သာကီဝင်တို့သည် ဘုရားရှင်၏ ဆွေတော်မျိုးတော်များ ဖြစ်ကြသည့်အပြင် ဘုရားရှင်ကို ကြည်ညိုဆည်းကပ်ကြသော ဗုဒ္ဓဘာသာဝင်များဖြစ်ကြပေမည်။ ထိုသာကီဝင်တို့မှတစ်ဆင့် ဗုဒ္ဓဘာသာကိုးကွယ်မှုသည် တကောင်းရှိ ရှမ်းလူမျိုးထံသို့ ရောက်ရှိလာသည်ဟု ဆိုရပေမည်။

## ၆ : ၃ : ၂ ။ ကျိုင်းဟုံနှင့်သာကီနွယ်

သာကီဝင်တို့နှင့်စပ်လျဉ်း၍ ရှမ်းတို့၏ ကျိုင်းဟုံမြို့ကြီးအကြောင်းကိုလည်း ရှင်းလင်းဆက်စပ်ပြလိုပါသည်။ "ကျိုင်းဟုံအစ သာကီယ၊

၁။ Cochrane (W.W) The Shans. P.49.

မိုးမိတ်အစ ကျိုင်းဟုံက" ဟု မိုးမိတ်နယ်ရှိ ရှမ်း၊ မြန်မာအမျိုးသားတို့ အစဉ်ဆိုရိုးရှိကြသည့်အတိုင်း "ကျိုင်းဟုံမြို့" ကို စိုးစံခဲ့ကြသော မင်းတို့ကား သကျသာကီဝင်မင်းမျိုးတို့မှစ၍ ဆက်နွယ်ပေါက်ဖွားလာကြ သည်ဟု ယူဆရာသည်။ ကျိုင်းဟုံမြို့မှတစ်ဖန် မိုးမိတ်သို့ ပြောင်းရွှေ့လာကြသည်။ ရှမ်းလူမျိုးတို့ အစစွာတည်ထောင်သည်ဟူသော ကျိုင်းဟုံမြို့သည် ယခုမိုးမိတ်နယ်၊ ရွှေလီမြစ်အရှေ့ဘက်ကမ်းပေါ်တွင် တည်ရှိသည်၊ ကျိုင်းဟုံမြို့ကို ဂေါတမမြတ်စွာဘုရား မပွင့်ပေါ်မီ ရှေးပဝေသဏီက အိန္ဒိယပြည်အလယ်ပိုင်းမှ အမည်ရင်း "သုဗာဟု" ဘွဲ့တော် "မဟာဝံသ ရာဇာ" သည် ညီတော် "ဘဒ္ဒသေန" နှင့်တကွ ကုန်းလမ်းခရီးဖြင့် လာရောက်တည်ထောင်ခဲ့သည်။ ထိုမင်းသည် စော်ဘွားကြီးများ အုပ်ချုပ်သော ရွှေလီမြစ်ဝှမ်းတစ်လျှောက်ရှိ နယ်ပယ်များကို သိမ်းသွင်းပေါင်းစည်း၍ အုပ်ချုပ်ခဲ့သည်။ ထိုအခါမှစ၍ "ဂန္ဓာရတိုင်း-ကျိုင်းဟုံပြည်ကြီး*" ဟူသော အမည်နာမဖြင့် ထင်ရှားလာသည်။[၁]

မဟာဝံသရာဇာမှစ၍ ၄၂ ပါးမြောက်သော မင်းသည် မဟာနွံ၏ သားတော်ဖြစ်သူ "ခွန်ဟော်ခမ်းကျိုင်းဟုံ" ဖြစ်သည်။ "ကျိုင်းဟုံရွှေနန်းရှင်"ဟု လည်းရေးသားထားသည်။ ထိုမင်း၏ စည်းစိမ်တော်မှာ ၈၆ နှစ်ဖြစ်သည်။ ထိုအချိန်ကား မဟာသက္ကရာဇ် ၁၂၂ ခုမှ သာသနာ

* ။ ကျိုင်းဟုံသည် မင်းနေပြည်တော်အဖြစ် နှစ်ပေါင်း ငါးရာကျော်တိုင်အောင် စည်ကားခဲ့ပြီး မင်းဆက်(၄၂) ဆက် အုပ်ချုပ်စိုးစံသွားခဲ့သည်။ ယခုအခါ မြို့တော်ဟောင်း၏ အကြွင်းအကျန်များအဖြစ် ကျုံးအနက် ၁၀ တောင်၊ အကျယ် ၁၅တောင်၊ တံခါး ၁၂ တောင်၊ မြို့တံခါးပေါက်တည့်တည့် မီးကာမြို့ရိုး (သို့မဟုတ်) ရွက်ကာမီးတားမှ အလျားလေးတာ အတောင် ၂၈၊ ထု ၁၅တောင်၊ အမြင့် ၈ တောင်မျှသာ သက်သေအဖြစ် ကျန်ရစ်၍ အခြားကျန်သည့်နေရာများတွင် တောချုံပုတ်တို့ဖြင့် ထူထပ်စွာခြုံရံလျက် ဆိတ်ငြိမ်သောအရပ်ကြီးအဖြစ်သို့ ရောက်ခဲ့ရလေတော့သည်။

၁။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး ၊ နှာ ၅၁။

သက္ကရာဇ် ၅၈ ခုနှစ် အတွင်းဖြစ်သည်။ ထိုအချိန်၌ပင် ရှမ်းလူမျိုးတို့သည် ရွှေလီမြစ်၊ သံလွင်မြစ်၊ ဧရာဝတီမြစ်ဝှမ်းတစ်လျှောက်တို့တွင် စည်ကားများပြားစပြုပြီဟု မှတ်ယူရန်ရှိလေသည်။[၁] ကျိုင်းဟုံရွှေနန်းရှင်သည် သားတော်ငါးပါးရှိလေသည်။ သာသနာတော် ၃၈ ခုနှစ်သို့ရောက်သော အခါ မိမိဩဇာပျံ့နှံ့ရာ နယ်အတွင်း၌ သားတော်ကြီး ဆေဟုံဖအား "မိုးမိတ်" (တားမြောင်မြို့)၊ သားတော်ဆေဟိုင်းဖအား "မိုးကောင်း" (အိုးစည်မြို့)၊ သားတော်ဆေအွန်ဖအား "မိုးညှင်း ခေါ် မိန်းယန်း" (ဖျိုင်းမြို့)၊ သားတော် ဆေဟိုကပ်အား "မိုးလှိုင်း"၊ သားတော် ဆေဟိုကျင်အား "မိုးဝန်း"၊ ညီတော်အမတ်ကြီး စောခမ်းရွှက်အား "ကောင်းစင်"၊ စောခမ်းရွှက်၏သား ခွန်မွန်လုံအား "ကောင်းတုံ"မြို့တို့ကို အသီးသီးတည်ထောင် ပြုစုစေပြီး တစ်ပြိုင်နက် အုပ်စိုးစေတော်မူသည်။[၂]

### ၆ း ၃ း ၃ ။ မိုးမိတ်မြို့နှင့် သာသနာတော်ဆက်စပ်ပုံသမိုင်း သာဓကများ

ဆေဟုံဖသည် သာသနာတော် ၃၅ ခုနှစ်တွင် မိုးမိတ်ကို စတင်တည်ထောင်ပြီး သာသနာတော် ၃၈ ခုနှစ်တွင် မြို့တော်ကို အပြီးသတ်သည်။ ဆေဟုံဖသည် မိမိပိုင်ဆိုင်ရာနိုင်ငံ စည်ပင်ကောင်းစားရန် ဆည်မြောင်းများစွာ တည်ထောင်ပြုစုသည်။ လယ်ယာကိုင်းကျွန်းတို့ကို အကြီးအကျယ် လုပ်ကိုင်စေသည်။ မြို့ရွာများကို တည်ထောင်သည်။ ဆေဟုံဖသည် နန်းမြတ်လှနှင့် ခန်းကြားပေး ဟူသော မိဖုရားနှစ်ပါးရှိသည်။ နှစ်ပါးစလုံးသည် မဟာမျိုးနွယ်ဖြစ်သော နှမတော်များဖြစ်ကြသည်။ နန်းမြတ်လှမှာ အစ်မတော်ဖြစ်သဖြင့် "စဝ်နန်းမိဖုရား" (သို့မဟုတ်) မဟာ

---

၁။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၆၂-၆၄။
၂။ ၎င်းစာ၊ နှာ၊ ၇၀

ဒေဝီဘွဲ့ခံပြီး မိဖုရားကြီး ဖြစ်လေသည်။ ထိုမိဖုရားမှ "စဝ်မြဝတီ" ဟူသော သမီးတော်ကို ဖွားမြင်၏။ ထိုသမီးတော်သည် ရုပ်ဆင်းအင်္ဂါ လက္ခဏာကြီးငယ်တို့နှင့် ပြည့်စုံသည်၊ ထိုအကြောင်းကို ဒွတ္တပေါင်မင်းကြီး♠ ကြားသိ၍ လက်ဆောင်ပဏ္ဏာ တို့နှင့်တကွ တမန်စေလွှတ်လျက် တောင်းခံလာလေသည်။ ခမည်းတော်ဆေဟုံဖက နှစ်ပြည့်တပြည် ရွှေလမ်းငွေလမ်း ပေါက်ရန်အတွက် သာသနာတော်(၁၀၁) ခုနှစ် ကောင်းမြတ်သောနေ့ရက်တွင် အဖျိုတော်ငါးဆယ်၊ ရွှေနန်းတော်ပြင်ရှိ ကျွန်တော်မျိုးအိမ်ထောင်စုံ မိန်းမယောကျ်ားပေါင်း (၂၀၀) အမတ်ချုပ်ကြီးနှင့်တကွ အမတ်တစ်ကျိပ်ကျော် စုစုပေါင်း (၂၅၀) ကျော်အပြင် ပစ္စည်းဘဏ္ဍာရတနာ ရွှေငွေတို့ကို ပေး၍ သမီးတော်စဝ်မြဝတီကို အပ်နှင်းဆက်သလိုက်သည်၊ လူပေါင်း (၁၀၀၀) ရှိတပ်ကို ရှေ့နောက်(၅၀၀) စီခင်းကျင်းလျက် ရွှေလီမြစ်နှင့် ဧရာဝတီမြစ်တွင်းရှိ ခရီးစဉ်အတိုင်း စုန်ဆင်းပြီး သရေခေတ္တရာ ပြည်သို့ အရောက်လိုက်ပို့စေသည်။ စဝ်မြဝတီသည် မိန်းမမြတ်တို့၏ လက္ခဏာ အင်္ဂါကြီးငယ် တင့်တယ်ခြင်းရှိသောကြောင့် မင်းကြီးမြင်ကာမျှ ရွှေနှလုံးတိမ်းမတ်သည် ဖြစ်ရကား စဝ်မြဝတီအား ယုယပိုက်ဖြား

---

♠ ။ ဒွတ္တပေါင်ကို ရှမ်းတို့က 'တွပ်တာပေါင်'ဟုခေါ်သည်။ တွပ်=ယူ၍ထည့်ထားသည်၊ တာ=မျက်စိ။ ပေါင်=ပွင့်လင်းသည် (လူတို့၏ မျက်စိထက် အလင်းရောင်တောက်ပသော မျက်စိတစ်လုံးကို နတ်ကယူ၍ အပိုထည့်ထားသောမင်း) ဟုဆိုသည်၊ မြန်မာစာပေတွင်လည်း "မျက်စိသုံးခု၊ အတုမဲ့ခေါင်၊ ဒွတ္တပေါင်" ဟုလည်းကောင်း၊ တွတ္တ-ပွေးဟုလည်းကောင်း၊ အချို့က မဟာသမ္ဘဝ-စူဠသမ္ဘဝ ခမည်းတော်နှစ်ပါးကိုအစွဲပြု၍ မှည့်ထားသည်ဟုလည်းကောင်း၊ အချို့က သထုံရာဇဝင်တွင် သထုံမင်းတစ်ပါးမှာ သူရိယစန္ဒာမဟာတွတ္တပေါင်မင်းဟုလည်းကောင်း၊ အချို့က ပျူတို့ဘာသာစကား "တဒဘား" ဟုဆိုထားကြ၍ တဒဘားသည် မင်းတစ်ပါးအမည်သာ မဟုတ်ဘဲ မင်းအများ၏ အမည်ဖြစ်သည်ဟု ဆိုကြသည်။

သနားလွန်မင်း အကြင်နာတော်ပြင်းလှသည်ကို နန်းတွင်းသူ မိဖုရား မောင်းမတစ်စုတို့သည် မရှုစိမ့်နိုင်အောင် ဖြစ်ကြသည်။[၁]

အခါတစ်ပါး မနာလိုသူ မိဖုရား၊ မောင်းမအပေါင်းတို့က စုန်း မဖြစ်ကြောင်း မဟုတ်မတရား လှည့်ဖြားလှည့်တင်ကြသည်ကို မင်းကြီး ယုံကြည်တော်မူ၍ အမျက်ထွက်ပြီး စဝ်မြဝတီအား ထီးနန်းမှ နှင်ထုတ် ခဲ့လေသည်။ စဝ်မြဝတီသည် အခြွေအရံတို့နှင့်တကွ ဧရာဝတီမြစ်အတိုင်း မိုးမိတ်သို့ ဆန်တက်လာခဲ့ရာ မိမိ၏ခမည်းတော် အာဏာနှံ့ရာဖြစ်သော မန္တလေးတောင်၏ အနောက်တောင်ယွန်း တာ(၂၀၀၀)ကျော်ခန့်သို့ ရောက်စဉ် ဒွတ္တပေါင်မင်းကြီးနှင့် စွဲ၍ဖြစ်သော ပတ္တမြားနှုတ်ငုံတော်သည် ပွင့်ချိန်ရောက်သဖြင့် သားတော်မင်းသားကလေးကို ဖွားမြင်တော်မူခဲ့လေ သည်။ စဝ်မြဝတီမိဖုရားသည် သားတော်ရရာအရပ်၌ မိုးမိတ်မှ ပါလာ သော ရွှေငွေများနှင့် ဓာတ်တော်တို့ကို ဌာပနာ၍ ခုနစ်တောင်နှစ်မိုက် ခန့်ရှိသော စေတီတော်တည်လေသည်။ ထိုစေတီသည် "သားတော်ရစေ တီ" ဟု အမည်တွင်ခဲ့ပြီး ယခုအခါ မဟာမြတ်မုနိဘုရား၏တောင်ဘက်၊ အသောကာရာမတိုက်နှင့် ငါးစုံတိုက်တို့အကြားတွင် ရှိ၏။ ယခု အခါကား နောက်လူများ ပြန်လည်ပြုပြင်သောကြောင့် အတောင်သုံးဆယ်ခန့် ကု လားကျောင်းခံ လိုဏ်လေးမုခ်ရှိ စေတီဖြစ်သည်။ ဒွတ္တပေါင်မင်းကြီးသည် မိဖုရား၊ မောင်းမအများ ကုန်းချော၍ စဝ်မြဝတီအား နှင်ထုတ်မိသည့် အတွက် နှမြောလွမ်းဆွတ်ကြေကွဲနေစဉ် စဝ်မြဝတီမိဖုရား သားတော်ဖွား မြင်ကြောင်း ကြားတော်မူသောအခါ များစွာသော စစ်သည်ဗိုလ်ပါတို့နှင့် ဧရာဝတီမြစ်ညာသို့ ဆန်တက်၍လာခဲ့သည်။ သားတော်ဖွားမြင်ရာအရပ် သို့ရောက်၍ စဝ်မြဝတီမိဖုရားအား ရွှေကထက်ပို၍ မြတ်နိုးတော်မူသည်။ မင်းကြီးသည် ယခု မဟာမြတ်မုနိဘုရား တည်တော်မူရာ အရပ်၌ တစ်လ

၁။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၇၂။

ခန့်နေတော်မူ၍ ရင်ရှိုးဓာတ်တော်ကို ဌာပနာလျက် ဆုတောင်းပြည့်စေတီတော် တည်ထားတော်မူပြီး စဝ်မြဝတီမိဖုရားကို ခေါ်တော်မူ၍ နေပြည်တော်သို့ ဝင်လာမူသည်ဟုဆိုသည်။[၁]

ဤစဝ်မြဝတီမိဖုရား တည်ထားသော 'သားတော်ရစေတီ'ကို ထောက်ရှုသောအားဖြင့် စဝ်မြဝတီတို့သည် ဗုဒ္ဓဘာသာကို ကိုးကွယ်သူများဖြစ်ကြောင်း ယုံမှားသံသယမရှိပေ။ စဝ်မြဝတီ၏ ခမည်းတော်၊ ဘိုးတော်စသော အထက်ဆွေတော်မျိုးတော် အဆက်ဆက်တို့သည်လည်း သာကီဝင်တို့ထံမှတစ်ဆင့် ဗုဒ္ဓဘာသာကို ယုံကြည်ကိုးကွယ်လာသူများ ဖြစ်ကြသည်ဟု ယူဆရပေမည်။

၆ း ၃ း ၄ ။ မဟာယာနဗုဒ္ဓဘာသာနှင့် ရှမ်းလူမျိုး

ဗုဒ္ဓဘာသာသည် မြောက်ပိုင်း မဟာယာနဗုဒ္ဓဘာသာနှင့် တောင်ပိုင်းထေရဝါဒ ဗုဒ္ဓဘာသာဟူ၍ နှစ်မျိုးကွဲပြားကြောင်း သိသာထင်ရှားသည်။ မြောက်ပိုင်း မဟာယာနဗုဒ္ဓဘာသာကို တိဗက်၊ တရုတ်၊ ဂျပန်နှင့် အခြားသော နယ်စွန်နယ်ဖျားဒေသများတွင် တွေ့ရပြီး တောင်ပိုင်းထေရဝါဒ ဗုဒ္ဓဘာသာကို သီဟိုဠ်၊ မြန်မာ၊ ယိုးဒယား၊ ကမ္ဘောဒီးယား၊ လော(လာအို)၊ တရုတ်ပြည်တောင်ပိုင်းဒေသနှင့် အခြားနေရာအနည်းငယ်တို့တွင် တွေ့ရသည်။ ယခု ရှမ်းလူမျိုးတို့ ကိုးကွယ်လက်ခံယုံကြည်သော သာသနာသည် တောင်ပိုင်းထေရဝါဒ ဗုဒ္ဓဘာသာဖြစ်သည်။[၂]

ရှမ်းလူမျိုးတို့၏ ရှေးဦးစွာယုံကြည်သော ဗုဒ္ဓဘာသာသည် ထေရဝါဒဗုဒ္ဓဘာသာမဟုတ်ဟု ဆိုကြသည်။ အစမှာ မဟာယာနဗုဒ္ဓဘာသာဖြစ်ပြီး နောက်ပိုင်းကာလတွင် ထေရဝါဒဗုဒ္ဓဘာသာအဖြစ်

---

၁။ ခေမိန္ဒ (ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၇၂။
၂။ Cochrane (W.W) The Shans. P.150.

ပြောင်းလဲလက်ခံ ယုံကြည်လာကြခြင်းဖြစ်သည်ဟု ဆိုသည်။ ထိုအဆိုသည် ယခုခေတ်မှန်းအချက်အရ မှန်ကန်နိုင်သော်လည်း လုံးဝဥဿုံကား မဆိုနိုင်ပေ။ ပါဠိ(မာဂဓ)စာပေကို အသုံးပြုသော တောင်ပိုင်းထေရဝါဒများ မရောက်လာမီ ဧရာဝတီမြစ်ဝှမ်းတစ်လျှောက်သို့ သက္ကတစာပေကို အသုံးပြုသော မြောက်ပိုင်းမဟာယာနဗုဒ္ဓဘာသာတို့သည် ထိုဒေသမှာ ခြေကုပ်ယူထားကြပြီဟု သိရသည်။ အိန္ဒိယမြောက်ပိုင်းမှ ဧရာဝတီမြစ်ဝှမ်းသို့ လာရောက်အခြေချသူများ၊ တကောင်းမြို့သို့ မြောက်ပိုင်းအိန္ဒိယ တိုင်းရင်းသားများ ရောက်ရှိလာခြင်းနှင့် အခြားသော သက်သေသာဓကများကို ထောက်ရှုခြင်းအားဖြင့် ခရစ်နှစ် အစောပိုင်းကာလမှ အနော်ရထာခေတ်မတိုင်မီအထိ မဟာယာနဗုဒ္ဓဘာသာသည် မြန်မာပြည်အထက်ပိုင်းတွင် ထွန်းကားနေသည်ကို တွေ့ရလေသည်။ သို့သော် နောက်ပိုင်းတွင် အရည်းကြီးဂိုဏ်းတို့၏ အယူအဆနှင့် ၎င်းတို့၏ နတ်နဂါးကိုးကွယ်မှုတို့ ရောနှောလက်ခံလာကြသည်။[၁]

ထိုရာစုနှစ်တို့တွင် ရှမ်းလူမျိုးများသည် အထက်ပိုင်း ဧရာဝတီမြစ်ဝှမ်းဒေသတို့ကို ကြီးစိုးနေချိန်ဖြစ်ပြီး ယင်းတို့၏ ဩဇာအာဏာလွှမ်းမိုးမှုသည် တောင်ဘက်ရှိ ပြည်မြို့အထိရောက်ရှိသည်။ မျက်မှောက် ဗမာလူမျိုးများနေထိုင်ရာဒေသတွင် တွေ့ရှိရသော သက္ကတကမ္ပည်းကျောက်စာများနှင့် အခြားမြောက်ပိုင်း ဗုဒ္ဓဘာသာ အထောက်အထားများကို ထောက်ရှုလျှင် ထိုခေတ်ကာလ၌ ရှမ်းလူမျိုးများသည် မဟာယာနဗုဒ္ဓဘာသာကို ကိုးကွယ်ကြသည်ဟူသော အယူအဆကို ငြင်းဆို၍ မရနိုင်ပါ။ အဘယ်ကြောင့်ဆိုသော် ခရစ်နှစ်အစောပိုင်းမှ အနော်ရထာခေတ်အထိ ရှမ်းလူမျိုးများသည် ဩဇာအရသော်လည်းကောင်း၊ လူဦးရေအရ

၁။ Cochrane (W.W) The Shans P.151.

သော်လည်းကောင်း ဗမာလူမျိုးထက်ပို၍ ကြီးမားနေသည်။ ထိုအချိန်၌ မြန်မာပြည်အတွင်းရှိ ရှမ်းတို့ဒေသများသည် အင်အားကြီးမားသော နန်ချို (နန်ချောင်) နိုင်ငံ၏လက်အောက်သို့ နောက်ပိုင်းမှ ရောက်ရှိသောဒေသ ဖြစ်သည်။ တကောင်းရှိ ရှမ်းများသည် အိန္ဒိယနှင့် အဆက်အသွယ်ရှိသည်ဟု ရှမ်းစာပေများတွင် ဆိုထားသည်။ ၎င်းတို့၏ ရိုးရာပုံပြင်များ အဆိုအရ ရှမ်းလူငယ်များသည် အိန္ဒိယနိုင်ငံသို့ သိပ္ပံအတတ်ပညာများ သွားသင်ယူကြသည်ဟု ဆိုသည်။ ထိုအချက်သည် မှန်သည်ဖြစ်စေ မမှန်သည်ဖြစ်စေ နန်ချိုနိုင်ငံတော်ကြီးသည်ကား အိန္ဒိယနိုင်ငံမြောက်ပိုင်းနှင့် နိုင်ငံရေး၊ စီးပွားရေး၊ ဘာသာရေးဆက်သွယ်မှုရှိသည့် အချက်ကို ယုံမှားသံသယမရှိနိုင်ချေ။ တိဗက်တို့ထံမှ ဗုဒ္ဓဘာသာကို ရရှိကြသည်ဟုလည်း ဆိုကြသည်။ ရှစ်ရာစုမတိုင်မီကာလတွင် နန်ချိုနှင့်တိဗက်တို့သည် ကူးလူးဆက်ဆံမှုရှိကြသည်ဟု သိရပြီး အထင်ရှားဆုံးအချက်မှာကား အနည်းဆုံး ကုန်သွယ်စီးပွားဆက်ဆံမှုရှိသည်မှာ သေချာသည်။ အကြောင်းမှာ တိဗက်နှင့်နန်ချိုသည် ပထဝီအနေအထားအရ နယ်ချင်းစပ်နေကြသည်၊ ထို့ကြောင့် မဟာယာနဗုဒ္ဓဘာသာသည် နန်ချိုနိုင်ငံတော်ထံ အတားအဆီးမရှိ ဝင်ရောက်လာနိုင်သည်။[၁]

၆ း ၃ း ၅ ။ မိုးမိတ်ရာဇဝင်မှတ်တမ်းမှ သက်သေသာဓက

သာသနာသက္ကရာဇ် ၅၁၈ မှ ၅၅၄ ခုနှစ် (ခရစ်မပေါ်မီ ၂၄နှစ်မှ အေဒီ ၁၂)တွင် မိုးမိတ်၌ ဆေဆောင်ဖ၏သားတော် ဆေစီးဖ နန်းတက်သည်။ ထိုမင်းသည် စိတ်နှလုံးနူးညံ့ပြီး လုံ့လဝီရိယနှင့်လည်း ပြည့်စုံ၍ ဆင်ခြင်နှိုင်းချိန်တတ်သော ဉာဏ်ပညာလည်းရှိ၏။ ထိုမင်းလက်

၁။ Cochrane (W.W) The Shans P.151.

ထက် သာသနာနှစ် ၅၃၈ ခု (ခရစ်မပေါ်မီ ၄ နှစ်)တွင် တိဗက်ပြည်မှ ဟုထင်ရသော ဗုဒ္ဓဘာသာရဟန်းတော် ဆယ်ပါးကြွရောက်လာ၍ တရား ဟောရာတွင် မင်းနှင့်တကွ ပြည်သူပြည်သားတို့ ယုံကြည်လေးမြတ်ခြင်း ရှိကြသဖြင့် များစွာလှူဒါန်းပူဇော်ကြလေသည် ဟုဆိုသည်။ ထိုမင်းလက် ထက်မှစ၍ ရှိရင်းနတ်ကိုးကွယ်ရေးတို့ မှေးမှိန်လျက် ဗုဒ္ဓဘာသာအယူ ဝါဒ ယုံကြည်ရေးများ တစ်စတစ်စ တိုးပွားလာကြသည်။ ရှေးအခါက ရှမ်းလူမျိုးတို့သည် ဟိန္ဒူကဲ့သို့ မီးနတ်ကို ကိုးကွယ်လာခဲ့ကြကြောင်း ထင် ရှားသည်။ ရှမ်းဘာသာအားဖြင့် မီးဖိုကို "ဖြီဖိုင်း"♦ ထိုမှ တစ်ဆင့် "ဖီးဖိုင်း" ဖြစ်သည်လာသည် ဟုဆိုသည်။[၁]

ရှေးခေတ်ဟောင်း ရှမ်းသီချင်းကြီးများတွင်လည်း "ခိူဝ်းတႆး ၶႆး သၢင်ယႅမ်းမႃး Khur tai Khai san yeang mar" ဟု အစချီ ထားသည်ကို တွေ့ရသည်။ ယင်းစကား၏ အဓိပ္ပါယ်ကား "ရှမ်း (တိုင်း) လူမျိုးများသည် ပြဟ္မာမှ ဆင်းသက်လာသည်"ဟု ဆိုထားသည်ကိုထောက် ၍ ရှေးခေတ်ရှမ်းများအပေါ် ဟိန္ဒူအယူဝါဒ လွှမ်းမိုးကြောင်းထင်ရှား၏။

## ၆ ၊ ၃ ၊ ၆ ။ လောဝ်သမိုင်းမှ သာဓက

အသောကမင်း(ဘီစီ ၂၆၉- ၂၃၂)သည် 'တိုင်း'(ရှမ်း)လူမျိုးတို့ကို အုပ်ချုပ်သော 'တာလီ'နိုင်ငံသို့ရောက်ရှိလာခဲ့ပြီး တာလီဘုရင်၏ သမီး တော် ဆိုင်မိုင်းကိုင် Chien Meng Kui နှင့်လက်ထပ်ထိမ်းမြားခဲ့ သည်။ သားတော်သုံးပါး ထွန်းကားခဲ့ပြီး အသောကမင်းကြီး အန္ဒိယသို့ပြန် သွားသည်[၂] ဟုလောဝ်သမိုင်းကဆိုသည်။ ဤအဆိုကိုထောက်ရှုခြင်းအား

---

♦။ ဖြီ- နတ် ၊ ဖိုင်း- မီး (မီးနတ်)

၁။ ခေမိန္ဒ (ဦး) မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၁၀၃-၁၀၄။

၂။ M.I. Manich. History of Laos. P.25

ဖြင့် ရှမ်းလူမျိုးများသည် အသောကခေတ်က ဗုဒ္ဓသာသနာတော်ကို လက်ခံရရှိကြောင်း ယူဆနိုင်ဖွယ်ရှိသည်။

များသောအားဖြင့် ရှမ်းပြည်နယ်ရှိ တန်းခိုးကြီးစေတီပုထိုး အများအပြားကို မူလအိန္ဒိယနိုင်ငံ မာဂဓတိုင်းရှင် သီရိဓမ္မာသောကမင်း၏ ကုသိုလ်တော် စေတီပေါင်း ၈၄၀၀၀ တွင် ပါဝင်ခဲ့သည့်စေတီများဟူ၍ ယုံကြည်ကြသည်။[၁]

လောဝ် သမိုင်းတစ်စောင်၌ ရှမ်းလူမျိုးတို့သည် သာသနာတော် ၆၁၂ (အေဒီ ၆၉)ခုနှစ်အိုက်လောဝ်မင်းဆက်ဖြစ်သော နောင်ချယ် (ခေါ်) နန်ချောင်ဘုရင် ခွန်လိမောဝ်လက်ထက်တွင် ဗုဒ္ဓသာသနာတော်ကို စတင်သက်ဝင်ယုံကြည်သည်ဟု ဆိုသည်။ မဟာယာနဗုဒ္ဓဘာသာဖြစ်ပြီး တရုတ်ဟန်မင်းဆက် ဘုရင်ခေမင်တီထံမှ ရရှိလာသည်[၂] ဟုဆိုသည်။

### ၆ း ၃ း ၇ ။ အနောက်တိုင်းသမိုင်းပညာရှင်များ၏ ယူဆချက်

မွန်ဂိုဘုရင် ကူဗလိုင်ခန်သည် တရုတ်နှင့် မောပြည်ကို အောင်နိုင်ပြီးနောက် သူ၏ လားမားဘုန်းကြီးများသည် အိုက်လောဝ်ရှမ်း၊ မောရှမ်းများအထံ မဟာယာနဗုဒ္ဓဘာသာ ပျံ့စေခဲ့သည်။[၃] အချက်သည် ဖြစ်နိုင်ချေ နည်းသော်လည်း လုံးဝမဟုတ်ဟုလည်း မဆိုနိုင်ပေ။ မဟာယာနဗုဒ္ဓသာသနာသည် တရုတ်ပြည်သို့ အေဒီ ၁ ရာစုကတည်းက ရောက်ရှိလာခဲ့သည်။ ပရော်ဖီဆာပတ်ကား၏ ထောက်ပြချက်အရ အေဒီ ၄ ရာစု အကုန်တွင်တရုတ်ပြည်လူဦးရေ ၁၀ ပုံ ၉ ပုံသည် ဗုဒ္ဓဘာသာများ ဖြစ်သည်ဟုဆိုသည်၊ လွန်စွာကြီးမား ကျယ်ပြန့်သော တရုတ်အင်ပါယာရှိ

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းလူမျိုး၊ နှာ၊ ၃၀၅။

၂။ ဝိရဝံမ်း (မဟာဆိလား) လောဝ်လူမျိုးတို့၏ သြဇာအာဏာ၊ နှာ၊ ၁၉။

၃။ Scott. Goorge(J). Buddhism in the Shan States. P.920.

သန်းပေါင်းများစွာသော လူဦးရေနှင့် ကွဲပြားသော ဘာသာစကားများကို ထည့်တွက်လျှင် ဗုဒ္ဓဘာသာသည် တရုတ်ပြည်၌ တောမီးကဲ့သို့ လျှင်မြန်စွာ ပြန့်နှံ့သည်ကို ယုံမှားသံသယ မရှိနိုင်ချေ။ တောင်ပိုင်းဒေသရှိ ရှမ်းများမှအပ ရှမ်းလူမျိုးများသည် အေဒီ ၄ ရာစုနှင့် ၅ ရာစု မနှောင်းမီ ကတည်းက ဗုဒ္ဓဘာသာ ကိုးကွယ်သည့် လူမျိုးများ ဝိုင်းရံမှုကို ခံခဲ့ရသည်။ ထိုအချိန်၌ နန်ချောင်နိုင်ငံတော်တွင် တရုတ်တို့၏ လက်အောက်ခံ နယ်ပယ်တစ်ခုဖြစ်ခဲ့သည့်အပြင် တရုတ်တို့ကို မကြာခဏ တော်လှန်ပုန်ကန်ကြသည်ဟု ဆိုသည်။ သို့သော် တရုတ်ဗုဒ္ဓဘာသာကို ရှမ်းတို့ လက်ခံယုံကြည်မှုသည် နိုင်ငံ၏ဩဇာလွှမ်းမိုးမှုတစ်ခုတည်းသာမဟုတ်ဘဲ ရှမ်းများသည် အစောပိုင်းကာလမှ တရုတ်တို့ထံမှ ဗုဒ္ဓဘာသာကို လက်ခံရရှိသည်ကိုလည်း အောက်ပါသာဓကများအရ အလွယ်တကူ ခန့်မှန်းသိရှိနိုင်ပါသည်။[၁]

၆ : ၃ : ၈ ။ မစ္စတာတော်စိန်ခို၏ အယူအဆနှင့် သာဓက

မစ္စတာတော်စိန်ခို တွေ့ရှိချက်အရ မြန်မာဗုဒ္ဓဘာသာထဲရှိ တချို့သော သက္ကတစကားလုံးများသည် တရုတ်ဗုဒ္ဓဘာသာထဲရှိ သက္ကတစကားလုံးများနှင့် ပုံသဏ္ဌာန်ခြင်း တူနေသည်ကို တွေ့ရသည်။ ဤအချက်ကို ထုတ်ဖော်ပြီး မဟာယာနဗုဒ္ဓဘာသာသည် တရုတ်သာသနာပြုများ၏ ယူဆောင်လာမှုကြောင့် မြန်မာနိုင်ငံသို့ ရောက်ရှိသည်ဟု ဆိုသည်။ သူ၏ အယူအဆကို လွယ်ကူစွာ ပယ်ချနိုင်သော်လည်း သူထုတ်ဖော်ပြသသော စကားလုံး(ဝေါဟာရ) ၁၆ လုံးကိုကား မငြင်းပယ်နိုင်ပေ။ ဤစကားလုံးများ မြန်မာပြည်သို့ ရောက်လာခြင်းသည် အကြောင်းမဲ့ ရောက်လာခြင်း မဟုတ်ပေ။ ထိုစကားလုံးများသည် တရုတ်တို့က ဗမာသက္ကတထံမှ ရခဲ့

၁။ Cochrane (W.W) The Shans P.151-152

လေသလော၊ သို့မဟုတ် ဗမာတို့က ထိုစကား လုံးများကို တရုတ်တို့ထံမှ ရရှိခဲ့လေသလောဟု မည်သည့်အရာမျှ သေချာစွာဆို၍ မရပါ။ အဆိုပါ စကားလုံးသည် သမိုင်းကြောင်း၏ အချက်အလက်ဖြစ်မည်ဟု ထင်ရပါသည်၊ ရှမ်းများက ထိုသက္ကတစာလုံးကို တရုတ်မှဗမာထံသို့ သယ်ဆောင်ပေးသည် ဆိုသည့်အချက်မှာ ဖြစ်နိုင်သည်။ မစ္စတာတော်စိန်ခို၏ အယူအဆမှာကား တရုတ်လူမျိုးများကိုယ်တိုင် ယူဆောင်လာသည်ဟု ဆိုသည်၊ သူ၏ ထောက်ပြချက်အရ တရုတ်သာသာနာပြုအဖွဲ့သည် အိန္ဒိယသို့ သွားသောအခါ အသွားအပြန်တွင် ခရီးတစ်ထောက် နားခိုရန်အတွက် မြန်မာပြည်ကို အသုံးပြုသည်ဟု ဆိုသည်၊ ထို့ကြောင့် တရုတ်သာသနာပြုများသည် တရုတ်နိုင်ငံ၏ ဩဇာအာဏာကြီးမှုကို အသုံးပြုပြီး သူတို့၏ လွှမ်းမိုးမှုကို ချဲ့ထွင်သည်ဟု ဆိုသည်။ သူ၏ဖော်ပြချက်သည် အောက်ပါအတိုင်း လေးချက်ရှိပါသည်။[၁]

(၁) အေဒီ ၁၁ ရာစုအတွင်း အနော်ရထာသည်သထုံကို မအောင်မြင်သေးသောကာလတွင် ဧရာဝတီမြစ်ဝှမ်း အထက်ပိုင်းဒေသတို့သည် မဟာယာနဗုဒ္ဓဘာသာ ထွန်းကားနေခြင်း၊

(၂) ရာစုနှစ် အစောပိုင်း၌ တကောင်း၊ ပြည်၊ ပုဂံဒေသတို့တွင် တရုတ်ဗုဒ္ဓဘာသာတို့က တရုတ်ဘာသာဖြင့် မဟာနကိုသင်ကြားပေးပြီး အိန္ဒိယသာသနာပြုများသည် သက္ကတဘာသာဖြင့် တစ်ဘတ်စီ သင်ကြားပေးနေသည်၊ ထိုအချိန်တွင် တရုတ်နိုင်ငံရေးအရှိန်အဝါကြောင့် တရုတ်ဘုန်းတော်ကြီးများသည် အိန္ဒိယနှင့်ယှဉ်သော် ပိုပြီးလူကြိုက်များ၍သူတို့၏ သင်ပြပေးမှုသည်လည်း ပိုမိုခရီးရောက်ခြင်း။

၁။ Cochrane (W.W) The Shans P.152-153.

(၃) တရုတ်နိုင်ငံမှ အိန္ဒိယသို့သွားသော သာသနာပြုများ၊ အိန္ဒိယမှတရုတ်သို့သွားသော သာသနာပြုများသည် မြန်မာနိုင်ငံရှိ ပုသိမ်၊ ဗန်းမော်ကို ဖြတ်သန်းသွားလာခြင်း။

(၄) မြန်မာနိုင်ငံသည် အိန္ဒိယနှင့်တရုတ်နိုင်ငံတို့၏ အကြား၌တည်ရှိခြင်းတို့သည် သာသနာပြုများ လွှမ်းမိုးမှုကြောင့် မဟာယာနဗုဒ္ဓဘာသာဖြစ်သည်ဟု ဆိုသည်။[၁]

အားလုံးကို ခြုံကြည့်လျှင် ဤအချက်တို့သည် သမိုင်းအရမှန်ကန်သော်လည်း မြန်မာဗုဒ္ဓဘာသာအတွင်း တရုတ်သက္ကတဘာသာစကားလုံးများ ရောက်ရှိနေခြင်းမျှဖြင့် လုံးဝမလုံလောက်နိုင်ပေ။ ဤစကားလုံးများ အမြစ်တွယ်ရန်အတွက် လုံ့လဝီရိယ အနည်းငယ်ဖြင့်လည်း မဖြစ်နိုင်၊ ရာစုနှစ်ပေါင်းများစွာ အချိန်များစွာလိုအပ်ပါသည်။ နောက်ထပ် အကြောင်းပြချက်အနည်းငယ်ကား တရုတ်သာသနာပြုများသည် မြန်မာနိုင်ငံသို့ တိုက်ရိုက်အားဖြင့် သာသနာပြုရောက်လာသည်ဟု ဆိုရပါမည်။ ဘုရားဖူးများသည် များသောအားဖြင့် အိန္ဒိယသို့ ဘုရားဖူးသွားကြသောအခါ အိန္ဒိယမြောက်ပိုင်း Via Turkestan ဘက်သို့သွားပြီး ဤတောင်ပိုင်းလမ်းကိုအသုံးပြုဟန်မတူ။ အနည်းငယ်သော ဘုရားဖူးများသာ မြန်မာနိုင်ငံသို့ ရောက်ရှိလာကြသည်။ မြန်မာနိုင်ငံသို့ ရောက်ရှိလာသော တရုတ်သာသနာပြုများသည် အခြေချမနေထိုင်လိုကြပေ။ နန်းချောင်ရှမ်းများသည်တရုတ်တို့၏ အရှိန်အဝါကြောင့် မဟာယာနဗုဒ္ဓဘာသာကို ယုံကြည်လက်ခံရရှိသည်ဟုဆိုသော် ကြားခံယူဆောင်ပေးသည့်သူ လိုအပ်နေပါသည်။ ရှမ်းများအခြေချနေထိုင်သည့် အထက်ပိုင်း ဧရာဝတီမြစ်ဝှမ်းဒေသသည် နန်းချောင်နိုင်ငံတော်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

---

၁။ Cochrane (W.W) The Shans P.153

အေဒီရှစ်ရာစုနှင့်ဆယ်ရာစု အကြားတွင် နန်ချောင်နိုင်ငံတော်သည် တန်ခိုးသြဇာကြီးမားသော အချိန်ကာလဖြစ်သည်။ ထိုအချိန်သည် ဧရာဝတီမြစ်ဝှမ်းတွင် မဟာယာနဗုဒ္ဓဘာသာ ထွန်းကားနေသော အချိန်ဖြစ်၍ ဗမာလူမျိုးသည် ရှမ်းလူမျိုးနှင့်နှိုင်းစာလျှင် လူနည်းစုသာဖြစ်သည်၊ ပုဂံသည်လည်း အနော်ရထာခေတ်မတိုင်မီက ရှမ်းများ၏အရိပ် အောက်မှာ နေရသည်ဟုဆိုသည်။ ဗမာများသည် ဤသက္ကတစကားလုံးများကို တရုတ်တို့ထံမှ ရရှိသောအချက်နှင့် ရှမ်းတို့ထံမှတစ်ဆင့် ရရှိသောအချက်သည် မည်သည့်အယူအဆမှန်ကန်ကြောင်းကို သမိုင်းအထောက်အထားဖြင့် ကြည့်ပြီးဆုံးဖြတ်လျှင် ပိုပြီးပြည့်စုံမှန်ကန်နိုင်သည်။ ဤကွင်းဆက် အချက်အလက်တို့ကို ထောက်ပြီး ရှမ်းများသည် မဟာယာနဗုဒ္ဓဘာသာကို လက်ခံယုံကြည်လာခဲ့ကြောင်းကို သက်သေပြနိုင်လေသည်။[၁]

၆ း ၃ း ၉ ။ အဟုမ်စာပေဖြင့် သက်သေသာဓကပြခြင်း

ပိုပြီးခိုင်လုံပြည့်စုံသော သက်သေသာဓကတစ်ခု ရှိပါသည်၊ အဟုမ်ရှေးဟောင်း ရှမ်းစာပေသည် ကမ္ဘောဒီးယားမှ မြစ်ဖျားခံပေါ်ပေါက်လာပြီး လုံးဝဥဿုံမပြည့်စုံသော်လည်း ပဓာနကျသည်။ ဒေသခံ၏ အဖြစ်အပျက်မှတ်တမ်းများကို ခြွင်းချက်ထား၍ ရှေးဟောင်းအဟုမ်ရှမ်းစာပေသည် ဤဒေသသို့ ရောက်ရှိလာသောအချိန်မှာ တော်ပိုင်းရှမ်းများ ဝင်ရောက်ကျူးကျော်အခြေချနေထိုင်ပြီး ၁၃ ရာစုနှစ် အစောပိုင်းကာလ၌ ထိုစာကိုအာသံသို့ ယူဆောင်သွားသော အချိန်ဖြစ်ဟန်တူသည်။ ရှေးဟောင်းအဟုမ်စာပေ တစ်ပိုင်းတစ်စတွင် "အဟုမ်၏ စကြာဝဠာဇာစ်မြစ်နှင့် ဆင့်ကဲပေါ်ထွန်းမှုအယူအဆများ" ပါဝင်သည်။ ထိုစကြာဝဠာ အယူ

---

၁။ Cochrane (W.W) The Shans PP.153-154.

အဆတွင် စဝ်အင်း Sao lng သည် အာဒိဗုဒ္ဓ Adi Buddha ဖြစ်ပြီး မဟာယာနဗုဒ္ဓဘာသာလည်းဖြစ်သည်။ ဖော်ပြခဲ့သည့်အတိုင်း ဤစကြာဝဠာဆိုင်ရာ အယူအဆသည် အာသံပြည်နယ်သို့ ရှမ်းများယူ ဆောင်လာခဲ့သည်ဟု အတည်ပြုခဲ့လျှင် ရှမ်းများသည် ထေရဝါဒဗုဒ္ဓဘာသာကို လက်ခံယုံကြည်မှု မပြုမီကာလ၌ မဟာယာနဗုဒ္ဓဘာသာကို ယုံကြည်ကိုးကွယ်ကြသည်ဟု သံသယကင်းစွာ သက်သေပြနိုင်သည်။ ထိုစကြာဝဠာဆိုင်ရာ အယူအဆထဲ၌ "ကြက်ဥနှင့် နမ့်ပူလောက်" The egg and to *"nam- pu-Lawk"* အားရည်ညွှန်းသည်ကို ထောက်ပြလျှင် တရုတ်နိုင်ငံမှလာသော မဟာယာနဗုဒ္ဓဘာသာ ဖြစ်ဟန်တူသည်။[၁]

၆ း ၃ း ၁၀ ။ ရှမ်းစာပေများဖြင့် သုံးသပ်ဆုံးဖြတ်ခြင်း (က)

ရှမ်စာပေဖြင့်သုံးသပ်၍သက်သေသာဓကများ ထုတ်ပြပါဦးမည် Sir George Soctt, Mr.Taw Sineko နှင့် အချို့သောပညာရှင်များအဆိုအရ နန်ချောင်ရှမ်းများသည် ကိုယ်ပိုင်စာပေ လုံးဝရှိရမည်ဟုဆိုသည်။ အကယ်၍ သူတို့သည် ကိုယ်ပိုင်စာမရှိခဲ့လျှင် သူတို့၏လွန်စွာကျယ်ပြန့်သော အင်ပါယာချဲ့ထွင်မှု၊ ထိရောက်သော နိုင်ငံရေးဖွဲ့စည်းမှုနှင့် စကားအရာ ကျယ်ပြန့်ကွဲပြား၍ လွတ်လပ်သော ဒေသခံစကားကွဲပြားခြားနားမှုတို့ကို ရှင်းလင်းဖော်ပြနိုင်မည်မဟုတ်။ အစောပိုင်းကာလတွင် သူတို့သည် စာပေအက္ခရာရှိသည်ဟု ကောက်ချက်ချလျှင် မြောက်ပိုင်းဗုဒ္ဓဘာသာမှလာသော စာပေအက္ခရာဖြစ်ကြောင်း သေချာသည်။ မြန်မာနိုင်ငံရှိရှမ်းများသည် အိန္ဒိယမှလာသော မြောက်ပိုင်းဗုဒ္ဓဘာသာနှင့် တိုက်ရိုက်အဆက်အသွယ်ရှိခဲ့သည်။ တောင်ပိုင်းအက္ခရာသို့ အသွင်

၁။ Cochrane (W.W) The Shans P.154.

ပြောင်းပြီး အသုံးမပြုမီကာလ၌ သူတို့၏ ရှေးဟောင်းအက္ခရာသည် ဗမာလူမျိုးများ အသုံးပြုသော ရှေးဟောင်းအက္ခရာ ပုံသဏ္ဌာန်နှင့် တူနိုင်သည်။ ဤအချက်သည် လက်ခံနိုင်ဖွယ်ရှိသော်လည်း ယခုရှမ်းလူမျိုးများ အသုံးပြုနေသော အက္ခရာသည် ပင်ရင်းတလိုင်း(မွန်တလိုင်း)မှ လာသော အက္ခရာဖြစ်သည်ကို မည်သို့မျှမဆိုနိုင်ချေ။ ယူနန်ရှမ်းများသည် သူတို့ ကိုယ်ပိုင်အက္ခရာစာပေ ပေါ်ပေါက်သည်အထိ တရုတ်ဘာသာဖြင့် ပညာသင်ယူခဲ့ကြသည်ဟုဆိုသည်။ ထိုအချိန်က တရုတ်လူမျိုးတို့သည်လည်း အထက်တန်းစားအသိုင်းအဝိုင်းများသာ စာပေတတ်မြောက်ကြသည်၊ တောင်ပိုင်းဗုဒ္ဓဘာသာ၏ ပါဠိအက္ခရာကို အခြေခံထားသော တောင်ပိုင်းရှမ်းဗုဒ္ဓဘာသာများမှအပ ယူနန်ရှမ်းများ (တရုတ်ပြည်ရှိရှမ်းများ)သည် ရာစုနှစ်ပေါင်းများစွာအတွင်း စစ်ဘေးစစ်ဒဏ်ကြောင့် သူတို့၏စာပေများ အဖျက်ဆီးခံခဲ့ရသည်ဟု ဆိုသည်။ ယခုခေတ်ကာလတိုင် တရုတ်အနောက်တောင်ပိုင်းတွင်ရှိသော ရှမ်းအများစုသည် စာပေလည်းမရှိ ဗုဒ္ဓဘာသာလည်းမဟုတ်ချေ။[၁]

မြန်မာပြည်၌မူကား မြန်မာရှေးဟောင်းအက္ခရာသည် နောက်ပိုင်းတွင် မြန်မာပြည်တောင်ပိုင်း အက္ခရာများ၏ အစားထိုးမှုကိုခံရသည်၊ ထို့အတူ ဧရာဝတီမြစ်ဝှမ်း အထက်ပိုင်း တောင်ကြားဒေသနှင့် ရှမ်းပြည် အနောက်ပိုင်းဒေသရှိ ရှမ်းများသည်လည်း တောင်ပိုင်းမှလာသော အက္ခရာများကို ပြောင်းလဲအသုံးပြုကြသည်။ မြောက်ပိုင်းရှမ်းအက္ခရာသည်ပင်လျှင် ထိုကဲ့သို့ ဖော်ညွှန်းထားသည်။ ဤအချက်သည် မွန်နှင့် ယခုမြန်မာစာပေတွင်ရှိသော ဃ၊ ဈ၊ ဓ အက္ခရာများသည် ရှမ်းစာပေနှင့် တိဗက်စာပေထဲတွင် မတွေ့ရပါ။ ရှေးဟောင်း မြန်မာစာတွင်လည်း

၁။ Cochrane (W.W) The Shans P.154-155.

မရှိချေ။ ရှမ်းစာပေတွင် ထိုအက္ခရာမရှိခြင်းသည် အကြောင်းရင်း နှစ်ချက်ရှိပေမည်။[၁]

'ရှမ်းအက္ခရာများ၏မိခင်' ဟု ဆိုရသော လောဝ်အက္ခရာသည် (အရာကျယ်သော ထိုင်းစာပေမှအပ) ဗျည်း ၄၅ လုံးရှိ၍ တစ်ခါတစ်ရံ နှာသံပါသော အက္ခရာကိုထည့်တွက်လျှင် ၄၆ လုံးရှိသည်။ ဤ ၄၆ လုံး အနက် ထက်ဝက်မျှသော အက္ခရာကိုသာ လိုအပ်ပြီး ကျန်သောအက္ခရာမှာကား အသံအနိမ့်အမြင့်အတွက် ချန်လှပ်ထားသည်။ မြောက်ပိုင်းရှမ်းများသည် ဤအက္ခရာအားလုံးကို ပြောင်းလဲပြီး အသံအနိမ့်ကိုလည်း အသုံးမပြုပါ။ အသုံးမပြုခြင်းမှာ သူတို့၏စာပေထဲ၌ လိုအပ်မှု မရှိသောကြောင့်ဖြစ်သည်။ မြန်မာလူမျိုးကဲ့သို့ ရှမ်းများသည် စာပေရှိခဲ့သည်ဆိုသော် တလိုင်း(မွန်) နှင့် အခြားသောလူမျိုးတို့၏ စာပေအက္ခရာကို အသုံးမပြုဘဲ သူတို့၏ကိုယ်ပိုင်စာပေရှိခဲ့သည်ဟု ယူဆလျှင် ပိုပြီးသဘာဝကျသည်။ မဟာယာနဗုဒ္ဓဘာသာနွယ်သော ရှေးဟောင်း ရှမ်းစာပေအက္ခရာနှင့် ယခုခေတ် ထေရဝါဒကိုယုံကြည်သော ရှမ်းတို့၏ စာပေကိုကြည့်လျှင် မတူညီဘဲ ကွဲပြားခြားနားနေသည်။ ယခုရှမ်းဗုဒ္ဓဘာသာနှင့် ရှမ်းအက္ခရာစာပေသည် တောင်ပိုင်းထေရဝါဒ ဗုဒ္ဓစာပေအက္ခရာဖြစ်သည်။[၂]

## ၆ း ၃ း ၁၁ ။ ရှမ်းစာပေများဖြင့် သုံးသပ်ဆုံးဖြတ်ခြင်း (ခ)

ရှမ်းစာပေဖြင့် သုံးသပ်ဆုံးဖြတ်ခြင်း(က)တွင် အဓိကအားဖြင့် အနောက်နိုင်ငံပညာရှင်များ၏ ထင်မြင်ယူဆချက်များကို ထောက်ရှု၍ ရှမ်းလူမျိုးများသည် အစောပိုင်းကာလ၌ မဟာယာနဗုဒ္ဓဘာသာကို

---

၁။ Cochrane (W.W) The Shans P.155.

၂။ Ibit. PP.155-156.

ယုံကြည်ကိုးကွယ်ကြောင်း ဆွေးနွေးတင်ပြသွားခဲ့လေပြီ။ ဤအပိုင်း(ခ) တွင်ကား "ရှမ်း"ခေါ် "တိုင်း"လူမျိုးတို့၏ ထင်မြင်ယူဆချက်ကို ဆက်လက်ဆွေးနွေးတင်ပြလိုပါသည်။

တချို့သော ရှမ်းသမိုင်းပညာရှင်များက ရှမ်းစာပေသည် တကောင်းခေတ် (ဘီစီ-၈၄၃) တွင် အဘိရာဇာမင်းက ကောလိယပြည်မှ ရယူခဲ့သည်ဟုဆိုသည်။ တကောင်းမှတစ်ဆင့် ဘိန္နကရာဇာမင်းသည် မောပြည်သို့ ရောက်လာသည်။ စာလုံးပုံစံမှာ သက္ကတဆန်သည်ဟုဆိုသည်။ နန်ချောင်ဘုရင် ဆိုင်လောဝ်ပီ (အေဒီ ၇၂၈-၇၄၈) လက်ထက်တွင် ရှမ်းအက္ခရာများကို လေးထောင့်ပုံသဏ္ဌာန်အဖြစ် ပြောင်းလဲအသုံးပြုခဲ့သည်။ မိခင်ရင်းဘာသာမှ မလိုအပ်သော အက္ခရာများကို ဖယ်ထုတ်ပစ်သဖြင့် ဗျည်း ၁၇/၁၈ လုံးသာရှိတော့သည်။ ထိုစာသည် ပဲပင်ပေါက်ပုံသဏ္ဌာန်ရှိပြီး ရှမ်းတို့က "လိတ်ထိုငေါက်ယောင်း (လိၵ်ႈထူဝ်ႇငွၵ်ႈယၢဝ်း)" "ပဲပင်ပေါက်ရှည်စာ" ဟုခေါ်ကြသည်။ ခေတ်ဟောင်းမောဝ်ရှမ်းစာပေဖြစ်သည်။ အေဒီ ၁၃၁၂ ခုနှစ်တွင် မောဝ်ရှမ်းဘုရင် ဆောခန်ဖသည် ခေတ်ဟောင်းရှမ်းစာကို ထိုကဲ့သို့ မရှည်စေတော့ပဲ တိုအောင်ပြုပြင်လိုက်သဖြင့် "လိတ်ထိုငေါက်ပွတ်း(လိၵ်ႈထူဝ်ႇငွၵ်ႈပွတ်း)""ပဲပင်ပေါက်စာ"ကို အဝိုင်းပုံသဏ္ဌာန် ပြုပြင်အသုံးပြုလာသဖြင့် ထိုစာသည် "ခေတ်ဟောင်းရှမ်းကြီးစာ"အဖြစ် တည်ရှိလေတော့သည်။ ဒုတိယကမ္ဘာစစ်ပြီးဆုံးပြီးနောက် စဝ်ဆိုင်မိန်းနှင့် ဆရာတော် ဦးဝိဇယနန္ဒဦးဆောင်သော ရှမ်းပညာရှင်များက "ခေတ်ဟောင်းရှမ်းကြီးစာ"ကို ပြင်ဆင်ဖြည့်စွက်ပြီး "ခေတ်သစ်ရှမ်းစာ"၏ မျိုးစေ့ချပေးခဲ့လေသည်။ အေဒီ ၁၂၃၅ ခုနှစ် ကူဗလိုင်ခန်တို့၏ ကျူးကျော်တိုက်ခိုက်မှုကြောင့် တောင်ပိုင်းဒေသသို့ ပြောင်းရွှေ့လာကြသော ရှမ်းများသည် နိုင်ငံအသီးသီးတည်ထောင်ကြသည်။ တောင်ပိုင်းဒေသသို့ရောက်လာသော ထိုင်း၊ လောဝ်၊ ယွန်း၊ လူးတို့သည်လည်း

သီးခြား စာပေများ ရှိကြလေသည်။[၁]

တောင်ပိုင်းဒေသသို့ ရောက်ရှိသွားသော ထိုင်း၊ လောဝ်၊ ယွန်း၊ လူးတို့၏စာပေများတွင် ပါဠိအက္ခရာနှင့် သက္ကတများတွေ့ရသော်လည်း မြောက်ပိုင်းရှိ ရှမ်းကြီး၊ မောဝ်ရှမ်းတို့၏ စာပေတို့၌ကား ပါဠိ၊ သက္ကတ အက္ခရာများကို မတွေ့ရချေ။ ရှမ်းစာအက္ခရာများထဲတွင် ပါဠိ၊ သက္ကတ တွေ့ရခြင်း မတွေ့ရခြင်းကို ဆန်းစစ်ကြည့်ခြင်းအားဖြင့် ရှမ်းလူမျိုးများ တို့ကို ထေရဝါဒဗုဒ္ဓဘာသာနှင့် မဟာယာနဗုဒ္ဓဘာသာ ယုံကြည်ကိုးကွယ် မှုကို ပိုမိုထင်ရှားစွာ ခွဲခြားမြင်တွေ့နိုင်သည်။

ယွန်းရှမ်းအက္ခရာ (သို့မဟုတ်) မိန်းအက္ခရာ ® (A Laotain race's literary language)သည် အေဒီ ၉၅၇ ခုနှစ်ခန့်တွင် မွန်နှင့်ခမာတို့နှင့်အတူ ပေါ်ပေါက်လာခဲ့ပြီး ကျိုင်းသေဉ် (ခေါ်) ယောနက တိုင်း (ယိုးနက်)တွင် လာရောက်ထွန်းကားသည်။ ယွန်းရှမ်းစာသည် ဒွါ ရဝတီနှင့် ခမာတို့၏စာကို အခြေခံ၍ တီထွင်ခဲ့လေသည်။[၂] တီထွင်သည့် အချိန်တွင် ခမာစာကို မှီငြမ်းသဖြင့် ပါဠိနှင့် သက္ကတ အက္ခရာများလည်း ပါဝင်သည်ကို မည်သူမျှ ငြင်းဆိုနိုင်မည်မဟုတ်။ ယွန်းစာပေသည် ပါဠိ စာပေကဲ့သို့ အက္ခရာ ၄၁ လုံးရှိသော်လည်း ခမာ၊ ချမ်ပ၊ မွန်တို့၏ ဝေါ ဟာရများအပြင် သက္ကတအက္ခရာများကိုလည်း ထည့်သွင်းအသုံးပြုသဖြင့် အက္ခရာ ၅၂ လုံးရှိလေသည်။ (ဗျဉ္စန ၄၄ နှင့် သရ ၈ လုံးရှိသည်) ထို

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.110

® ။ ယွန်းရှမ်း၏ စာဖြစ်သဖြင့် (လိဂ်ႈယူၼ်း)"ယွန်းစာ"ဟုခေါ်သည်။ ထိုခေတ်အခါက နိုင်ငံတော်သုံးစာပေဖြစ်သဖြင့် (လိဂ်ႈမိူင်း) "မိန်းစာ" ဟုခေါ်သည်။ တရားဓမ္မကိုရေး သားရာတွင် အသုံးများသဖြင့် (လိဂ်ႈထမ်း) "ထမ်းစာ"(သို့မဟုတ်) ဓမ္မစာ"ဟုလည်း ခေါ်သည်။

၂။ အိန္ဒယောထင်း (လုံးတစ်ဆင်) ချောင်ဖရားမြစ်၏ အရှင်သခင်၊ နှာ၊ ၁၀၈။

ယွန်းစာဖြင့် တရားဓမ္မကို ရေးသားရာတွင် မူလအက္ခရာ ၄၁ လုံးပြုပြီး ရိုးရိုးစာပေများကို ရေးသားရာ၌ ခမာကဲ့သို့ အက္ခရာ ၅၁ လုံးကို အသုံး ပြုဟန်တူသည်။ ခေတ်အဆက်ဆက် ပြုပြင်လာမှုကြောင့် နောက်ပိုင်းတွင် မိမိလူမျိုးတို့နှင့် ကိုက်ညီသည့် အသံထွက်အသုံးအနှုန်းများကို ရရှိလာပြီး ခမာစာတို့နှင့် ခြားနားသွားလေသည်။ သီးခြားပုံသဏ္ဍာန်အဖြစ် တည်ရှိ လာပြီးနောက်ပိုင်းတွင်လောဝ်စာ၊ဂုံစာ၊ လူးစာအဖြစ် မှုကွဲသွားသည်။[၁]

အေဒီ ၁၃-၁၄ ရာစုနှစ်အထိ လူးဆစ်ဆောင်ပန်းနား၊ ကျိုင်းတုံ၊ လင်းဇင်း၊ လန်နားတို့ကို တည်ထောင်နိုင်သည်အထိ ရှမ်းတို့ပြောဆိုသော စကားများ၊ လူပုဂ္ဂိုလ်နာမည်များနှင့် တိုင်းပြည်မြို့၏အမည်များသည် ပါဠိ၊ သက္ကတဖြင့် မတွေ့ရသေးဘဲ ရှမ်းအမည်များအဖြစ်ဖြင့်သာ တွေ့ ရသည်။ အေဒီ ၁၅-၁၆ ရာစုအထိ မြောက်ပိုင်းနိုင်ငံများဖြစ်ကြသော နန်ချောင် (လန့်စဝ်) မိုင်းမော (မောရှမ်းပြည်)၊ သိန္နီတို့သည်လည်း ပါဠိသက္ကတကို အသုံးမပြုဘဲ ရှမ်းစကားဖြင့်သာ သုံးနှုန်းသည်ကို တွေ့ရ သည်။[၂] ဤကဲ့သို့ ပါဠိအသုံးမပြုကြခြင်း မြောက်ပိုင်းနိုင်ငံများတွင် မိမိတို့၏ ဘာသာစကားတွင် အသုံးမလိုသော အက္ခရာများကို ဖြုတ်ပစ် ခြင်းစသည်ကို ထောက်ရှုလျှင် တောင်ပိုင်းဗုဒ္ဓစာပေများသည် ထိုဒေသသို့ မလွှမ်းမိုးနိုင်သေးခြင်း၊ မရောက်ရှိသေးခြင်းကြောင့်လည်းကောင်း၊ ထို ဒေသတွင် မြောက်ပိုင်းဗုဒ္ဓဘာသာများသာ လွှမ်းမိုးနေခြင်းကြောင့်လည်း ကောင်း ဖြစ်ပေမည်ဟု ယူဆရပါသည်။

နန်ချောင်နိုင်ငံကို ဝိဒေဟရာဇ်တိုင်း၊ မောပြည်ကို မောရိယတိုင်း၊ သိန္နီကို သိဝိတိုင်း၊ ကျိုင်းတုံကို ခေမရဋ္ဌတိုင်း၊ လန်နားကို ယောနကတိုင်း စသည်တို့ကို ပါဠိဖြင့်ခေါ်ဝေါ်သုံးစွဲသည်မှာ အေဒီ ၁၅-၁၆ ရာစု နောက်

---

၁။ မုန်ခ် (မဟာ)၊ ရှမ်းစာပေသုတေသနစာတမ်း၊ နှာ၊ ၆။

၂။ ၎င်းစာ။

ပိုင်းမှ ခေါ်ဝေါ်ခြင်းဖြစ်သည်။ ဤအချိန်တွင် ထေရဝါဒဗုဒ္ဓဘာသာသည်လည်း မြောက်ပိုင်းနိုင်ငံသို့ ရောက်ရှိနေပြီဖြစ်သောကြောင့်ဖြစ်မည်။

ဆုခေါ်ထိုင်း၏ ဒုတိယမင်းဆက် "ဘုရင်ရာမဂါမဟိ" ဖြစ်သူက အေဒီ ၁၂၈၃ ခုနှစ်တွင် ထိုင်းအက္ခရာစာကို တီထွင်ပေးခဲ့သည်။[၁] ထိုထိုင်းစာသည် ပလ္လဝနှင့်ဖြဟ္မီအက္ခရာကို အခြေခံသောခမာတို့၏ စာပေကိုမှီငြမ်းပြီး တီထွင်ခြင်းဖြစ်သည်။ ထိုင်းစာသည် ခမာစာနှင့် ယွန်းစာထက် နှစ်ပေါင်း ၂၀၀ ခန့် နောက်ကျသည်ဟု ဆိုသည်။ ဆုခေါ်ထိုင်းနိုင်ငံတော်သည် ကိုယ်ပိုင်စာပေရှိလာ၍ လော့ဗူရီကို အောင်မြင်သောအခါ တိုင်းပြည်၏နာမည်များကို အယုဒ္ဓယ၊ ချန်းပူရီ(ခနပူရီ)စသည်ဖြင့်လည်းကောင်း၊ လူပုဂ္ဂိုလ်၏ နာမည်များကို ရာမာဓိပတိဘုရင်၊ ချက္ကရိမဟာရာဇစသည်ဖြင့်လည်းကောင်း ပါဠိသက္ကတများ အသုံးပြုလာကြသည်ကို တွေ့ရသည်။[၂]

ခေတ်ကာလအစောပိုင်းတွင် ထိုင်းလူမျိုးတို့သည် ခမာလူမျိုးတို့ထံမှ ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာကို ရရှိခဲ့သည်။ ဘီစီ ၃၂၉ နှစ်ကတည်းက သီရိမဂ္ဂသောကမင်းကြီးသည် သုဝဏ္ဏဘူမိ(ခေါ်)နခွန်းပထွမ် (နဂရပထမ)သို့ သာသနာပြုစေလွှတ်ခဲ့သဖြင့် ထိုအချိန်မှစ၍ ထေရဝါဒဗုဒ္ဓဘာသာသည် ဤဒေသတွင် ပျံ့နှံ့နေပြီဖြစ်သည်။ အေဒီ ၇၀၀ တွင် စုမတြာမှ ဘုရင်သီရိဝိဇယည် မဟာယာနဗုဒ္ဓဘာသာကို ယိုးဒယားသို့ သယ်ဆောင်လာသည်။ အေဒီ ၁၀၀၀ ခုနှစ်တွင် ပုဂံပြည်မှ ထေရဝါဒဗုဒ္ဓဘာသာသည် ထိုင်းနိုင်ငံမြောက်ပိုင်းဒေသသို့ ပျံ့နှံ့လာခဲ့သည်။ အေဒီ ၁၂၅၃ ခုနှစ်တွင် ယိုးဒယားသံဃာတော်များသည် သီဟိုဠ်သံဃာတော်များ ပင့်ဆောင်လာခဲ့သဖြင့် ထေရဝါဒသည် ပိုမို၍ပြန့်ပွားခဲ့သည်။[၃] ထို

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းလူမျိုး၊ နှာ၊ ၄၀၂။
၂။ မုန့်ဒိ (မဟာ)၊ ရှမ်းစာပေသုတေသနစာတမ်း၊ နှာ၊ ၉။
၃။ Luang Suriyabongs (Dr.) Buddhism in Thailand. P.38.

ကြောင့် ထိုင်းလူမျိုးများသည် တောင်ပိုင်းဗုဒ္ဓဘာသာကို ကိုးကွယ်ယုံကြည်လာကြသဖြင့် တောင်ပိုင်းဗုဒ္ဓစာပေများသည်လည်း ထိုင်းစာတွင် ပိုမိုလွှမ်းမိုးလာသည်ကို တွေ့ရသည်။ ဤကဲ့သို့ လွှမ်းမိုးလာခြင်းကို ထောက်ရှုသော် ထေရဝါဒဗုဒ္ဓဘာသာသည် မြောက်ပိုင်းရှမ်းများထက်စော၍ ထိုင်းလူမျိုးတို့ထံ ရောက်လာသည်ဟု ဆိုရပေမည်။

၆း ၃း ၁၂။ ရှမ်းလူမျိုးနှင့် ထေရဝါဒဗုဒ္ဓဘာသာ

ယခုအခါ အာရှတိုက်တွင်ရှိသော ရှမ်းလူမျိုးနွယ် ၉၀ ရာခိုင်နှုန်းကျော်ကျော်သည် ထေရဝါဒဗုဒ္ဓဘာသာကို ယုံကြည်ကိုးကွယ်ကြသူများဖြစ်ကြသည်၊ တရုတ်ပြည်အနောက်တောင်ပိုင်းရှိ အချို့သော ရှမ်းလူမျိုးများ၊ လောနှင့် ဗီယက်နမ်နိုင်ငံရှိ တိုင်းလမ်၊ တိုင်းခေါင် (ရှမ်းဖြူ ရှမ်းနက်) တို့သာလျှင် ရိုးရာနတ်ကိုးကွယ် သူများဖြစ်၍ ဗုဒ္ဓဘာသာဝင် မဟုတ်သော ရှမ်းများ ဖြစ်ကြသည်။ ရှမ်းလူမျိုးများ တောင်ပိုင်းဒေသသို့ မရောက်လာမီ မဟာယာနဗုဒ္ဓဘာသာကို ယုံကြည်လာခဲ့သည့် အကြောင်းများကို ပြဆိုခဲ့ပြီးဖြစ်သည်။ ရှမ်းလူမျိုးများ ထေရဝါဒလက်ခံရရှိပုံများကို ဆက်လက်တင်ပြလိုပါသည်။ ဗုဒ္ဓသာသနာ့သမိုင်းကို ကြည့်လျှင် သာသနာတော်ပြန့်ပွားပုံမှာ အချို့သောနေရာ၌ ထေရဝါဒဘာသာသည် တောရိုင်းများကို ခုတ်ထွင်ရှင်းလင်းပြီး နောက်ပိုင်းတွင် မဟာယာနဗုဒ္ဓဘာသာတို့က ထိုခုတ်ထွင်ရှင်းလင်းပြီးသော နေရာသို့ ဝင်ရောက်နေရာယူကြသည် ကို တွေ့ရပေမည်၊ ရှမ်းလူမျိုးတို့ဝင်ရောက် အခြေချနေထိုင်သော တောင်ပိုင်းဒေသဖြစ်သည့် ယောနက (ခေါ်) ဟရိဘုဥ္စ (ခေါ်) ယွန်းတိုင်းပြည်သို့ သာသနာရောက်ရှိလာပုံကို ဦးစွာတင်ပြလိုပါသည်။

# ရှမ်းလူမျိုးများ၏ ကွဲပြားသော စာပေများ ၃၁၃၁၅

ရှမ်းကြီးစာ

ခန္တီးရှမ်းစာ

အဟုမ်ရှမ်းစာ

မောရှမ်းစာ

ယွန်းရှမ်းစာ(ကျိုင်းဝီ)

ဂုံရှမ်းစာ

ယွန်းရှမ်းစာ(လန္နနား)

လောစာ(မြောက်ပိုင်း)

လူးရှမ်းစာ

ထိုင်းစာ

ก ข ฃ ค ฅ ฆ ง
จ ฉ ช ซ ฌ ญ
ฎ ฏ ฐ ฑ ฒ ณ
ด ต ถ ท ธ น
บ ป ผ ฝ พ ฟ ภ ม
ย ร ล ว ศ ษ ส ห
ฬ อ ฮ

လောစာ(တောင်ပိုင်း)

ກ ຂ ຄ ງ
ຈ ສ ຊ ຍ
ດ ຕ ຖ ທ ນ
ບ ປ ຜ ຝ ຟ
ມ ຢ ລ ວ ຫ
ອ ຮ

ဗီယက်နမ်ရှိ
တိုင်းလမ်စာ

ဗီယက်နမ်ရှိ
တိုင်းခေါ်ဝ်စာ

ဗီယက်နမ်ရှိ
တိုင်းလှိုင်စာ

၆ း ၃ း ၁၃ ။ ယောနကတိုင်း စိစစ်ချက်[၁]

(က) ကိုးတိုင်းကိုးဌာန သာသနာပြုစေလွှတ်ရာတွင် ပါဝင်သော "ယောနက"ဆိုသည်မှာ အဋ္ဌကထာ၌ "မဟာရက္ခိတတ္ထေရံ ယောနက လောကံ ပေသေသိ" ဟု ဩကာသဝါစက လောကသဒ္ဒါနှင့် ဆိုသည်။ အဋ္ဌကထာဆရာအလိုဖြင့် ယောနက မည်သောအရပ်ဒေသစုကို ယူသင့်သည်။ ယောနကတိုင်းတွင်ယူရမည် မဟုတ်ဟု ဆိုလိုသည်။

(ခ) သက္ကရာဇ် ၉၉၁ ခုနှစ်တွင် ရတနာပူရ အင်းဝနေပြည်တော်၌ နန်းတက်သော သာလွန်မင်းလက်ထက် "ဇမ္ဗူဒီပဓဇ" ဟူသော တံဆိပ်တော်ရ ပုခန်းကြီးမြို့ ရွှေဥမင်ဆရာတော်သည် "ယောနကံလောကံ-ပန်းသေးပြည်သို့" ဟု ပါရာဇိကဏ် အဋ္ဌကထာ နိဿယ၌ အနက်မြန်မာပြန်ဆိုသည်။

(ဂ) သက္ကရာဇ် ၁၁၉၁ ခုနှစ်တွင် ဒိပဲရင်းနယ် မုံတိုင်ပင်ဆရာတော် စီရင်သော "သုံးပုံအိတ် ထောင့်ကျမ်း" ၌ "ယောနကလောက၊ နာမပျံ့မွေ့၊ ခေါ်ဝေါ်ရေး၊ ပန်းသေးပြည်၌သာ"ဟု ဆိုသည်။

(ဃ) အောင်မြင်လောက ဘုရားဒါယကာ ဆင်ဖြူရှင်မင်းတရားကြီး၏ သားတော် တောင်ငူကေတုမတီ သတိုးဓမ္မရာဇာဘုရင်ခံ မင်းတရားလက်ထက် မဲထီးဆရာတော်စီရင်သော "ဝံသဒီပနီကျမ်း" ၌ "မဟာရက္ခိတမထေရ် ယောနကရဋ္ဌ ပန်းသေးပြည်သို့ သွား၍ ကာလာမသုတ်ကိုဟောတော်မူသည်" ဟူ၍လည်းကောင်း၊ ယိုဒယားပြည်ကား ယောနကတိုင်းဖြစ်သည်" ဟူ၍လည်းကောင်း ဆိုသည်။

(င) သာသနာလင်္ကာရ၌လည်း သက္ကရာဇ် ၁၂၂၃ ခု ပဉ္စမသံဂါယ

---

၁။ ရာဇိန္ဒ(အရှင်)၊ သာသနဗဟုဿုတပ္ပကာသနီ၊ နှာ၊ ၂၀၁-၂၀၂။

နာတင် မင်းတုန်းမင်းတရားကြီးလက်ထက် "ပညာသာမိသိရိကဝိဓဇမဟာဓမ္မ ရာဇာဓိရာဇာဂုရု" ဖြစ်တော်မူသော မောင်းထောင်ဆရာတော် ပါဠိမာဂဓသက်သက်ရေးသားသော "သာသန ဝံသပ္ပဒီပိကာကျမ်း"၌လည်း "ယောန ဘာသာယ ဇေတဲ့ဌာနံ စစ်မယ် က္ကတိ ဝုစ္စတိ စိရကာလဝသေန ဇင်းမယ် က္ကတိ ဝုစ္စတိ" ဟူ၍လည်းကောင်း အသီးသီး မိန့်ဆိုတော်မူကြ၏။

(၆) အိန္ဒိယပထဝီ ကျောင်းသုံးမြေပုံစာအုပ်တွင် ယောနကတိုင်းသည် မိလိန္ဒမင်းကြီး၏ နေရာဖြစ်သော သာဂရပြည်ကို မဇ္ဈိမဒေသ အနောက်မြောက်ဘက်ရှိ ဟိမဝန္တာတောင်တန်းအနီးတွင် တွေ့ရှိရသည်။ မဇ္ဈိမဒေသ၏ ပြင်ပဖြစ်သည်ဟု ဆိုသည်။♣

(၇) အနောက်တိုင်းပညာရှင်တို့ကမူ ယောနကတိုင်းသည် ဟိန္ဒူကွတ် Hindu Kush တောင်နှင့် အာရှတိုက်အလယ်ပိုင်းရှိ ဩက္ကဆ Oxusမြစ်အကြားရှိဘက်တြိယာနယ် Bactria ဖြစ်သည်ဟုဆိုသည်။ ဩက္ကဆမြစ်၏ အစမှာ ရုရှားနှင့် အာဖဂန်နယ်စပ်တွင် ရှိသည်။♦

ဖ: ၃ : ၁၃ : ၁ ။ ယောနကသို့ ပထမအကြိမ်သာသနာရောက်ခြင်း[1]

ဝေနေယျတို့ စီးပွားချမ်းသာကို အရှည်ဆောင်ရွက်တော်မူထသော သဗ္ဗညုဘုရားရှင်သည် ယောနကတိုင်း၌ သာသနာတော် အရှည်တည်ထွန်းမည်ကို မြင်တော်မူ၍ သံဃာတော်အများနှင့် ကိုယ်တိုင်တော်ဒေသစာရီ ကြွတော်မူ၍ လမ်းပွန်းမြို့သို့ ရောက်တော်မူ၏။ ထိုအခါ

♣။ ရာဇိန္ဒ(အရှင်)၊ သာသနဗဟုဿုတပ္ပကာသနီ၊ နှာ၊ ၂၀၄။

♦။ ၎င်းစာ

၁။ ဓမ္မသကြီ(မဟာ)၊ သာသနာ့လင်္ကာရစာတမ်း၊ နှာ၊ ၇၁-၇၂။

မုဆိုးတစ်ဦးက ကြစုသီးလှူတောကို ဘုဥ်းပေးတော်မူပြီး[®] လျှင် ကြစုစေ့ကို ပစ်လိုက်သော် မြေသို့မကျ ကောင်းကင်ဝယ်တော်နေသောကြောင့် ပြုံးတော်မူသည့် အကြောင်းကို ရှင်အာနန္ဒာမေးလျှောက်လျှင် နောင်အခါ ဤအရပ်တွင် ငါ၏ဓာတ်တော်ကို စေတီတည်လတ္တံ့၊ သာသနာတော်လည်း ထွန်းလင်းစည်လတ္တံ့ဟု ဗျာဒိတ်ထားတော်မူသည်။ ထိုအခါ မဲပိန်းချောင်းအနားတွင်ရှိသော လဝကြီးသည် ခုနစ်နှစ်အရွယ် သားသူငယ်ကို ဘုရားရှင်ထံ အပ်နှံ၍ သာမဏေပြုစေပြီး ကမ္မဋ္ဌာန်းဘာဝနာစီးဖြန်းသဖြင့် မရှည်မကြာ ရဟန္တာဖြစ်လေ၏။ ခုနစ်နှစ်အရွယ် သာမဏေငယ်ဖြစ်သည်ကို အကြောင်းပြု၍ ရှမ်းယွန်းဘာသာဖြင့် "စစ်မယ်အရပ်" ဟု တွင်သည်ကို ကာလရှည်လျားသဖြင့် "ဇင်းမယ်" ဟု အက္ခရာအသတ်လွဲ၍ ခေါ်ဝေါ်လေသည်။ ထိုရဟန္တာသာမဏေငယ်ကစ၍ ထိုအရပ်သို့ သာသနာတော်မြတ် သက်ဆင်းစဖြစ်၏။

၆ း ၃ း ၁၃ း ၂။ ဒုတိယအကြိမ် သာသနာရောက်ခြင်း[၁]

သာသနာတော်နှစ် ၂၃၅ ခုနှစ် (ဘီစီ ၃၀၈) တွင် ကိုးတိုင်းကိုးဋ္ဌာနသို့ သာသနာပြုစေသည့်ကာလ မဟာရက္ခိတမထေရ်ကို ယောနကတိုင်းသို့ သာသနာပြုစေကြောင်းကို ပါရာဇိကဏ် အဋ္ဌကထာ လာသည်နှင့်အညီ "မဟာရက္ခိတတ္ထေရံ ယောနကရဋ္ဌံ" မဆိုမူ၍ "ယောနကလောကံ" ဆိုခြင်းသည် အကြောင်းထူးရှိမည်ဖြစ်သည်။ အကြောင်းထူးကား-

(၁) သီပေါ၊ ညောင်ရွှေ၊ မိုးနဲအစရှိသော ပြည်ကြီးတို့၏ တည်ရာ

---

®။ ကြစုသီးလှူသည်ကို ဘုဥ်းပေးတော်မူရာဖြစ်၍ "ကြစု"ကိုဟောသော "ဟရိ" သဒ္ဒါ၊ "ဘုဥ်းပေးခြင်း" ကိုဟောသော "ဘုဥ္ဇ" သဒ္ဒါဖြင့် "ဟရိဘုဥ္ဇတိုင်း" ဟု တွင်သည်။

၁။ ဓမ္မသကြီ (မဟာ)၊ သာသနာလင်္ကာရ စာတမ်း၊ နှာ၊ ၇၂-၇၄။

ဖြစ်သော ကမ္ဘောဇတိုင်း။

(၂) ဗန်းမော် ခွေးလုံ, စန္ဒာအစရှိသော ပြည်ကြီးတို့၏တည်ရာ ဖြစ်သော စိန့်တိုင်း။

(၃) ကျိုင်းတုံ , ကျိုင်းချိုင် အစရှိသော ပြည်ကြီးတို့၏ တည်ရဖြစ်သော ဟရိဘုဥ္စတိုင်း။

(၄) ဇင်းမယ်, ကျိုင်းသေဉ် အစရှိသော ပြည်ကြီးတို့၏ တည်ရာ ဖြစ်သော ဟရိဘုဥ္စတိုင်း။

(၅) ကျိုင်းရုံ, မိုင်းဆည် အစရှိသော ပြည်ကြီးတို့၏ တည်ရာဖြစ်သော မဟာနဂရတိုင်း။

ဤသို့ ပညာရှိအဆက်ဆက် လက်စွဲမှတ်သားကြသော အစဉ်စာပေရှိသည့်အတိုင်း သံလွင်မြစ် အနောက်ဘက်ရှိ ရှမ်းကိုးပြည်ထောင်၊ အရှေ့ဘက်ယွန်းကိုးပြည်ထောင်များသည် ယောနကတိုင်းကြီး၏ အတွင်းတိုင်းစိတ်၊ ခရိုင်စိတ်အားလုံး ပါစေလိုသောကြောင့် "ယောနကလောကံ" ဟု"လောက"*သဒ္ဒါဖြင့် ဆိုလေသည်။

မဟာရက္ခိတမထေရ်လည်း သံဃာတော်ငါးပါးနှင့်တကွ ပါဋလိပုတ်ပြည်မှ ကောင်းကင်ခရီးဖြင့် ယောနကတိုင်းသို့ရောက်လာပြီး ကာလကာမသုတ္တန်ကို ဟောကြားတော်မူသည်။ တိုင်းသူတိုင်းသားတို့ကို သာသနာတော်၌ သက်ဝင်ယုံကြည်စေ၍ တစ်သိန်းခုနှစ်သောင်းသော

* ၊ ဤအရာတွင် "လောက" သဒ္ဒါကား အရပ်များကို နှံ၍ "ဩကာသလောက" "ရဋ္ဌ" သဒ္ဒါကား ဆိုင်ရာအစိတ်တွင်သာဖြစ်သော "တိုင်းခရိုင် ၊ ဇနပုဒ်"ဟော၏ "လောက" ကား သာမည၊ "ရဋ္ဌ" ကား ဝိသေသဟုမှတ်လေ။ ထို့ကြောင့် ယခင်တိုင်း ခရိုင်၊ ဇနပုဒ်အစိတ်နှင့်တကွသော ယောနကတိုင်းကြီး၌ အရှင်မဟာရက္ခိတမထေရ် သာသနာပြုစုသည်ကို ဆိုသည်၊ အဋ္ဌကထာတွင် "မဏ္ဍလံ ဒေသဘာဂံ ဒီပံ"ဟု အထူးဆိုရာများ၌လည်း ဤနည်းနှင့် အဓိပ္ပါယ်အထူး ယူလေ။

တိုင်းသူတိုင်းသား သတ္တဝါများကို မင်္ဂလေးတန်၊ ဖိုဝ်လေးတန့် တန်ဆာမွန့်ဖြင့် ဆင်ယင်လေ၏၊ တစ်သောင်းသော အမျိုးကောင်းသားတို့သည် ရဟန်းပြုကြ၏။ ထိုရဟန်းတို့က ဆက်လက်ပွားများသော ဆရာအစဉ်အဆက် တပည့်များကား သိန်းသန်းမက များပြားလှသည်ဟု မှတ်ယူရာ၏။

၆ း ၃ း ၁၃ း ၃ ။ တတိယအကြိမ် သာသနာရောက်ခြင်း[၁]

ရာဇဝင်အရ သာသနာနှစ် ၅၀၀ (ဘီစီ ၄၂)တွင် မြဆင်းတုကို ဝိသကြုံနတ်သားထုလုပ်၍ အရှင်မဟာနာဂသိန်အား ပေးအပ်၏ အရှင်မဟာနာဂသိန်လည်း မြဆင်းတုတွင်ဓာတ်တော်အစစ် ကိန်းဝပ်လာပါစေဟု အဓိဋ္ဌာန်ပြုသည်၊ အဓိဋ္ဌာန်ချက်အတိုင်း ဓာတ်တော်စစ် ခုနစ်ဆူ ကိန်းဝပ်လာ၍ တန်ခိုးပြာဋိဟာ ထင်ရှားပြသည် ဟူ၍ဆိုသည်။

ထိုရာဇဝင်စကားအရ

(၁) သာသနာနှစ် ၅၀၀ ဆိုသည်နှင့် "မမ ပရိနိဗ္ဗာနတော ပဉ္စ ဝဿသတေ အတိက္ကန္တေ ဧတေ ဥပ္ပဇ္ဇိဿန္တိ - ငါဘုရား ပရိနိဗ္ဗာန်လားတော်မူသည်မှ နှစ်ငါးရာ ကျော်လွန်သည်ရှိသော် ထိုအရှင်နာဂသိန်နှင့် မိလိန္ဒမင်းကြီးတို့သည် ထင်ရှားဖြစ် ပေါ်လတ္တံ့"ဟု မိလိန္ဒပဉှာတွင် လာသည့်စကားနှင့် ညီညွတ်သောကြောင့် လည်းကောင်း၊

(၂) နာဂသိန်နှင့် မိလိန္ဒမင်း အမြေအတင်စကား ပြောဟောပြီးသည့် အဆုံး၌ "ရှင်သာရိပုတ္တရာ ကိုထားပြီး တစ်ပါးသောရဟန်းသည် အမေးပြဿနာဖြေဆိုရာ၌ အရှင်နှင့် မတူနိုင်"ချီးမွမ်းတန်တော့

---

၁။ ဓမ္မသကြီ (မဟာ)၊ သာသနာလင်္ကာရ စာတမ်း၊ နှာ၊ ၇၄-၇၅။

ပြီးမှ သရဏဂုံတည်သောဥပါသကာအဖြစ်ကို ကြား၍မိလိန္ဒ ဝိဟာရမည်သော ကျောင်းကို မိလိန္ဒမင်း ဆောက်လုပ်ပြီးလျှင် အရှင်နာဂသိန်ကို တင်လှူသည်။ ကုဋေတစ်သိန်းသော ရဟန်းသံဃာနှင့်တကွ ပစ္စည်းလေးပါးဖြင့် လုပ်ကျွေးသည်။ ထိုနောက် သားတော်ကြီးအား ပြည်ကိုဆောင်နှင်း၍ ရဟန်းပြုလျှင် ရဟန္တာ ဖြစ်လေသည်ဟု မိလိန္ဒပဉှာတွင် လာသည်နှင့် လက္ခဏ်းမြို့တွင်ရှိသော မြဆင်းတုကို ဝိသကြုံနတ်သား ထုလုပ်၍ အရှင်မဟာနာဂ သိန်အား ပေးအပ်သည်ဟူ၍ ထိုအရပ်တွင် အရှင်နာဂသိန် ရှိနေသောစကားအရ ရာဇဝင်ဆိုသောအရာနှင့် ညီညွတ်သော ကြောင့်လည်းကောင်း၊

(၃) ယောနက - ဟူသော မဂဓပုဒ်၏ အနက်အရ "ရှမ်းယွန်း" ဟူ၍ ဆရာအစဉ်အဆက်ယူမှတ်ကြသည်နှင့်အညီ "ယောန ကာနံ သာဂလံ နာမနဂရံ" ဟု မိလိန္ဒပဉှာတွင် ရှမ်းယွန်းတို့၏ မြို့ပြည်ဖြစ်ကြောင်းကို ဆိုသောအရာနှင့် ညီညွတ်သောကြောင့် လည်းကောင်း၊

(၄) ရာဇဂ်လရှာ ဝတ္တနိယကျောင်းသည် ပါဋလိပုတ်ပြည်ရှိ အသောကာရုံကျောင်းနှင့် ယူဇနာတစ်ရာကွာသည်ဟု မိလိန္ဒ ပဉှာဆိုသောအခါ၊ သီဟိုဠ်ကျွန်းကူး သင်္ဘောဆိပ်သည် ယောန ကတိုင်းနှင့် ယူဇနာတစ်ရာကွာသည်ဟု သမ္မောဟဝိနောဒနီ အဋ္ဌကထာတွင် ရှိသောစကားများကို ထောက်လျှင် ယောနက တိုင်း၏ နေရပ်နှင့် ဆီလျော်သောကြောင့်လည်းကောင်း၊

(၅) မဇ္ဈိမတိုက် သောဠသနဂိုရ်တွင် ယောနကတိုင်း ဟူ၍ မပါ သောကြောင့် ယခုစွဲမှတ်ခေါ်ဝေါ်ကြသော ရှမ်းယွန်းတို့၏ တိုင်း ပြည်မှတစ်ပါး အခြားယောနကတိုင်း ဟူ၍ ပြစရာမရှိသော

ကြောင့်လည်းကောင်း ဤအကြောင်းတို့ကိုထောက်၍ အရှင်နာဂသိန်နှင့် မိလိန္ဒမင်းတို့၏ နေရပ်ဖြစ်သည်ဟုယူ မှတ် သင့်သည့်အတိုင်း မှန်လျှင် သာသနာနှစ် ၅၀၀ ကျော် စကပင် အရှင်နာဂသိန်ကို စွဲလည်း ယောနကတိုင်း၌ သာသနာတော် စည်ပင်ထွန်းလင်းသည်ဟု ဆိုရပေမည်။

၆ း ၃ း ၁၃ း ၄ ။ စတုတ္ထအကြိမ် သာသနာရောက်ခြင်း

သက္ကရာဇ် ၆၅၁ ခုနှစ်၌ ဗညားစောမင်းရဲသည် လပုံးမှ ကျိုင်းရဲမြို့ကို တည်ထောင်လေသည်။ ထိုမင်းလက်ထက်တွင် မဇ္ဈိမဒေသမှ အရှင်ကဿပနှင့် မထေရ်ငါးပါးတို့ ကြွရောက်လာကြသည်။ ဗညားစောမင်းရဲသည်လည်း ကျောင်းဆောက်၍ တင်လှူသည်။ သီဟိုဠ်ကျွန်းမှ ဓာတ်တော်ကို ဆောင်ယူ၍ မထေရ်တစ်ပါးလည်း ရောက်လာသည်၊ ဓာတ်တော်မှ ထွက်သောရောင်ခြည်တော်ကို မြင်ပြီး ကြည်ညိုသဖြင့် လပုံးစေတီတွင် ဌာပနာသည်။ ထိုသို့ ကြွရောက်လာသော မထေရ်များကို စွဲ၍လည်း ယောနကတိုင်း၌ သာသနာတော်မြတ် သက်ဆင်းသည်။[၁]

၆ း ၃ း ၁၄ း ၅ ။ ပဉ္စမအကြိမ် သာသနာရောက်ခြင်း။

သက္ကရာဇ် ၈၂၅ ခုနှစ်တွင် တရုတ်ဥတည်းဘွားက ထိပါးလာသဖြင့် ရှမ်းပြည်၊ ယွန်းပြည်မငြိမ်ဝပ်ရှိလေသည်။ ဇင်းမယ်မှ မဟာဓမ္မဂမ္ဘိရနှင့် မဟာမေဓင်္ကရ နှစ်ပါးသည် သံဃာအများနှင့်သီဟိုဠ်ကျွန်းသို့ ကူးသွားသည်။ ထိုအခါ သီဟိုဠ်ကျွန်းတွင်လည်း ဒုဋ္ဌိကုဋ္ဌရကပ်ဆိုက်နေသဖြင့် ယိုးဒယားပြည် သောက္ကတဲမြို့သို့ ပြန်လာခဲ့ကြပြီး နောက်ပိုင်းတွင် လကွန်း

---

၁။ ဓမ္မသကြီ (မဟာ)၊ သာသနာလင်္ကာရ စာတမ်း၊ နှာ၊ ၇၆။

သို့ ရောက်၍ သာသနာတော်ကို ပြုစုသည်။ ရဟန်းတို့ကို စိစစ်မေး နှုန်း၍ သိက္ခာအသစ် တင်ပေးသည်။ ရှမ်းပြည်၊ ယွန်းပြည်အရပ်ရပ်စေ့ ပ်အောင် သာသနာတော်ကို သုတ်သင်ပြုစုသည်။[၁]

၆း ၃း ၁၃ း ၆ ။ ဆဋ္ဌမအကြိမ် သာသနာရောက်ခြင်း

သက္ကရာဇ် ၈၂၅ ခုနှစ်တွင် "သီရိသဒ္ဓမ္မလောကပတိစက္ကဝတိ ရာဇာ" အမည်ခံသော ဗညားကြမ်းလက်ထက်တွင် လပုံးစေတီကို မျှ၍ တည်တော်မူသည်။ စေတီတော်ဝန်းကျင်၌ ကျောင်းလေးဆောင် ဆောက် လုပ်ပြီး မဟာမေဓာကေ်ရ၊ သာရိပုတ္တရာ မထေရ်နှစ်ပါးကို တင်လှူသည်။ ထိုအခါ ထိုဆရာတော်နှစ်ပါးလည်း သာသနာတော်ကို သုတ်သင်ပြုစု တော်မူခဲ့သည်။[၂]

၆း ၃း ၁၃ း ၇ ။သတ္တမအကြိမ်မြောက် သာသနာရောက်ခြင်း

သက္ကရာဇ် ၉၄၃ ခုနှစ်တွင် ဟံသာဝတီဆင်ဖြူရှင်မင်းတရားကြီး သည် သားတော်နော်ရထာမင်းစောကို ၅၇ ခရိုင်သော တိုင်းစိတ် ဇနပုဒ် ဖြင့် သမုက်အပ်သော ဇင်းမယ်ပြည်ကြီးကို ပေးတော်မူသည်။ သေည်လုံ၊ သံလဲ၊ ဘယား၊ ဒေဗညား မှူးကြီးမတ်ရာ အလုံးအရင်းနှင့်တကွ ဘုရင်ခံ မင်းပြု၏။ ဆရာတော် အရှင်သဒ္ဓမ္မစက္ကသာမိလည်း သာသနာပြုလိုက် နေရ၏။ မင်္ဂလဒီပနီစသော ကျမ်းများကို ပြုစုစီရင်၍ သင်ကြားပို့ချဆုံးမ ဩဝါဒပေးလျက် သာသနာတော်ကို သုတ်သင်ပြုစုလေသည်။[၃]

---

၁။ မွှသကြီး (မဟာ)၊ သာသနာလင်္ကာရ စာတမ်း၊ နှာ၊ ၇၆။
၂။ ၎င်းစာ။
၃။ ၎င်းစာ။

၆ း ၃ း ၁၃ း ၈ ။ ယောနကတိုင်း ကျမ်းပြုဆရာတော်များ[၁]

(၁) ဇင်းမယ်ရှင်ဉာဏဝိလာသ (သင်္ချာပကာသကစာကိုယ်)

(၂) သီဟိုဠ်ရောက် သီရိမင်္ဂလဆရာတော် (သင်္ချာပကာသကဋီကာ)

(၃) ဇင်မယ်သံသွတ်တောကျောင်းနေ ရှင်ဥတ္တမရာမ(ဝိသုဒ္ဓိမဂ္ဂဒီပနီ)

(၄) သီရိမင်္ဂလာဆတော် (မင်္ဂလာဒီပနီ)

(၅) ဇင်းမယ်ဆရာ (ဥပ္ပါတသန္တိ)

၆ း ၄ ။ ရှမ်းလူမျိုးများ ထေရဝါဒစတင်ကိုးကွယ်လာခြင်း

ရှမ်းလူမျိုးနွယ်တို့တွင် ထေရဝါဒကို ဦးစွာတွေ့ရှိလက်ခံသော အုပ်စုသည် ထိုင်းလူမျိုးဖြစ်သည်။ ထိုင်းလူမျိုးများ ယခုလက်ရှိယိုးဒယား နိုင်ငံသို့ မရောက်လာမီ လွန်ခဲ့သော ရှေးနှစ်ပေါင်း ၃၀၀၀ ကျော်က တရုတ်ပြည်ယူနန်နယ်အတွင်း နေထိုင်စဉ်တွင် ၎င်းတို့သည် တော၊ တောင်၊သစ်ပင် ကိုးကွယ်မှု၊ မိဘဘိုးဘွားများကို ယုံကြည်ကိုးကွယ်လာခဲ့ ကြသည်။ အေဒီ ၈ ရာစုခန့်တွင် မဟာယာနဗုဒ္ဓဘာသာကို ယုံကြည် လက်ခံလာကြခြင်းဖြစ်သည်။ ထိုင်းလူမျိုးတို့သည် ကမ္ဘောဒီယားတို့ထံမှ ဟိန္ဒူဝါဒကိုးကွယ်မှု အမွေအနှစ်ကိုလည်း လက်ခံရရှိသည်။ ယနေ့ခေတ် တွင်ထိုင်းလူမျိုးတို့သည် ဗုဒ္ဓဘာသာဝင်များဖြစ်ကြသော်လည်း ဟိန္ဒူအယူ အဆနှင့် ရိုးရာကိုးကွယ်မှုများ လူထုအကြားတွင် ရှိနေသေးသည်ကိုတွေ့ ရသည်။[၂]

ဘီစီ ၃၂၉ ခုနှစ်တွင် အသောကမင်းကြီးစေလွှတ်သော ကိုးတိုင်း ကိုးဌာနသာသနာပြုဖြစ်သူ အရှင်သောဏမထေရ်နှင့် အရှင်ဥတ္တရ မထေရ်တို့က လာရောက်သာသနာပြုသဖြင့် ထေရဝါဒဗုဒ္ဓဘာသာသည်

၁။ ဓမ္မသကြီ (မဟာ)၊ သာသနာလင်္ကာရ စာတမ်း၊ နှာ၊ ၇၇-၇၈။

၂။ Luang Suriyabongs,M.D(Dr.) Buddhism in Thai Land.P.38.

နခွန်ပထုံ(နဂရပထမ-ပထမမြို့တော်)သို့ ပထမအကြိမ်ရောက်ရှိလာသည်။ အေဒီ ၇၀၀တွင် ပင်နီစွဲလား(စူမတြာကျွန်း)၊ သီရိဝိဇယဘုရင်ထံမှ မဟာယာနဗုဒ္ဓဘာသာသည် ယိုးဒယားနိုင်ငံသို့ ရောက်လာသဖြင့် ဒုတိယအကြိမ် ဗုဒ္ဓဘာသာရောက်ရှိခြင်းဖြစ်သည်။ တတိယအကြိမ်တွင် အေဒီ ၁၀၀၀ ၌ ပုဂံပြည်မှ ထေရဝါဒဗုဒ္ဓဘာသာ ယိုးဒယားနိုင်ငံမြောက်ပိုင်းသို့ ပြန့်ပွားစေခဲ့သည်။ အေဒီ ၁၂၅၃ ခုနှစ်၊ စတုတ္ထအကြိမ်တွင်းကား ယိုးဒယားသံဃာတော်များက သီဟိုဠ်နိုင်ငံသို့ ပညာသင်ကြွသွားပြီး သူတို့နှင့်အတူ ပိဋကတ်တော်များကို ယူဆောင်လာသည်။ သီဟိုဠ်သံဃာတော်များကိုလည်း သူတို့နှင့်အတူ နခွန်းသီရိမ္မရာဇ် Nakorn Sir dhammaraj သို့ ပင့်ဆောင်လာသည်။ ထိုင်းနိုင်ငံ တတိယမြောက်ဘုရင်ဖြစ်သူ ရာမဂါမဟီ King Ram Kamhaeng သည်လည်းသူ၏ မြို့တော်တွင် သီဟိုဠ်ရဟန်းတော်များကို ပင့်ဆောင်သီတင်းသုံးစေတော်မူခဲ့သည်။ ထိုအချိန်မှစ၍ ထိုင်းဘုရင် အဆက်ဆက်တို့သည် ထေရဝါဒဗုဒ္ဓဘာသာကို ကိုးကွယ်ယုံကြည်လာကြပြီး ထေရဝါဒဗုဒ္ဓဘာသာသည်လည်း နိုင်ငံတော်ဘာသာအဖြစ်သို့ ရောက်ရှိလာလေသည်။[၁]

၆ း ၅ ။ ရှမ်းလူမျိုးတို့တည်ထားသော ရွှေစာရံဘုရားသမိုင်း

သမိုင်းအဆိုအရ အနော်ရထာမင်းစောသည် တရုတ်ပြည်၌ ဘုရားသခင် စွယ်တော်ပင့်သွားရာ စွယ်တော်မရဘဲ သိကြားအပ်သော မြဆင်းတုကိုသာ ရခဲ့လေသည်။ တရုတ်ပြည်မှ အပြန် ရှမ်းပြည်သို့အရောက်တွင် မောကိုးပြည်ထောင်ကို အစိုးရသော စော်ဘွားက အလွန်အဆင်းလှသော သမီးတော်စောမွန်လှကို ဆက်လိုက်လေသည်။ မင်းကြီးလည်း စောမွန်လှအား အခြားကိုယ်လုပ်မောင်းမတို့ထက် သာလွန်၍

၁။ Luang Suriyabongs ,M.D(Dr.) Buddhism in Thai Land.P.38.

အရေးတယူမြတ်နိုးတော်မူသည်။ အခါတစ်ပါးစောမွန်လှ နား၌ ပန်ထားသော ပတ္တမြားနားတောင်းတွင် မွေတော်မြတ်ကိန်းဝပ်တော်မူ၍ အရောင်အဝါတောက်ထွန်းသည်ကို မိဖုရားမောင်းမတို့ မြင်လျှင် စောမွန်လှအပေါ်၌ မလိုစိတ်ရှိရင်းစွဲကြောင့် စောမွန်လှသည် ဇော်ဂနီစုန်းဖြစ်ကြောင်း လျှောက်လေသည်။ မင်းကြီးလည်း ပြောတိုင်းယုံကြည်တော်မူ၍ စောမွန်လှအား နေရင်းရှမ်းပြည်သို့ ပြန်စေရာ စောမွန်လှလည်း မင်းကြီးမှ စေ၍ပြည်စောင့်နက်၊ နန်းစောင့်နက်တို့အား ရှိခိုးကာ အခြွေအရံများနှင့်တကွ ပြန်လေသည်။ ညောင်ဦးရွာ၊ ညဥ့်ရွာ၊ ပလင်း၊ လက်ထုတ်၊ ကောင်းစည်ရွာ၊ တုရွှင်းတောင်၊ ဂဝံပတော့ မြို့သစ်စခန်းမ၊ ကျွန်ဘားရွာတို့ကို လွန်မြောက်၍ ယခု ရွှေစာရံဘုရားတည်ရာ အနီးရှိ နားတောင်းကျချောင်း နားသို့ရောက်သော် နားတောင်းကျွတ်လေသည်နှင့် ရေတွင်နားတောင်းအရောင် ထင်သောကြောင့် ငုပ်၍ ရှာဖွေသော်လည်း မတွေ့ဘဲ၊ ပြာငွိုဟာပြလျက်နေလေသည်။ ဤအခြင်းအရာကို မြင်သော် စောမွန်လှလည်း ရှိခိုးပူဇော်ကာ အဓိဋ္ဌာန်ပြုလိုက်မှ နားတောင်းမွေတော်မြတ် သက်လာ၍ စောမွန်လှ၏ လက်ဝဲနားဝယ် ဝတ်မြဲအတိုင်း တည်လေသည်။ ထိုမွေတော်ဓာတ်ကို ဌာပနာ၍ စေတီတည်လိုစိတ် ပေါ်လာသောအခါ သိကြားမင်း သာသနာငါးထောင်တိုင်အောင် လူအပေါင်းတို့ ကိုးကွယ်ရာဖြစ်မည်ကို မြင်သဖြင့် အုတ်စု အုတ်ပုံ ညွှန်ပြလေရာ ထိုနေရာ၌ မွေတော်မြတ် ဌာပနာ၍ အရှေ့ဘက်သို့ လိုက်ဝထားသော ဉာဏ်တော်ငါးတောင်ပမာဏရှိသော ဘုရားလိုဏ်ဂူတည်လေသည်။ ကောင်းကင်၌ မွေတော်ကို စာများရံလျက် တည်သည်ကိုစွဲ၍ ရွှေစာရံဘုရားတွင်သည် ဘုရားတည်ရာအရပ်၌ ဘုရားအလောင်းတော်ကို မြွေငန်းခုနစ်ကြိမ်ဖြစ်၍ နေခဲ့ဘူးကြောင်းဖြင့်လည်း ဆိုကြသည်။[၁]

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရွှေစာရံဘုရား နှာ၊ ၄၂၁။

စောမွန်လှသည် ထိုအရပ်တွင် ဘုရားတည်ကြောင်း အနော်ရထာမင်းစော ကြားသိတော်မူသောအခါ အရှေ့ဘက် မောရှမ်းတို့ရွာသို့ လိုက်ဝမျှော်နှာထားမူ စောမွန်လှကို သတ်ခဲ့ရန်၊ ပုဂံပြည်ဘက်သို့ လိုက်ဝရွှေ့ရွှေ့ရှိမူ ချမ်းသာစေရန် အမိန့်တော်နှင့် မင်းစေတမန်တို့ကို လွှတ်လိုက်၏။ မင်းစေတမန်တို့ ညရိုတရောဲ ရောက်သောအခါ အမှာတော်ရှိသည့်အတိုင်း မင်းသမီးအား လျှောက်ထားလေသည်။ မင်းသမီးလည်း မင်းစေတို့အား ဆုလာဘ်တံစိုးပဏ္ဏာပေး၍ နံနက်မိုးသောက်မှ ထပ်မံကြည့်ပါရန် ပြောကြားလေသည်။ စောမွန်လှသည် တစ်ညဥ့်လုံးလုံး အိကြား၊ စတုလောကပါလ၊ သမ္မာဒေဝနတ်တို့အား ရှိခိုးမိဋ္ဌာန်ပြု၍ ဆင်မြန်းတော်မူသော ရွှေဖျင်မြစီတဘက်နှင့် ဘုရားကို ဆွဲငင်လှည့်လည်လျှင် အရှေ့သို့ မျှော်နှာမူ၍တည်သော ရွှေစာရံဘုရားသည် အနောက်သို့ လိုက်ဝလှည့်သွားလေသည်။ မိုးသောက်၍ မင်းစေတို့ ထိုအခြင်းအရာကို မြင်သောအခါ ပုဂံပြည့်ရှင်အား လျှောက်ထားရန် ချက်ချင်းပင် ပြန်ကြလေသည်။ ဘုရားသည် ပုဂံပြည်ဘက်သို့ လှည့်နေကြောင်း အနော်ရထာမင်းစော ကြားသိလျှင် အားရတော်မူသဖြင့် သက္ကရာဇ် ၄၁၆ (ခရစ်-၁၀၅၄) တန်ဆောင်မုန်းလဆန်း (၁၀) ရက်နေ့တွင် ရွှေစာရံဘုရား ဝန်းကျင်မြေတာ ၁၀၀၀ ကျော် လှူတော်မူသည်။[၁]

အထက်ပါ သမိုင်းကြောင်းအရ စောမွန်လှ၏ နားတောင်း၌ မွေတော်များ ဌာပနာထားကြောင်း ဆိုသဖြင့် စောမွန်လှတို့၏ မောရှမ်းလူမျိုးများသည် ထိုခေတ်တွင် ဗုဒ္ဓဘာသာများ ဖြစ်နေခဲ့ကြပြီ ဖြစ်ကြောင်း ထင်ရှားပေသည်။ အနော်ရထာမင်းလက်ထက်တွင် ပုဂံ၌ ထေရဝါဒ စတင် အုတ်မြစ်ချသော ကာလဖြစ်သည်။

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရွှေစာရံဘုရား နှာ၊ ၄၂၁။

## ၆ း ၆ ။ ရှမ်းမင်းအချင်းချင်း ဆက်ဆံရေး

ယခုယိုးဒယားဒေသသို့ ရှမ်းများ ရောက်မလာမီ အေဒီ ၇ ရာစုနှစ် ပထမပိုင်းတွင် ဒွါရဝတီမွန်နိုင်ငံဖြစ်သည်။ အချက်အချာဒေသ တို့မှာ နခုန်ပထောမ်နှင့် လော့ပူရီမြို့များဖြစ်သည်။ လော့ပူရီမှ စာမဒေဝီမည်သော ဘုရင်မသည် ယိုးဒယားနိုင်ငံ မြောက်ပိုင်း (ယခု လမ်းဖုန်းဒေသ)တွင် ဟရိဘုဥ္စတိုင်းကို တည်ထောင်ခဲ့သည်။ တောင်ဘက် နခွန်းစိထမရတ် (နဂရသီရိဓမ္မရာဇာ) မြို့ကို ဗဟိုပြု၍ ဗုဒ္ဓဝါဒီနိုင်ငံတစ်ခုလည်း ပေါ်ပေါက်ခဲ့သည်။ အရှေ့ဘက်တွင်ကား အင်းကော ဝတ်ကို ဗဟိုပြု၍ သိဝနတ်ကို ကိုးကွယ်သော ခမာနိုင်ငံသည် တန်ခိုးကြီးလျက်ရှိခဲ့၏။တစ်ဆယ့်တစ်ရာစုနှစ်များ အစပိုင်းတွင် အဆိုပါ ဗုဒ္ဓဝါဒီ မွန်နိုင်ငံတို့သည် အချင်းချင်း စစ်မက်ဖြစ်ပွား၍ တိုက်ခိုက်ကြသည်။ အရှေ့ဘက်ရှိ ခမာတို့နှင့်လည်း စစ်ဆင်နွှဲခဲ့ကြသည်။ ၁၃ ရာစုနှစ် နောက်ပိုင်းတွင် ရှမ်း(တိုင်း)တို့ အလုံးအရင်းနှင့် ဝင်ရောက်လာသောအခါ ယင်းတို့ကို ဟရိဘုဥ္စမွန်ပြည်က ဟန့်တားခုခံတိုက်ခိုက်ခဲ့သည်။ ရှမ်းလူမျိုးများ ဤဒေသသို့ မရောက်လာမီ ဤဒေသသည် ဗုဒ္ဓဘာသာ (ထေရဝါဒဗုဒ္ဓဘာသာ) ထွန်းကားနေလေပြီ။

အေဒီ ၇-၈ ရာစုကပင် ရှမ်းလူမျိုးများသည် ဤဒေသသို့ စတင်ရောက်ရှိလာခဲ့ကြပြီး မွန်လူမျိုး တို့နှင့်အတူတကွ အခြေချနေထိုင်ခဲ့ကြသည်။ နောက်နှစ်ပေါင်း ၅၀၀ ကျော်ကြာသောအခါ ထိုင်းနိုင်ငံ အလယ်ပိုင်း လွင်ပြင်ဒေသသို့ ပျံ့နှံ့ရောက်ရှိသွားခဲ့ပြီး ၁၂၃၅ ခု နန်ချောင်နိုင်ငံတော် ပျက်စီးသွားသောအခါ ရှမ်းလူမျိုးများသည် အစုအရုံးအလိုက် စနစ်တကျ ရွှေ့ပြောင်းနေထိုင်လာကြသည်။ ဤဒေသသို့ ရောက်လာ

---

၁။ မြန်မာ့စွယ်စုံကျမ်း အတွဲ ၁၁ ရှမ်းလူမျိုး နှာ [illegible]
၂။ Hsen (Khun). The Oregin of Tais and A Short History of Shan.P.87

သော ရှမ်းတို့သည် မွန်လူမျိုးတို့ထံမှ ထေရဝါဒဗုဒ္ဓဘာသာကို တဖြည်းဖြည်း လက်ခံယုံကြည်သည်ဟု ဆိုရပေမည်။

အေဒီ ၁၂၆၂ ခုနှစ်တွင် ဗုဒ္ဓဝါဒီတစ်ဦးဖြစ်သော ရှမ်းအကြီးအကဲ မန်းရိုင်း(မင်းရဲ)သည် ယိုးဒယားနိုင်ငံ မြောက်ဘက်အစွန်းတွင်ရှိသော ကျိုန်းရိုင်း (ကျိုင်းရဲ) မြို့ကို တည်ထောင်ခဲ့သည်။ ၁၂၈၇ ခုနှစ်တွင် မင်းရိုင်း(မင်းရဲ)၊ ဖယောင်းဘုရင် ပုရဆာဒနှင့် သောက္ကတဲဘုရင် ရမ်ခါမိန် တို့သည် မွန်ဂိုတို့၏ ရန်ကို ကာကွယ်ရန်အတွက် မဟာမိတ်ပြုလုပ်ခဲ့သည်။ ၁၂၉၀-၉၂ တွင် မင်းရဲသည် ခုခံတိုက်ခိုက်နေသော ဟာရိပုဥ္စပြည်ကို ရှေးဦးစွာဖယ်ရှားခဲ့ပြီးနောက် မွန်ဂိုတို့ သိမ်းပိုက်ထားသော ချေလီကို ၁၂၉၇ ခုနှစ်တွင် တွန်းလှန်နိုင်ခဲ့သည်။ ကျိုင်းရဲမှ ပြောင်းရွှေ့နေထိုင်လာသော ရှမ်းတို့သည် သောက္ကတဲကို အောင်နိုင်ပြီး ၁၃၅၁ ခုနှစ်တွင် အယုဒ္ဓယမြို့ကို တည်ထောင်ခဲ့သည်။ နောက်နှစ်ပေါင်း ၁၀၀ အတွင်း ရှမ်း(တိုင်း)တို့သည် အင်းကောမြို့ အပါအဝင် ကမ္ဘောဒီးယားတစ်ပြည်လုံးကို အောင်နိုင်ခဲ့သဖြင့် ခမာတို့၏ ယဉ်ကျေးမှု၊ အုပ်ချုပ်ရေး၊ ဓလေ့ထုံးစံတို့ကိုလည်း ရရှိခဲ့ကြသည်။ ထိုအချိန်၌ မြန်မာနိုင်ငံအလယ်ပိုင်းတွင်လည်း အသ်ယာ၊ ရာဇသင်္ကြန်နှင့် သီဟသူ ရှမ်းညီနောင် သုံးဦးတို့သည် ၁၂၉၈ ခုတွင် ပုဂံကျော်စွာမင်းကို နန်းချ၍ ပုဂံထီးနန်းကို ဆက်ခံလေသည်။ ဤအတွင်း ကျောက်ဆည်ခရိုင်၏ အနောက်ဘက်ပိုင်းတွင် သီရိရာဇာအမည်ဖြင့် မြန်မာဘုရင်တစ်ပါးပေါ်ပေါက်၍ ရှမ်းတို့ကိုတိုက်ခိုက်သည်။ ရှမ်းတို့သည် ပပိုင်ဆီဖူ (ဇင်းမယ်) မှ စစ်ကူတောင်းကာ မြစ်သာတစ်ဆယ့်တစ်ခရိုင်လုံးကို သိမ်းပိုက်ကြသည်။[၁]

အေဒီ ၁၂၈၉ ခုနှစ်တွင် မင်းရဲသည် ပုဂံရှိရှမ်းညီနောင်သုံးပါး

---

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၁၊ ရှမ်းလူမျိုး၊ နှာ၊ ၄၀၅-၄၀၆။

ကို စတင်ဆက်သွယ်ခဲ့ပြီး[၁] အေဒီ ၁၂၉၀ ခုနှစ်တွင် သူ၏စစ်သည်အင်အားနှင့်အတူ ပုဂံသို့ ခရီးထွက်လာလေသည်။[၂] နယ်ခြားအရောက်တွင် ရှမ်းညီနောင်တစ်ပါးက သွားရောက်တွေ့ဆုံ၍ အကျိုးအကြောင်းကို စုံစမ်းလေသည်။ မင်းရဲ၏ ရည်ရွယ်ချက်သည် နယ်မြေကို ကျူးကျော်တိုက်ခိုက်ရန်လည်းမဟုတ်၊ အာဏာကို လာရောက်သိမ်းသွင်းသည်လည်းမဟုတ်၊ ပြည်သူတို့၏ စည်းစိမ်ဥစ္စာကို လာရောက်တိုက်ခိုက်ယူခြင်းလည်းမဟုတ်။ ပုဂံထံမှ လက်မှုပညာများကိုသာ အလိုရှိကြောင်း သိရသောအခါ ရှမ်းညီနောင်တို့သည်လည်း ပန်းရန်သည်၊ ပန်းပုသည်၊ ပန်းထိမ်သည် စသည်တို့ကို ပေးအပ်လေသည်။ မင်းရဲသည် ထိုပညာသည်မိသားစုများကို မိမိ၏နိုင်ငံသို့ ဆောင်ယူပြီး နေထိုင်ရာနေရာများ ချပေးခဲ့လေသည်။ ထိုအထဲတွင် ကျိုင်းတုံလည်းပါဝင်သည်ဟု သိရသည်။ ထိုအချိန်တွင် သံဃာတော်တစ်စုသည် မင်းရဲအား ဓာတ်တော်မွေတော်များ လာရောက်ပေးသနားတော်မူခဲ့သည်ဟု ဆိုသည်။[၃]

ဇင်းမယ်၊ ကျိန်းဟဲ၊ မယ်ဟောင်ဆောင်ဒေသတွင် တွေ့ရသောကျောင်းကန်၊ စေတီပဟောင်းတို့သည် မင်းရဲဘုရင်က ပုဂံမှယူဆောင်လာသော လက်ယာများဖြစ်ကြောင်း သက်သေအဖြစ် တွေ့ရပေမည်။ ဇင်းမယ်ရှိ ခုနစ်ဆင့်ကျောင်းတော်သည် ပုဂံတွင်ရှိသော အာနန္ဒာစေတီတော်နှင့် လက်ရာများ ဆင်တူသည်။[၄]

မင်းရဲသည် ရှမ်းညီနောင်သုံးပါး အပါအဝင် ရှမ်းမင်းများကို စည်းရုံးညီညွတ်၍ ကျူးကျော်လာသူ မွန်ဂိုတပ်နှင့် တရုတ်တပ်များကိုလည်း

---

၁။ Wyatt. (David K). Thai Land, A Short History. P.47.

၂။ The Culture of South East Asia. PP.167-168.

၃။ Wyatt. (David K). Thai Land, A Short History. P.48-50.

၄။ The Culture of South East Asia. PP.167-168.

အောင်မြင်စွာ တွန်းလှန်တိုက်ခိုက်နိုင်ခဲ့သည်။[၁] မင်းရဲဘုရင်သည် တိုင်းပြည်ကို စွမ်းစွမ်းတမံ ဦးဆောင်နိုင်သည့် ဘုရင်ဖြစ်သည်သာမက ထေရဝါဒဗုဒ္ဓဘာသာကိုလည်း ကြည်ညိုလေးစားသော ဘုရင်တစ်ပါးဖြစ်သည်။ ဘိုးစဉ်ဘောင်ဆက် အမွေအနှစ်များကို မြတ်နိုးတတ်သည့်အပြင် လူမျိုးခြားတို့၏ ဘာသာကိုလည်း လေးစားသူဖြစ်သည်။ ဟရိဘုဉ္စကို အောင်နိုင်ပြီး နမ့်ပျဉ်းမြစ်အနီး "ကုန်းခမ်းမြို့" Kung Kam ကို တည်ထောင်ခဲ့ရာ ထိုနေရာတွင် စေတီ၊ ကျောင်းကန်တို့ကို များစွာတည်ထောင် လှူဒါန်းခဲ့လေသည်။ တချို့မှာ ဟရိဘုဉ္စလက်ရာဖြစ်ပြီး လေးထောင့်ကျောင်းတော်သည် ဝတ်ကူကုတ် Wat Ku Kut နှင့် တူသည်။[၂]

အေဒီ ၁၂၉၆ ခုနှစ် ဧပြီလ ၁၈ ရက်နေ့တွင် မင်းရဲဘုရင်က ဇင်းမယ်မြို့ကို တည်ထောင်တော်မူခဲ့လေသည်။[၃] ဇင်းမယ်မြို့သည် တောင်ပိုင်းဒေသနှင့် မြောက်ပိုင်းဒေတို့၏ အလယ်ဗဟိုတွင် တည်ရှိသဖြင့် စီးပွားရေး အချက်အချာကျသည့်အပြင် ဘာသာရေး၊ ယဉ်ကျေးမှုတို့၏ အဓိကကျသော မြို့လည်းဖြစ်လာခဲ့သည်။[၄] အေဒီ ၁၃၁၁ ခုနှစ်တွင် မင်းရဲဘုရင်သည် သားတော်ထွေးဖြစ်သူ "ခွန်ခေး" ကို မိုးနဲစော်ဘွားအဖြစ်၊ သားတော်အကြီးဖြစ်သူ "ခွန်ခမ်း"ကို ကျိန်းဟဲစော်ဘွားအဖြစ်စီမံအုပ်ချုပ်စေခဲ့သည်။[၅] ထိုမှတစ်ဆင့် ထေရဝါဒဗုဒ္ဓဘာသာသည် ရှမ်းပြည်တောင်ပိုင်းသို့ ရောက်ရှိလာသည်ဟု ဆိုရပေမည်။

မင်းရဲဘုရင်၏ အဆက်ကြောင့် ကျိုင်းတုံနယ်၊ မိုးနဲနယ်စသည်

---

၁။ Wyatt, (David K).ThaiLland, A Short History. P.48.

၂။ A Guide to Chiang Mai.

၃။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၄၊ ဇင်းမယ်၊ နှာ၊ ၃၅၁။ Wyatt, (David K).op.cit.,P.48

၄။ A Guide to Chiang Mai.

၅။ Wyatt, (David K).ThaiLland, A Short History. PP.49-50.

တို့သည် ယိုးဒယားနိုင်ငံမှ ထေရဝါဒဗုဒ္ဓဘာသာကို စောစွာရရှိခဲ့သော်လည်း မြောက်ပိုင်းဒေသရှိ ရှမ်းများထံသို့ ၁၅ ရာစု နောက်ပိုင်းမှ ရောက်လာသည်ဟု ဆိုရပေမည်။ ထေရဝါဒဗုဒ္ဓဘာသာသည် မြောက်ပိုင်းဒေသဖြစ်သော သိန္နီနယ်သို့ ရောက်လာပုံကို ခိုင်လုံသော သာဓကတစ်ခုအဖြစ် တင်ပြလိုပါသည်။

သိန္နီစော်ဘွား စောလုံခမ်းဟာစ်ဖ (အေဒီ-၁၄၆၀-၁၅၂၃) လက်ထက်တွင် ကျိန်းဟဲမင်း၊ ဇင်းမယ်မင်းနှင့် ကျိန်းဆဲည်မင်းတို့သည် အင်းဝဘုရင်ကို လာရောက်လည်ပတ်လိုသဖြင့် သိန္နီစော်ဘွားထံ အကူအညီတောင်းဆိုလာသည်။ သိန္နီစော်ဘွားက အစစအရာရာ ကူညီဆောင်ရွက်ပေးခဲ့သည်။ မင်းသုံးပါး ဇင်းမယ်သို့ အပြန်ခရီးတွင် သိန္နီစော်ဘွားကို ဖိတ်ခေါ်ခဲ့သဖြင့် ဇင်းမယ်မင်းက ကျေးဇူးဆပ်သည့် အနေဖြင့်လည်းကောင်း၊ မဟာမိတ်အဖြစ်ဖြင့်သော်လည်းကောင်း ညီမတော်ဖြစ်သူ နန်းခမ်းမုံ့ကို သိန္နီစော်ဘွားနှင့် လက်ဆက်တော်မူသည်။ ဇင်းမယ်တွင်သုံးလနေထိုင်ပြီး ၁၄၇၁ ခုနှစ်တွင် သိန္နီစော်ဘွား စောလုံခမ်းဟာစ်ဖသည် သူ၏စစ်သူကြီးတစ်ဦးနှင့်အတူ ဇင်းမယ်မြို့တွင်းသို့ လည်ပတ်ကြည့်ရှုစဉ် စေတီတော်တစ်ဆူအတွင်းရှိ လွန်စွာသပ္ပါယ်သော ဘုရားရှင်၏ ကြေးရုပ်ပွားဆင်းထုတော် ငါးဆူအနက် တစ်ဆူကိုယူ၍ စစ်သူကြီးအားပေးလိုက်လေသည်။ ယူဆောင်စဉ်က ဘုရားဆင်းထုတော်ဖြစ်မှန်း မသိဘဲ နတ်ရုပ်တစ်ရုပ်ဖြစ်သည်ဟု ထင်မှတ်၍ ယူဆောင်လာခဲ့ခြင်းဖြစ်သည်။ ရည်ရွယ်ချက်မှာ သိန္နီရှိ ပြည်သူပြည်သားတို့အား သွားရောက်ပြသရန်အတွက်ဖြစ်သည်။[၁] ဤဘုရားဆင်းထုတော်ဖြစ်မှန်း မသိသည်ကို ထောက်ရှုခြင်းအားဖြင့် သိန္နီစော်ဘွားတို့သည် ထေရဝါဒဗုဒ္ဓဘာသာ မဟုတ်သေး

---

၁။ စောယန်ဖ(သိန္နီ)၊ ရှမ်းသမိုင်း (ရှမ်းဘာသာ)။
စိုင်းသီဟ(မိုင်းနောင်)၊ အလယ်ခေတ်ရှမ်းသမိုင်း၊ နှာ၊ ၄၉-၅၀။

ကြောင်း ထင်ရှားပေသည်။ မဟာယာနဗုဒ္ဓဆင်းတုနှင့် ထေရဝါဒဆင်းတုများ ထိုခေတ်က အသွင်သဏ္ဌာန် လွန်စွာကွာခြားနေမည်လည်း ဖြစ်နိုင်ပေမည်။

စောလုံခမ်းဟာစ်ဖ၏ သားတော်ဖြစ်သူ စောလုံခမ်းဆိုင်ဖ (အေဒီ ၁၅၂၃-၁၅၄၂ ) လက်ထက်တွင် ယွန်းတိုင်းပြည်မှ ဆရာတော်ကြီး ဉာဏဂမ္ဘီရသည် တပည့်ရဟန်းသံဃာများနှင့်အတူ သိန္နီသို့ သာသနာပြုကြွတော်မူလာသည်။ သိန္နီသို့ပါလာသော ဆင်းထုတော်ကို လာရောက်ရှာဖွေသည်ဟုလည်းဆိုသည်။ အေဒီ ၁၅၄၀ ခုနှစ်တွင် ရောက်ရှိလာသည်။ ဆရာတော်ကြီးသည် တိုင်းသူပြည်သားများကို ဗုဒ္ဓဘာသာအဖြစ် ရောက်အောင် ချီးမြှင့်ပေးသည့်အပြင် ဗြဟ္မီနှင့် ပလ္လဝအက္ခရာမှ ဆင်းသက်လာသော ယွန်းရှမ်းစာကို အခြေခံ၍ ဗျည်း ၃၃ လုံးပါသည့် ရှမ်းအက္ခရာကိုလည်း တီထွင်ပေးတော်မူခဲ့သည်။ ထေရဝါဒဗုဒ္ဓသာသနာတော်သည်လည်း ထိုအချိန်မှစ၍ သိန္နီတလွှားတွင် ထွန်းကားလာခဲ့ရလေတော့သည်။[၁] သိန္နီစော်ဘွား စောလုံခမ်းဆိုင်ဖသည် စယ်ကျူကျောင်းတော်ကို ဆရာတော်ဉာဏဂမ္ဘီရအား ဆောက်လုပ်လှူဒါန်းပြီး ဆရာတော်သည် ယိုးဒယားသို့ မပြန်တော့ဘဲ ပျံလွန်တော်မူသည်အထိ ထိုဒေသတွင် ဆက်လက်၍ သာသနာတော်ပြုစုတော်မူခဲ့သည်။[၂]

## ၆ း ၇ ။ ရှမ်းပြည် သာသနာပြု ဆရာတော် ဉာဏဂမ္ဘီရ

ဆရာတော်လောင်းလျာသည် သက္ကရာဇ် ၇၅၆ ခုနှစ်တွင် ဇင်းမယ်၊ တာဆိုင်ရွာ၌ မွေးဖွားတော်မူခဲ့သည်။ သက်တော် ၁၃ နှစ်သို့ရောက်သောအခါ မဟာဗောဓိဓမ္မကိတ္တိမထေရ်၊ အထံတွင် တပည့်အဖြစ်ခံ့ယူပြီး သက္ကရာဇ် ၇၆၉ ခုတွင် သာမဏေဝတ်ခဲ့သည်။ ရှင်သာမဏေ၏ ဘွဲ့တော်

၁။ စိုင်းသိဟ(မိုင်းနောင်)၊ အလယ်ခေတ်ရှမ်းသမိုင်း၊ နှာ၊ ၅၀။
၂။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.172.

သည် ရှင်ဉာဏဂမ္ဘီရဖြစ်သည်။ သာမဏေ ၇ ဝါအရတွင် ပိဋကတ်သုံးပုံကို တတ်မြောက်တော်မူခဲ့သည်။ သက္ကရာဇ် ၇၇၆ ခုနှစ်တွင် ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့သည်။ ယွန်းတိုင်းပြည်သို့ သာသနာပြုကြွလာခဲ့သော မဟာသုမနထေရ်လက်ထက်ရှိ ဉာတ္တိကမ္မဝါစာများ၊ အခြားသော စာပေများ ပုဒ်၊ ပါဠိ၊ အက္ခရာမှားနေပုံကို သိမြင်၍ ဥပဇ္ဈာယ်ဆရာဖြစ်သူ မဟာဗောဓိဓမ္မကိတ္တိမထေရ်ကို မေးမြန်းသော်လည်း မထေရ်မြတ်က မဖြေဆိုနိုင်သဖြင့် အယုဒ္ဓယရှိ သံဃာ့ရာဇာကို မေးမြန်းစေခဲ့သည်။ အယုဒ္ဓယသံဃာ့ရာဇာလည်း မဖြေဆိုနိုင်သဖြင့် သီဟိုဠ်နိုင်ငံသို့ ကြွစေခဲ့သည်။ သက္ကရာဇ် ၇၈၁ ခုတွင် အယုဒ္ဓယမင်း၏ အကူအညီကိုရယူ၍ အရှင်ဉာဏဂမ္ဘီရသည် နောက်လိုက် တပည့် ၁၀ ပါးနှင့်အတူ ရေကြောင်းဖြင့် သီဟိုဠ်နိုင်ငံသို့ခရီး ထွက်လာခဲ့သည်။ ရေလမ်းခရီး လေးလကြာသည် ဟုဆိုသည်။[၁]

သီဟိုဠ်သို့ရောက်သောအခါ သုရိန္ဒထေရနှင့် တွေ့ဆုံမေးမြန်းခဲ့ရာ ထိုမထေရ်က ရောဟနဇနပဒရှိ မဟာရဋ္ဌထံသို့ စေလွှတ်လေသည်။ ထိုမှတစ်ဆင့် သံဃနာယကဖြစ်တော်မူသော ရဟန်း(၁၀၀၀) တို့၏ ဆရာဖြစ်တော်မူသော၊ ပိဋကတ်ကျွမ်းကျင်သော မဟာသုဒဿန အဂ္ဂရာဇဂုရုအထံသို့ ရောက်သွားလေသည်။ မိမိသိလိုသော အကြောင်းအရာများကို ထိုမထေရ်ထံမှ သိရှိရသဖြင့် အရှင်ဉာဏဂမ္ဘီရတို့သည် ထိုမထေရ်အထံတွင် ရဟန်းအသစ်ပြန်ခံခဲ့လေသည်။ ထိုမထေရ်ထံသို့ ငါးဝါတိုင်တိုင် ပိဋကတ်များကို ဆည်းပူးလေ့လာခဲ့ပြီး အပြန်တွင် သီဟိုဠ်မှ မဟာဗောဓိပင်၊ ဘုရားဆင်းတုတော်နှင့် ပိဋကတ်တော်တို့ကို အယုဒ္ဓယသို့ ပင့်ဆောင်ခဲ့သည်။[၂]

---

၁။ Saimong Mangrai (Sao). The Padeng Chronicle and the Jengtung State Chronicle Translated. PP.106-108.

၂။ Ibit. PP.108-111.

အယုဒ္ဓယသို့ရောက်သောအခါ အယုဒ္ဓယမင်း (ဘရယ) ကိုယ်တိုင် ကြိုဆိုခဲ့ပြီး အယုဒ္ဓယ၏ သံဃာ့ဥသျှောင်ဖြစ်သူ မဟာဓမ္မသာရနှင့် တွေ့ဆုံစေကာ ပုစ္ဆာများကို မေးမြန်းစေတော်မူသည်။ အရှင်ဉာဏဂမ္ဘီရ၏ ဖြေဆိုချက်ကို လွန်စွာသဘောကျလှသဖြင့် မထေရ်ကြီးအပါအဝင် အယုဒ္ဓယသံဃာတော်များအားလုံး အရှင်ဉာဏဂမ္ဘီရအထံတွင် ရဟန်းအသစ်တစ်ဖန် ခံတော်မူခဲ့သည်။ အရှင်ဉာဏဂမ္ဘီရကိုလည်း သံဃာ့ခေါင်းဆောင်အဖြစ် တင်မြှောက်ကြလေသည်။ သက္ကရာဇ် ၇၈၆ တွင် အရှင်ဉာဏဂမ္ဘီရ၏ ကျောင်းတိုက်ခွဲပေါင်းသည် တစ်ရာကျော်ရှိသည်ဟုဆိုသည်။[၁]

ထို့နောက် အရှင်ဉာဏဂမ္ဘီရသည် နတ်ဘူးရီး(ခေါ်)ဇင်းမယ်သို့ သာသနာပြု ကြွတော်မူခဲ့သည်။ ဥပဇ္ဈာယ်ဆရာဖြစ်သူ မဟာဗောဓိဓမ္မကိတ္တိအထံသို့လည်း ကြွရောက်တော်မူခဲ့ပြီး မိမိ၏ ဆရာအား အစစအရာရာရှင်းလင်းပြသခဲ့ရာ ဆရာသမားက သာဓုခေါ် ဆိုတော်မူခဲ့သည်။ ဇင်းမယ်သံဃာအားလုံးကို စုရုံးစေပြီး အရှင်ဉာဏဂမ္ဘီရအထံတွင် ရဟန်းအသစ် ထပ်မံခံတော်မူသည်။ သက္ကရာဇ် ၇၉၈ ခုနှစ်တွင် ကျိုင်းသေဉ်မင်းတို့ လာရောက်ပင့်ဆောင်သဖြင့် ထိုဒေသသို့ သာသနာပြုကြွတော်မူခဲ့သည်။[၂]

သက္ကရာဇ် ၈၀၃ ခုနှစ်တွင် အရှင်ဉာဏဂမ္ဘီရသည် ခေမာရဋ္ဌ (ခေါ်) ကျိုင်းတုံသို့ တပည့်ငါးပါးစေလွှတ်၍ သာသနာပြုကြွစေခဲ့သည်။ ခေမာရဋ္ဌတွင် ကျရောက်နေသော ကပ်ဆိုများကို ရတနသုတ်စသော ပရိတ်အရံအတားများ ရွတ်ဖတ်၍ ဖယ်ရှားတော်မူခဲ့သည် ဟုဆိုသည်။ သာသနာပြု တပည့်ငါးပါးနှင့် ခေမာရဋ္ဌ ဘရယသီရိသုဓမ္မ စူဠာမဏိ

၁။ Saimong Mangrai (Sao). The Padeng Chronicle and the Jengtung State Chronicle Translated. PP.111.

၂။ Ibit.

စာမျက်နှာ ၃၃၅ - ၃၄၂ မတွေ့ပါ



မဟာရာဇာတို့၏ ပင့်ဖိတ်ချက်အရ သက္ကရာဇ် ၈၀၄ ခုနှစ်တွင် အရှင်ဉာဏဂမ္ဘီရကိုယ်တိုင် ကျိုင်းတုံသို့သာသနာပြု ကြွတော်မူသည်။ ကျိုင်းတုံနယ် မိုင်းဖုန်းဒေသသို့ သာသနာပြုဆရာတော် ဉာဏဂမ္ဘီရခြေချသည်နှင့် တစ်ပြိုင်နက် ငလျင်ကြီးစွာလှုပ်သည်ဟု ဆိုသည်။ မင်းနှင့်ပြည်သူတို့က ဆရာတော်အား မိုင်းဖုန်းအနီးတွင် ယာယီကျောင်းတော်အဖြစ် မဟာဗြဟ္မ (ဝတ်မဟာဖရုမ်း)ကျောင်းတော်ကို ဆောက်လုပ်လှူဒါန်းခဲ့သည်။[၁]

ကျိုင်းတုံသည်လည်း ထေရဝါဒသာသနာတော် လွန်စွာထွန်းကား လာခဲ့လေသည်။ မင်းနှင့်ပြည်သူတို့က ဉာဏဂမ္ဘီရမထေရ်ကို လွန်စွာကြည်ညိုကြသဖြင့် ကျောင်းကန်ဇရပ်များ၊ ပိဋကတ်တိုက်တော်များ၊ လယ်ယာမြေနှင့် ကျွန်များကိုလည်း လှူဒါန်းခဲ့လေသည်။ တောင်ပေါ်တွင်နေထိုင်သော သူများသည် ဆရာတော်အထံ ပါဠိ ပိဋကတ်တော်များကို လာရောက်သင်ယူကြပြီး မိမိတို့၏ ဒေသအသီးသီးသို့ သာသနာပြန်လည်ပြုကြသည်။ သက္ကရာဇ် ၈၁၁ ခုနှစ်တွင် ဘရယသီရသုဓမ္မ စူဠာမဏိ မဟာရာဇာသည် အရှင်ဉာဏဂမ္ဘီရအား "မဟာဉာဏဂမ္ဘီရ ဆွမ်တိတ်[♣] အဂ္ဂ ရာဇဂုရုဝရမောရိ" ဘွဲ့တံဆိပ်တော်ကို ချီးမြှင့်တော်မူခဲ့သည်။ မဟာဉာဏဂမ္ဘီရမထေရသည် ကျိုင်းတုံ၌ အနှစ်သုံးဆယ် နေထိုင်တော်မူခဲ့သည်။ ဆရာတော်၏ သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့ကြောင့် ဆစ်ဆောင်ပန်းနားဒေသရှိ လူးရှမ်း၊ မိန်းလျှမ်း အပါအဝင် မိုင်းခါ၊ မိုင်းဘန်၊ မိုင်းပေါ်၊ မိုင်းမျန်း၊ မိန်းတိန်နှင့် ကီမဒေသသို့ သာသနာရောင်ဝါ ထွန်းလင်းစေခဲ့သည်။[၂]

မဟာဉာဏဂမ္ဘီရမထေရ်သည် ကျိုင်းတုံတွင် အနှစ်သုံးဆယ် သာ

---

၁။ Saimong Mangrai (Sao).op.cit.P.113.

♣။ သောမတေဇ

၂။ Saimong Mangrai (Sao).op.cit.P.113.

ဤကျွန်းကြီးပြိုပျက်၍ ရေပြင်အတိပင်ဖြစ်သော်လည်း မိုးကောင်း၊ ဗန်းမော် ညီတော်နောင်တော်တို့နှင့် သစ္စာဖေါက်လွဲ ရန်ပွဲမပြုတော့ပါ။ အခွန်အတုတ်များကိုလည်း အကျွန်ုပ်နှင့်တကွ သားစဉ်မြေးဆက်ပါ ခံယူစားသုံးမပြုတော့ပါ" ဟု သစ္စာဓိဋ္ဌာန်ပြုခဲ့လေသည်။ ထိုအခါမှစ၍ မိုးမိတ်စော်ဘွား အဆက်ဆက်တို့သည် ရွှေကူနယ်အတွင်းသို့ အကြောင်းကိစ္စနှင့် သွားလာဝင်ထွက်ခဲ့ပါလျှင် မြေကိုမနင်းမိစေရန် ဆင်၊ မြင်းကိုစီး၍သော်လည်းကောင်း၊ ဝေါယာဉ်ကိုစီး၍သော်လည်းကောင်း သွားလာရသည်။ အယုတ်ဆုံးအားဖြင့် ရေကိုပင် ရွှေကူနယ်မှလုပ်သော အိုးဖြင့်မသောက်မသုံးဆောင်ကြဟုဆိုသည်။ မိုးမိတ်စော်ဘွား စဝ်ခွန်အောင်သည် သက္ကရာဇ် ၉၈၄ ခု၊ ကဆုန်လဆန်း (၁၅) ရက်နေ့တွင် မြေးတော်စဝ်အောင်ခမ်းကို သာသနာဘောင်သို့ သွတ်သွင်း၍ သာသနာ့ ဒါယကာဘွဲ့ကို ခံယူတော်မူခဲ့သည်။[၁]

မိုးမိတ်စော်ဘွား အဆက်ဆက်တို့သည် ဗုဒ္ဓဘာသာများ ဖြစ်ကြသဖြင့် ဘာသာရေး၊ သာသနာရေးကို အားပေးချီးမြှောက်တော်မူခဲ့ကြသည်။ လေးသိန်းသခင် သို့ဝယ်ဘွား (အေဒီ ၁၆၂၈-၁၆၄၁) သည် သက္ကရာဇ် ၁၀၀၀ ပြည့်နှစ်၊ တန်ခူးလဆန်း ၆ ရက်နေ့တွင် ပိဋကတ်ကျမ်းစာနှင့် ရုပ်တုတော်ဆူရေငါးထောင်၊ ကျောင်းသုံးဆောင်နှင့် မြို့တွင်းမြို့ပြင်၊ ကျေးရွာခရိုင်တို့၌ သီတင်းသုံးတော်မူသော သံဃာတော်တို့အားပရိက္ခရာ၊ ဖျင်၊ ပုဆိုးစသော လှူဖွယ်ဝတ္ထုတို့ကို လှူဒါန်းတော်မူသည်။ တန်ခူးလပြည့်နေ့တွင် ပဥ္စင်းတစ်ဆယ်၊ သားတော်ခွန်ရွှက်ခမ်းနှင့်တကွ သာမဏေ ၁၅ ပါးကို သာသနာ့ဘောင်အတွင်းသို့ သွတ်သွင်းချီးမြှင့်၍ သာသနာ့ဒါယကာခံယူတော်မူသည်။ ၎င်းသက္ကရာဇ် ကဆုန်လဆန်း (၁၅)ရက်နေ့တွင် မင်းညီမင်းသား၊ မှူးတော်မတ်တော်၊ မောင်းမမိဿံ

---

၁။ ခေမိန္ဒ(ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၁၄၉-၁၅၀။

ခြွေရံသင်းပင်းတို့အား အထိုက်အလျောက် ချီးမြှောက် ပေးကမ်းစွန့်ကြ၍ မြို့ကိုလည်း အမတ်တို့အား လွှဲအပ်ပြီးလျှင် ကူတော်သစ်ဘုရားရှေ့တော်တွင် ဥပုသ်အိမ်၌ သူငယ်တော်နှစ်ယောက်နှင့် ဆယ်လပတ်လုံး ဥပုသ်သီတင်း ကျင့်သုံးတော်မူသည်။ သက္ကရာဇ် ၁၀၀၂ တပေါင်းလဆန်း (၅) ရက်နေ့တွင် ဆုတောင်းပြည့်ဘုရားရှေ့တော် ဥပုသ်အိမ်၌ သူငယ်တော်တစ်ယောက်နှင့် ဥပုသ်သီတင်းသုံးတော်မူပြန်သည်။ လေးသိန်းသခင် သို၀ယ်ဘွားသည် သက္ကရာဇ် ၁၀၀၃ ခု၊ သီတင်းကျွတ်လဆန်း (၁) ရက်နေ့တွင် နတ်ရွာစံလွန်တော်မူသည်။ နတ်ရွာစံလွန်လိုသော် "ညဉ့်အခါ တစ်မြို့လုံး အရောင်အဝါ ထွန်းလင်းသည်၊ ဆုတောင်းပြည့်ဘုရားလည်း လေးမျက်နှာ အရောင်တော်ထွက်သည်။ နံ့သာအခိုးအထုံတို့လည်း တစ်မြို့လုံးမွှေးကြိုင်သည်။ ကောင်းကင်၌လည်း သီချင်းသံ၊ စောင်းသံတို့ကို ကြားရသည်" ဟု ဆိုသည်။ ထိုခေတ်သည် သာလွန်မင်းတရားကြီးခေတ်ဖြစ်၍ မိုးမိတ်စော်ဘွား၏သားတော် ခွန်ခမ်းရွက်သည် သာလွန်မင်းတရားထံတွင် အမှုထမ်းနေကြသဖြင့် ရှင်သာမဏေဝတ်လျက် ရှိနေသောကြောင့် အမတ်ကြီးများ သဘောတူညီချက်အရ လူဝတ်လဲစေပြီးလျှင် ၎င်းသက္ကရာဇ် သီတင်းကျွတ်လပြည့်ကျော် (၁၀) ရက်နေ့တွင် "ဆေဟုံဖ" ဟူသောဘွဲ့ကို ဆက်ကပ်၍စော်ဘွားအရာတင်မြှောက်ခဲ့သည်။[၁]

## ၆ း ၁၂ ။ ကုန်းဘောင်ခေတ် ဘိုးတော်မင်းတရားကြီး သာသနာ ပြုစေလွှတ်ခြင်း[၂]

သက္ကရာဇ် ၁၁၄၇ (အေဒီ ၁၇၈၅) ခုနှစ်တွင် အမရပူရ ပထမမြို့တည်နန်းတည် ဘိုးတော်ဘုရားသည် ရခိုင်မှ မဟာမြတ်မုနိဘုရားကြီး

၁။ ခေမိန္ဒ(ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၁၆၁-၁၆၂။

၂။ မောင်မောင်တင်(ဦး)၊ ကုန်းဘောင်ခေတ် မဟာရာဇဝင်တော်ကြီး၊ နှာ၊ ၁၈-၂၁။

ကိုမန္တလေးသို့ ပင့်ဆောင်လာခဲ့သည်။ ဘိုးတော်ဘုရားသည် သီရိဓမ္မာသောကမင်းကြီးနှင့် ဘုရင့်နောင်မင်းကြီးကဲ့သို့ သာသနာမပွင့်မလင်းသည့် တိုင်းကြီးပြည်ကြီး မြို့ကြီးပြကြီးသို့ သာသနာပြုစေလွှတ်ခဲ့သည်။ သာသနာပြုစေလွှတ်ခဲ့သော ဒေသတို့မှာ-

(၁) ဝိဒေဟတိုင်းဖြစ်သော ကိုင်းမားမြို့သို့ ဂုဏာဘိဝံသဓဇမဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂) ကျိုင်းရုံမြို့သို့ ပုညာဘိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃) မိုင်းလျန်းမြို့သို့ သီရိသဒ္ဓမ္မဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၄) မိုင်းညောင်းမြို့သို့ သီရိပုည မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၅) ခေမာရဋ္ဌတိုင်းဖြစ်သော ကျိုင်းတုံမြို့သို့ သီရိသဒ္ဓမ္မဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၆) ဟရိဘုဥ္စတိုင်းဖြစ်သော ကျိုင်းသေဉ်မြို့သို့ အဂ္ဂပုညဓဇ မဟာရာဇာဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး ။

(၇) ကမ္ဗောဇတိုင်းဖြစ်သော ကျိုင်းတောင်းမြို့သို့ ဇိနောဘိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၈) သိန္နီမြို့သို့ ဇနိန္ဒာဘိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၉) လဲချားမြို့သို့ မေဓာဘိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၁၀) မိုင်းခေါင်မြို့သို့ ဉာဏာဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၁၁) တောင်ပိုင်မြို့သို့ သီရိမုနိန္ဒ မဟာရာဇဂုရု ဆရာတော်နှင့်သံဃာတော်ငါးပါး။

(၁၂) မိုင်းကိုင်မြို့သို့ ဒေဝိန္ဒာဘိဓဇ မဟာရာဇဂုရု ဆရာတော် နှင့် သံဃာတော်ငါးပါး။

(၁၃) နောင်မွန်မြို့သို့ ဂုဏာဝံသဓဇ မဟာရာဇဂုရု ဆရာတော် နှင့် သံဃာတော်ငါးပါး။

(၁၄) ညောင်ရွှေမြို့သို့ ဝီရိယာဘိဓဇ မဟာရာဇဂုရု ဆရာတော် နှင့် သံဃာတော်ငါးပါး။

(၁၅) ရပ်စောက်မြို့သို့ သာရကိတ္တိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၁၆) မိုင်းလုံမြို့သို့ ဥတ္တမာဘိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၁၇) သီပေါမြို့သို့ မုနိသာရဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၁၈) စကားမြို့သို့ ပုညဂမ္ဘီရဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၁၉) သီကျစ်မြို့သို့ အရိယဝံသဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂၀) တဘက်မြို့သို့ ဣန္ဒသာရဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂၁) ကျိုင်းခမ်းမြို့သို့ သီရိစန္ဒဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂၂) ဟဲလုံမြို့သို့ ကဝိဝီသဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂၃) မိုးနဲမြို့သို့ အဂ္ဂသီရိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂၄) မိုင်းပန်မြို့သို့ ဥတ္တမသီရိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂၅) ဇောတိနဂရတိုင်းဖြစ်သော မိုးကောင်းမြို့သို့ ဓမ္မသာမိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂၆) စိန့်တိုင်းဖြစ်သော မိုးမိတ်မြို့သို့ ကဝိန္ဒာဘိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂၇) ဗန်းမော်မြို့သို့ ဓမ္မနန္ဒဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂၈) ကောင်းတုံမြို့သို့ ဝိမလာဘိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၂၉) သုနာပရန္တတိုင်းဖြစ်သော သောင်သွပ်မြို့သို့ ဝရသဒ္ဓမ္မဓဇ ဝိမလာဘိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃၀) ခေါင်းတုံးမြို့သို့ မုနိန္ဒဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃၁) ယောနကတိုင်းဖြစ်သော ကလေးမြို့သို့ အဘသဓဇမဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃၂) ရာမညတိုင်းဖြစ်သော ပုသိမ်မြို့သို့ ကဝိန္ဒာဘိဓဇမဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃၃) မုတ္တမမြို့သို့ ကဝိသာရဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃၄) ထားဝယ်မြို့သို့ ပုညသာရဓဇ မဟာရာဇဂုရုဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃၅) မြိတ်မြို့သို့ ဂုဏသာရဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃၆) မဟာဝိဟိကတိုင်းဖြစ်သော ရခိုင်ဓညဝတီမြို့သို့ ဂုဏဓမ္မာဘိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃၇) ရခိုင်ရမ္မာဝတီမြို့သို့ စန္ဒမေဓာဘိဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃၈) ရခိုင်မေဃဝတီမြို့သို့ စန္ဒသာရဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

(၃၉) ရခိုင်ဒွါရဝတီမြို့သို့ ပုညဝံသဓဇ မဟာရာဇဂုရု ဆရာတော်နှင့် သံဃာတော်ငါးပါး။

ထိုမြို့ကြီး၊ ခရိုင်ကြီးများသို့ တစ်မြို့တစ်ခရိုင်လျှင် အဘိဓမ္မာ၊ သုတ်၊ ဝိနည်းပိဋကအစုံပေးတော်မူ၍ သံဃာတော် ၆ ပါးစီတို့က သာသနာပြုကြွတော်မူခဲ့သည်။

အေဒီ ၁၄ ရာစုမှစ၍ ရှမ်းလူမျိုးများသည် ထေရဝါဒဗုဒ္ဓဘာသာကို စတင်ကိုးကွယ်လာခဲ့ရာ မင်းနှင့်ပြည်သူတစ်ရပ်လုံးက ဗုဒ္ဓဘာသာဝင်များအဖြစ်သို့ ရောက်ရှိလာခဲ့ကြပြီး သာသနာတော်ကို လွန်စွာကြည်ညိုလေးစား မြတ်နိုးတွယ်တာလာခဲ့ကြသည်။ သဒ္ဓါတရားများသည်လည်း သူမတူအောင် ထူးကဲလွန်မြတ်သဖြင့် "တစ်မူးရှိလို့ တစ်ပဲလှူ ဒို့ရှမ်းတောင်သူ တူနိုင်ရိုးလား" ဟု ဆိုရိုးစကားပင် အထင်အရှား ရှိလာခဲ့သည်။ မြန်မာပြည်တန်ခိုးကြီးဘုရားဖြစ်သော မန္တလေးမဟာမြတ်မုနိဘုရားကြီး သမိုင်းတစ်စိတ်တစ်ဒေသကို ကြည့်ရှုခြင်းအားဖြင့် ရှမ်းစော်ဘွားများ၏ သဒ္ဓါတရားများကို မြင်တွေ့နိုင်ပေသည်။

သက္ကရာဇ် ၁၂၆၀ ပြည့်နှစ်တွင် မန္တလေး မဟာမြတ်မုနိဘုရားကြီး၏ ပြသာဒ်တော်ကြီးအထက်တွင် ထားရှိသော မူလထီးတော်ကြီး

သည် ၁၂၇၈ ခုနှစ်၌ လေခ၍ မြေသို့ကျရာ ရပ်စောက်စော်ဘွားကြီး♣ က အသစ်တစ်ဖန် ပြန်လည်လှူဒါန်းပြန်သည်။ ငှက်မြက်နားတော်နှင့် စိန်ဖူးတော်တို့ကိုကား ညောင်ရွှေစော်ဘွားကြီး♦က ၁၂၈၀ ပြည့်နှစ်တွင် တင်၍ လှူဒါန်းတော်မူသည်။[၁]

ရှမ်းလူမျိုးတို့သည် မင်းဖြစ်သူကို လွန်စွာရိုသေ ကိုင်းရှိုင်းတတ်သော လူမျိုးဖြစ်သည်နှင့်အညီ မင်းဖြစ်သူက ထေရဝါဒဗုဒ္ဓဘာသာကို ယုံကြည်ကိုးကွယ်သူဖြစ်သဖြင့် ပြည်သူပြည်သားများသည်လည်း မင်း၊ ရှင်ဘုရင်တို့နှင့်အတူ ထေရဝါဒဗုဒ္ဓဘာသာကို သက်ဝင်ယုံကြည်ကြသည်။ သီပေါမြို့၊ မိုးမိတ်မြို့၊ ညောင်ရွှေမြို့၊ ကျိုင်းတုံမြို့၊ မိုးနဲမြို့ စသည့် စော်ဘွာမြို့များတွင် ရှိသော စေတီပဟောင်းများ စေတီအိုများကို ကြည့်ရှုခြင်းအားဖြင့် သာသနာတော် ထွန်းကားခဲ့ခြင်း၏ ပုံရိပ်များ အဖြစ်ထင်ရှားသည်. ရှမ်းပြည်တောင်ပိုင်းရှိ မိုးနဲမြို့တွင် သမိုင်းဝင်ရှေးဟောင်း စေတီတော်များ၊ ရှေးဟောင်းကျောင်းတော်များ များစွာရှိသဖြင့် "ဒုတိယပုဂံ" ဟူ၍လည်းကောင်း "ရှမ်းပုဂံ"ဟူ၍လည်းကောင်း တင်းစားခေါ်ဝေါ် ကြလေသည်။

## ၆ း ၁၃ ။ မျက်မှောက်ခေတ် ရှမ်းပြည်သာသနာရေး

"တောင်ထိပ်ကြာပေါက်" ဆိုသော စကားအရ ယခုအခါ ရှမ်းပြည်တောင်ပေါ်တွင် သာသနာရောင်ဝါ ထွန်းကားနေသည့် အချိန်ဖြစ်သည်။ ပရိယတ္တိသာသနာတော်သည် တိုးတက်ထွန်းကားလျက်ရှိသည်။

---

♣။ ရပ်စောက်စော်ဘွားကြီး စဝ်ခွန်ဆာ။

♦။ ညောင်ရွှေစော်ဘွားကြီး ဆာစဝ်မောင်။

၁။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၈. မဟာမုနိဘုရား(မန္တလေး)၊ နှာ၊ ၄၅၈။

ရှမ်းပြည်တောင်ပိုင်း ညောင်ရွှေမြို့၌ နယုန်လတွင် နှစ်စဉ်ကျင်းပသော ဝိနယာဒိနုဂ္ဂဟ စာပြန်ပွဲတော်ကြီးသည် ရှမ်းပြည်နယ်တွင် အကြီးကျယ်ဆုံးဖြစ်သည်။ ၁၉၉၉ ခုနှစ်တွင် စာဖြေ စာထောက် စာမကြီးကြပ်ရေးသံဃာတော်ပေါင်း သုံးထောင်ခန့် လာရောက်ကြသည်ကို တွေ့ရသည်။ ထို့အပြင် အင်းလေးဒေသ စာပြန်ပွဲနှင့် အခြားသက်ဆိုင်ရာမြို့နယ်စာမေးပွဲများကိုလည်း ဆိုင်ရာမြို့နယ် အသီးသီးက ကျင်းပလျက်ရှိသည်။ နိုင်ငံတော်အစိုးရမှ ကြီးမှူးကျင်းပသော အစိုးရပထမပြန်စာမေးပွဲများ၊ အဘိဓမ္မာစာမေးပွဲများ စသည်တို့လည်း ရှမ်းပြည်သံဃာတော်များတစ်ခဲနက် နှစ်စဉ်ဝင်ရောက်ဖြေဆို တော်မူကြသည်။ ရှမ်းပြည်နယ်မှ သံဃာတော်များသည် ပြည်နယ်နှင့် တိုင်းအသီးသီးရှိ စာသင်တိုက်များသို့ ပရိယတ္တိစာပေများကို သွားရောက်သင်ယူကြသဖြင့် စာသင်တိုက်အတော်များများသည် ရှမ်းပြည်နယ်မှ စာသင်သားများ မရှိသည့်စာသင်တိုက်ကား အလွန်ရှားပါးသည်။

ပင်လုံစာချုပ်ရေးထိုးခဲ့သော ပင်လုံမြို့တွင်လည်း မြန်မာ သက္ကရာဇ် ၁၃၁၉ ခုနှစ်တွင် မိုင်းရှူးဆရာတော် ဘဒ္ဒန္တပညာဘောဂ (ဆဋ္ဌသံဂီတိ ဩဝါဒါစရိယ သံဃနာယက) ဦးဆောင်၍ ရှမ်းပိဋကတ်ဘာသာပြန်လုပ်ငန်းကို အောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက်ခဲ့သည်။ ရှမ်းပြည်နယ်လုံးဆိုင်ရာ သံဃသမဂ္ဂအဖွဲ့ချုပ်ကိုလည်း ဖွဲ့စည်းခဲ့သည်။ ထိုပင်လုံမြို့၌ ရှမ်းဘာသာဖြင့် ကဆုန်လတွင် နှစ်စဉ် ပရိယတ္တိသဒ္ဓမ္မပါလ စာပြန်ပွဲတော်ကြီးကို ကျင်းပလာခဲ့သည်။ (၁၉၉၉ ခုနှစ်တွင် ၄၁ ကြိမ်မြောက် စာပြန်ပွဲတော်ကို ကျင်းပစဉ် စာပြန် စာဖြေ စာထောက် စာမသံဃာတော် ၅၀၀ ကျော်ရှိခဲ့သည်)ထို့အပြင် ပရိယတ္တိသဒ္ဓမ္မပါလ စာပြန်ပွဲတော်၏ စာသင်တိုက်ခွဲဌာနခွဲများဖြစ်သော လားရှိုး၊ ကွန်ဟိန်း၊ မိုးနဲ၊ မိုင်းနန်း၊ မိုင်းပန်၊ မောက်မယ်၊ လင်းခေး၊ လဲချား၊ မိုင်းရှူး စသည်တို့လည်း

ရှမ်းဘာသာဖြင့်ဖြေဆို၊ ပြန်ဆိုကြသည်ကို တွေ့ရှိသည်။[၁] အဆိုပါရှမ်းပြည်နယ် ပရိယတ္တိသဒ္ဓမ္မပါလစာပြန်ပွဲတော်တို့တွင် တစ်နှစ်လျှင် စာဖြေသံဃာတော် စုစုပေါင်းမှာ ငါးထောင်နီးပါးရှိပေမည်။ ထိုရှမ်းဘာသာကို အခြေခံရကြကုန်သော ရဟန်းငယ်များ သာမဏေငယ်များသည် ပြည်မသို့ဆင်းပြီး မြန်မာစာကို ပြန်လည်သင်ယူကြသည်။

၁၉၉၅ ခုနှစ်တွင် သံဃာတော်များက ရှမ်းဗုဒ္ဓဘာသာယဉ်ကျေးမှု အဖွဲ့ကို ရှမ်းပြည်မြောက်ပိုင်း မူဆယ်မြို့ ရွှေသမင်(ခေါ်) ရွှေစေတီစာသင်တိုက်တွင် ဖွဲ့စည်းနိုင်ခဲ့ပြီး နွေရာသီကျောင်းပိတ်ရက်များတွင် ဗုဒ္ဓဘာသာယဉ်ကျေးမှုသင်တန်းများကို ရှမ်းပြည်နယ်အနှံ့ ဖွင့်လှစ်သင်ကြားပေးလျက်ရှိသည်။

ယခုအခါ ဝိမုတ္တိယုဂခေတ် ရောက်သည်နှင့်အညီ ရှမ်းပြည်နယ် ပဋိပတ္တိလုပ်ငန်းသည်လည်း ထွန်းကားလာသည်ကို တွေ့ရသည်။ မြို့တိုင်းမြို့တိုင်း၌ တရားရိပ်သာများ ဖွင့်လှစ်လာကြသည်ကို တွေ့ရသည်။ သထုံမူလမင်းကွန်း၊ မဟာစည် မိုးကုတ် စွန်းလွန်း၊ ညောင်လွန့်စသော တရားနည်းမျိုးစုံ၊ ရိပ်သာမျိုးစုံတို့ကို ရှမ်းပြည်နယ်တစ်ဝှမ်း ပျံ့နှံ့နေသည်ကို တွေ့ရသည်။ နိုင်ငံတော်မှ စေလွှတ်သော တောင်တန်းသာသနာပြု လုပ်ငန်းသည်လည်း ရှမ်းပြည်တောင်တန်းပေါ်တွင် အခြေခိုင်နေပြီဖြစ်သဖြင့် ရှမ်းပြည်နယ်၏ သာသနာရေးသည် "တောင်ထိပ်ကြာပေါက်" ဆိုသကဲ့သို့ တစ်နေ့ထက်တစ်နေ့ ထွန်းလင်းစည်ပင်လာသည်ကို တွေ့ရှိရပါသည်။



၁။ ကစ်ပင်း(စဝ်) စိန်ခမ်းလှိုင်းစာစောင် အမှတ်(၃) သျှာမ်းပိဋကတ်ဘာသာပြန်ကျောင်း၏ သမိုင်း နှာ၊ ၅၀-၅၁။

# အခန်း (၇)

ပြည်ထောင်စု မြန်မာနိုင်ငံတွင် တိုင်းရင်းသားပေါင်းစုံနေထိုင်သော နိုင်ငံတော်ကြီးတစ်ခု ဖြစ်သည်။ တိုင်းရင်းသားလူမျိုးတို့၏ သွေးစည်းညီညွတ်ရေးကို တိုင်းရင်းသား အချင်းချင်း ရင်းနှီးမှုမှ ရရှိနိုင်ပေသည်။ တိုင်းရင်းသားအချင်းချင်း ရင်းနှီးမှုကို ဆက်ဆံမှု ပြေပြစ်ခြင်းမှ ရရှိနိုင်ပေမည်။ တစ်ဦး၏ အကြောင်းကို တစ်ဦးက သေသေချာချာ သဘောပေါက်နားလည်လျှင် ဆက်ဆံမှုပြေပြစ်နိုင်ပေသည်။ ထိုကဲ့သို့ သဘောပေါက်နားလည်နိုင်ရန်အတွက် တိုင်းရင်းသား အသီးသီးသည် အခြားတိုင်းရင်းသားများ၏ ယဉ်ကျေးမှုနှင့် ဓလေ့ထုံးတမ်းစဉ်လာ အကြောင်းအရာများကို နားလည်သိရှိထားမှ ဖြစ်ပေမည်။ ဤနေရာ၌ ရှမ်းလူမျိုးများ၏ ဓလေ့ထုံးစံများကို တင်ပြလိုပါသည်။

## ၇ း ၁ ။ ရှမ်းရိုးရာ ၁၂ ရာသီပွဲတော်များ

ရှမ်းလူမျိုးများသည် ဗုဒ္ဓဘာသာဝင်များဖြစ်ကြသည့်အလျောက် ၄င်းတို့၏ ပွဲလမ်းသဘင်များမှာ များသောအားဖြင့် ဘာသာရေးဆိုင်ရာ ပွဲတော်များဖြစ်ကြသည်။ မြန်မာလူမျိုးတို့၏ ပထမလသည် တန်ခူးလဖြစ်၍ မြန်မာသက္ကရာဇ်သည် သင်္ကြန်တက်ပြီး တစ်နေ့တွင် နှစ်သစ်ကူးပြောင်းသည်။ ရှမ်းလူမျိုးတို့သည် ရှေးဟောင်းယဉ်ကျေးမှု ရှိခဲ့သူများဖြစ်ကြသဖြင့် ရှမ်းလူမျိုးတို့၏ ပထမလသည် မြန်မာနတ်တော်လဖြစ်၍ ရှမ်းဘာသာအားဖြင့် "လိန်စိန်" ဟု ခေါ်သည်။ ဒုတိယလကို "လိန်ကမ်" ဟုခေါ်ပြီး တတိယမှ ဆယ့်နှစ်လအထိကိုမူ ဂဏန်းသင်္ချာ အရေအတွက်

ဖြင့် "လိန်ဆမ်၊ လိန်ဆီ" သုံးလ၊ လေးလ စသည်ဖြင့် ခေါ်ကြသည်။ မြန်မာစကားမကျွမ်းကျင်သော အချို့သော ရှမ်းများသည် မြန်မာစကားပြော ဆိုရာ၌ "တပေါင်းပွဲတော်"ကို "လေးလပွဲတော်" ဟု မှားယွင်းကာ ပြော ဆိုတတ်ကြသည်။ ၁၂ ရာသီပွဲတော်များမှာ အောက်ပါအတိုင်း ပြုလုပ် ကျင်းပကြလေသည်။

၇ း ၁ း ၁ ။ နတ်တော်လ နှစ်သစ်ကူးပွဲတော်
ကောက်သစ်စားပွဲတော်

နှစ်သစ်ကူးခြင်းဆိုသည်မှာ နှစ်ဟောင်းကုန် ဆုံး၍ နှစ်သစ်သို့ ရောက်ရှိခြင်းပင်ဖြစ်သည်။ နတ်တော်လတွင် ရှမ်းလူမျိုးတို့နှစ်သစ်ကူး ခြင်းကား ရှမ်းလူမျိုးများသည် သီးခြားပြက္ခဒိန်ရှိနေခြင်းကို ဖော်ညွှန်း လျက်ရှိသည်။

ရှမ်းနှစ်သစ်ကူးပွဲတော်သမိုင်းအရ သာသနာတော်နှစ် ၄၅၀ (ဘီစီ ၉၄ ) တွင် ရှမ်းလူမျိုးများသည် "မူအန်မောဝ်" * တိုင်းပြည်ကို တည်ထောင်ခဲ့သည်။ ထိုနှစ်သည် စတုတ္ထသင်္ဂါယနာတင်သောနှစ်လည်း ဖြစ်သည်။ သောဏမထေရ်သည် ရှမ်းဒေသသို့ သာသနာပြုကြွရောက် တော်မူခဲ့ပြီး မဇ္ဈန္တိကမထေရ်က တရုတ်ပြည်တွင်သာသနာပြု ကြွတော် မူသည်။ မိန်းဆည်ဘုရင်၏ သားတော်အိမ်ရှေ့မင်းသား ခွန်ဟောင်သည် နောက်ပါတပည့်လေးဦးနှင့်အတူ အနောက်နိုင်ငံ (အိန္ဒိယ)သို့ ပိဋကတ် တော်များကို ရေးကူးပြီး နေပြည်တော်သို့ ပြန်ရောက်လာလေသည်။ ထို အချိန်သည် ရှမ်းလူမျိုးများ နှစ်သစ်ကူးပွဲတော်အချိန် ကျရောက်နေသဖြင့် အထက်ပါအကြောင်းကြောင်းတို့ကြောင့် သာသနာတော်နှစ် ၄၅၀ သည်

* မူအန်မောဝ်ကို "ကျိုင်းဝီ"ဟူ၍လည်းကောင်း "မိန်းလုံပုံတိုင်း"ဟူ၍လည်းကောင်း ခေါ်သည်။

ရှမ်းတို့အတွက် ထူးမြတ်သောနှစ်ဖြစ်သဖြင့် ထိုနှစ်မှစ၍ ရှမ်းနှစ်ကို စတင် a&w G f mcH n f° ထို့ကြောင့် ရှမ်းနှစ်သည် သာသနာနှစ်ထက် ၄၅၀ နောက်ကျသည်။ ရှမ်းနှစ်သစ်ကူးပွဲတော်သည် ရှေးခေတ်ကာလမှစ၍ ယနေ့တိုင် ရှမ်းလူမျိုးများ အမြတ်နိုးဆုံးပွဲတော်အဖြစ် ဆက်လက်ဆင်နွှဲကျင်းပလာခဲ့ကြ၏။

ထိုနှစ်သစ်ကူးပွဲတွင်-♥

(၁) နှစ်သစ်ကူးအစားအစာပေးပို့လှူဒါန်းခြင်း။ ရှမ်းရိုးရာ အစားအစာဖြစ်သော မုန့်ဖက်ထုပ်၊ မုန့်ပေါင်း စသည်တို့ကို ပြုလုပ်ပြီး ရင်းနှီးသော မိတ်ဆွေများထံသို့ ပေးပို့ကြရသည် အိမ်ရှင်က ဝမ်းသာစွာလက်ခံပြီး ဆုမွန်ကောင်းများပေးရသည်။

(၂) နှစ်သစ်ကူးကို စောင့်ခြင်း။ နတ်တော်လဆန်းတစ်ရက် မရောက်မီ တန်ဆောင်မုန်းလပြည့်ကျော် (၁၄-၁၅)ရက်တို့တွင် ပွဲလမ်းသဘင်များ ကျင်းပခြင်း၊ သီချင်းဆိုခြင်း၊ တရားစာနာယူခြင်း၊ ရှေးခေတ်က ဂုဏ်ယူဖွယ်ကောင်းသော သူရဲကောင်းများ အကြောင်းကို ပြောပြခြင်း သမိုင်းကြောင်းကို ပြောပြခြင်းများ ပြုလုပ်၍ နှစ်သစ်ကူးကို စောင့်ကြိုကြရသည်။

(၃) နှစ်သစ်ကို ကြိုဆိုခြင်း ။ နှစ်သစ်ကူးအချိန်ဖြစ်သည့် တန်ဆောင်မုန်းလကွယ် (နှစ်ဟောင်းအကုန်)နှင့်နတ်တော်လဆန်းတစ်ရက် (နှစ်သစ်အရောက် ) ၀၀း၀၀ နာရီအချိန်တွင် မီးရှူး မီးပန်းများ ပစ်လွှတ်ခြင်း၊ အိုးစည်ဗုံမောင်းများတီးခတ်ခြင်း၊ ကခုန်မြူးတူးခြင်းများကို ပြုလုပ်၍ နှစ်သစ်ကို ဝမ်းသာစွာကြိုဆိုကြလေသည် (ရှေးအခါက နံနက်အရုဏ်တက်ချိန်တွင် နှစ်သစ်ကို ကြိုဆိုကြ

၁။ ဘဒ္ဒန္တဝိလာသ (မန်ဟိုင်း-စယ်လန်) သင်္ဂါယနာတင်တရားဦး (ရှမ်းဘာသာ)၊ နှာ ၄။

♥ ။ ဤနှစ်သစ်ကူးပွဲတော်ကျင်းပပုံအကြောင်းကို "မိုင်းယု ရှမ်းစာဆိုတော်" နှင့် ရှမ်းစာပေ ပညာရှင် "ဦးစိုင်းဖ (နမ့္မတူ)" တို့၏ ပြောပြချက်ကို မှီငြမ်းပါသည်။

သည်ဟု ဆိုသည်။)

(၄) နှစ်သစ်ဝမ်းမြောက်ခြင်း ။ နှစ်သစ်ကို ကြိုဆိုပြီးနောက် ဝမ်းမြောက်ဝမ်းသာ ပျော်ပျော်ရွှင်ရွှင် အိုးစည်ဗုံမောင်းစသည် တီးခတ်ခြင်း၊ နှစ်သစ်မင်္ဂလာသီချင်း သီဆိုခြင်း၊ ကခုန်ခြင်းများသည် နှစ်သစ်ဝမ်းမြောက်ခြင်း ဖြစ်သည်။

(၄) နှစ်သစ် မင်္ဂလာပြုခြင်း ။ နတ်တော်လဆန်းတစ်ရက် နှစ်သစ်ကူးနေ့မှစ၍ နတ်တော်လပြည့်အထိ (သို့မဟုတ်) နတ်တော်လကုန်အထိ မိတ်ဆွေအိမ်သို့သွားပြီး "မိုင်ဆုံး မင်္ဂလာပါ" ၊ "ကောင်းခြင်းမင်္ဂလာအဖြာဖြာနှင့် ပြည့်စုံပါစေ" ဟု ဆို၍ နှစ်သစ်မင်္ဂလာကို ယူကြရသည်။

(၅) နှစ်သစ်စီမံခြင်း ။ နှစ်သစ်ကူးပွဲတော်အတွက် လိုအပ်သည်များကို စီမံခြင်းဖြစ်သည်။ ဤနှစ်သစ်ကူးနှင့်အတူ မိမိတို့ လုပ်ဆောင်ရမည့် လုပ်ငန်းဆောင်တာများကို စီမံကိန်းချထားခြင်း ဖြစ်သည်။ (ရှေးအခါက ရာထူးခန့်ခြင်း၊ ရာထူးတိုးမြှင့်ခြင်း စသည်တို့ကို ရှင်ဘုရင်က စီမံဆောင်ရွက်ပေးခဲ့သည်)

(၇) နှစ်သစ်စာ သုံးဆောင်ခြင်း ။ ဘုရားရှင်အား ဆွမ်းတော်တင်လှူခြင်း၊ သံဃာတော်များကို ဆွမ်းကပ်ခြင်း၊ ရပ်နီးရပ်ဝေး မိတ်ဆွေများကို ပင့်ဖိတ်၍ စာဂလှူဒါန်းခြင်းများ ပြုလုပ်သည်။ ရင်းရင်းနီးနီး အတူတကွ စားသောက်ခြင်းများ ပြုလုပ်သည်။

(၈) နှစ်သစ်လက်ဆောင် ပေးပို့ခြင်း ။ နှစ်သစ်တွင် အမှတ်တရဖြစ်စေရန်အတွက် တစ်ဦးကိုတစ်ဦး လက်ဆောင်ပေးခြင်း၊ ရပ်ဝေးမိတ်ဆွေများထံ နှစ်သစ်ဆုတောင်းသဝဏ်လွှာပေးပို့ခြင်း၊ ရပ်ဝေးမိတ်ဆွေများထံ နှစ်သစ်ဆုတောင်း သဝဏ်လွှာပေးပို့ခြင်း လက်ဆောင်ပေးပို့ခြင်းများ ဖြစ်သည်။

(၉) နှစ်သစ်အားကစားပွဲကျင်းပခြင်း ။ နတ်တော်လသည် ဆောင်းရာသီဖြစ်သဖြင့် အားကစား ပြိုင်ပွဲများအတွက် အထူးသင့်လျော်သော ကာလဖြစ်သည်။ ထို့ကြောင့်နှစ်သစ်ကူးပွဲတွင် ကိုယ်ကာယလှုပ်ရှားသည့်အားကစားအမျိုးမျိုးကို ယှဉ်ပြိုင်ခြင်း၊ စကားရည်လုပွဲ ကျင်းပခြင်း၊ စာပေပြိုင်ပွဲ ကျင်းပခြင်းများ ပြုလုပ်ကြသည်။ (ရှေးအခါက သိုင်းပြိုင်ပွဲများ ပြုလုပ်ပြီး အစွမ်းထက်သည့် ပုဂ္ဂိုလ်များကို ရှင်ဘုရင်က သူရဲကောင်းဘွဲ့ချီးမြှင့်ပြီး စစ်ရာထူးတိုးမြှင့်ပေးခဲ့သည်။ အသက်ကြီးသော ပုဂ္ဂိုလ်တို့သည် တရားစာများနာယူခြင်း၊ ရှေးသမိုင်း အကြောင်းများကို ပြောကြားခြင်း၊ လူပျိုအပျိုများက စကားရည်လုခြင်း ပြုလုပ်သည်။ စကားရည်လုသော အပျိုတော်သည် သိန္နီအပျိုတော်သာ အမည်ခံရပြီး လူပျိုတော်ကား မည်သည့်နိုင်ငံလူပျိုတော်ဖြစ်ဖြစ် အမည်ခံနိုင်သည်။ တစ်ဖွဲ့ တစ်ဖွဲ့ကို ၁၂ ယောက်စီပါဝင်သဖြင့် ရှမ်းအခေါ် "လိုင်းလင်မှာ့ဆစ်ဆောင် (ခေါ်) မြင်း ၁၂ ကောင် ကစားနည်း" ဟုခေါ်သည်။ စကားထာစကားဝှက် ကစားနည်းဖြစ်၍ ရှမ်းစကားဝေါဟာရ တိုးပွားရေးအတွက် များစွာအထောက်အကူပြုသည်)

၇ း ၁ း ၂ ။ ပြာသိုလ ဝတ်ဆောက်တည်ပွဲ

ပြာသိုလသည် ရှမ်းအခေါ်အားဖြင့် "လိန်ကမ်" ဟုခေါ်သည်။ "ကမ်"ဆိုသည်မှာ "ကျင့်သုံးသည်၊ ဆောက်တည်သည်၊ ဆုပ်ကိုင်သည်" ဟု အဓိပ္ပါယ်ရှိသည်။ ရှမ်းလူမျိုးတို့သည် ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြသည့်အလျောက် သံဃာတော်များသည် ဤပြာသိုလတွင် ဝတ်ဆောက်တည်ပွဲများ ပြုလုပ်ကြသည်။ ဝတ်ဆောက်တည်၍ အဋ္ဌာန်သွင်းသောအခါ

အနည်းဆုံးရဟန်းတော် အပါး (၂၀) ရှိရပါမည်။ ထို့ကြောင့် သံဃာတော်များ စုစုစည်းစည်းဖြစ်ရန်၊ တစ်နယ်လုံးရှိ သံဃာတော်များ (သို့မဟုတ်) အနယ်နယ်အရပ်ရပ်ရှိ သံဃာတော်များကို ဝေယျာဝစ္စဆောင်ရွက်နိုင်ရန်၊ ကုသိုလ်ဒါနများပြုလုပ်နိုင်ရန်၊ ပင့်ဖိတ်၍ ဝတ်ဆောက်တည်လာသော သံဃာတော်များအတွက် ဆွမ်းကွမ်းစသည် လိုလေသေးမရှိအောင် ရပ်ကွက်အလိုက်၊ ကျေးရွာအုပ်စုအလိုက် ဝတ်ဆောက်တည်ပွဲသို့ တက်တက်ကြွကြွ လာရောက်ကုသိုလ်ယူ လှူဒါန်းကြသည်။

၇း၁း၃။ တပို့တွဲလ ပြာသာဒ်မီး ပူဇော်ပွဲ၊ ယာဂု ထမနဲပွဲ

တပို့တွဲလသည် ဆောင်းရာသီကုန်ဆုံးရန် နောက်ဆုံးကာလဖြစ်သည်။ ရှမ်းပြည်ရာသီဥတုသည် အေးချမ်းနေသည့် အချိန်ပင်ဖြစ်သည်။ ထို့ကြောင့် ဆောင်းရာသီအကုန် နွေရာသီအကူးတွင် ဘုရားရှင်ကို အာရုံပြု၍ တပို့တွဲလပြည့်ညတွင် ဝါးပင်၊ ကနဖော့ပင် စသည်တို့ကို ဖြူစင်အောင် အခွံအခေါက်တို့ကို သင်ပြီး (နွာပြီး) စေတီဝင်အတွင်း၊ ဘုရားပရိဝုဏ်အတွင်း၌ ဝါးပြာသာဒ် ဆောက်လုပ်ပြီး မီးရှို့ပူဇော်ကြသည်။ မီးရှူးမီးပန်းများလည်း ထည့်၍ ပူဇော်ကြသည်။ ယခုအခါ ဤအလေ့အထသည် မြို့ကြီးပြကြီးတွင် မတွေ့ရတော့ပေ။ မီးဘေးအန္တရာယ်ကြောင့် မြို့တွင် မကျင်းပနိုင်သော်လည်း တောရွာတို့မှာကား ယနေ့တိုင်ဆက်လက်တည်ရှိနေသည်ကို တွေ့ရသည်။ တပို့တွဲလ တမနဲပွဲဆိုသည်နှင့်အညီ ရှမ်းလူမျိုးများသည်လည်း ထမနဲထိုး၍ ဘုရားအမှူးပြုသော သံဃာတော်များကို လှူဒါန်းခြင်း၊ မိတ်ဆွေသဟာယများအိမ်သို့ ပေးပို့ခြင်းများ ပြုလုပ်သည်။ ရှမ်းထမနဲသည် မြန်မာထမနဲနှင့် မတူပေ။ ရှမ်းထမနဲကို ရှမ်းများက "ခေါက်ယာခု" ဟုခေါ်သည်။ ကောက်ညှင်းကို ပေါင်းပြီးဆီ၊ မြေပဲလှော်၊ နှမ်း၊ အုန်းသီးစသည်တို့ဖြင့် ထမနဲထိုးသည်။ မြန်မာထမနဲ

နှင့် မတူပုံကား 'ရှမ်းခေါက်ယာခု'သည် ကြံသကာဖြင့် အချိုပြုလုပ်ထား ခြင်းဖြစ်သည်။ ငါးချိပ်ဆန်ကိုလည်း ခေါက်ယာခု လုပ်လေ့ရှိသည်။

၇ း ၁ း ၄ ။ တပေါင်းလ တပေါင်းပွဲ

တပေါင်းလသည် တောသူတောင်သားများ အလုပ်ပါးချိန်ဖြစ်သည်။ မိမိတို့ အားလပ်သောအချိန် ငွေရှင်သောအချိန်တို့တွင် ဘာသာရေးအတွက် အကျိုးရှိအောင် တပေါင်းလတွင် ရှင်ပြုပွဲများပြုလုပ်ကျင်းပသည်။ ဘုရားရှင်၏ ဓာတ်တော်မွေတော်များကို ပူဇော်ကြသည်။ ရှမ်းပြည်နယ်တွင် ထင်ရှားသော တပေါင်းပွဲများမှာ သီပေါရှိ ဘော်ကြိုဘုရားပွဲ၊ မိုးမိတ် တပေါင်းပွဲ၊ ပင်းတယ တပေါင်းပွဲ မိုင်းကိုင် တပေါင်းပွဲ၊ ကျိုင်းလိန် တပေါင်းပွဲ၊ ဟိုလှိုင်းတပေါင်းပွဲတို့ဖြစ်သည်။

၇ း ၁ း ၅ ။ တန်ခူးလ သင်္ကြန်ပွဲ

တန်ခူးလတွင် ရှမ်းလူမျိုးများသည် မြန်မာများနှင့်အတူ သင်္ကြန်ပွဲတော်ကို ဆင်နွှဲကြသည်။ သက်ကြီးရွယ်အိုများကို ခေါင်းဆေးခေါင်းလျှော်ပေးခြင်း၊ ငါးလွှတ်ခြင်း ငှက်လွှတ်ခြင်းများ ပြုလုပ်သည့်အပြင် သံဃာတော်များကိုလည်း ချိုးတော်ရေ မျက်နှာသစ်တော်ရေများ လှူဒါန်းကြသည်။ ဘုရားရှင်ကိုလည်း ရေသွန်းကျောင်းသီးသန့်လုပ်၍ နဂါးရုပ်ရေတံလျှောက်ပြုလုပ်ပြီး ရေသွန်းသပ္ပါယ်ကြသည်။ ဝါးလုံးများအပေါက်ဖောက်ပြီး ရေအားဖြင့်လှည်စေ၍ ဘုရားဆင်းထုတော်အားရေပူဇော်သွန်းလောင်းကြသည်။ မြန်မာသင်္ကြန်သည် သင်္ကြန်အကျနေ့၊ အကြတ်နေ့နှင့် အတက်နေ့တို့တွင်သာ ရေလောင်းရေပက်ကစားခြင်းပြုကြသည်။ ရှမ်းသင်္ကြန်မှာကား ထိုသို့မဟုတ်ချေ။ သင်္ကြန်အကျနေ့၊ အကြတ်နေ့၊ အတက်နေ့သာမက တန်ခူးလ တစ်လလုံးလုံး ရေပက်ကြသည်။ ထို့ကြောင့် ပြည်မမှပုဂ္ဂိုလ်များ တန်ခူးလတွင် ရှမ်းပြည်သို့ သွား

လည်သောအခါ သင်္ကြန်တက်သော်လည်း ရေပက်ခံကြရသည်။ တန်ခူးလတွင် ရှမ်းလူမျိုးများသည် မိမိထက်အသက်အရွယ် သိက္ခာဝါကြီးသူများကို အိမ်တိုင်ရာရောက် သွားကန်တော့ကြသည်။ ကျေးရွာအုပ်စုတို့တွင် ဘုန်းကြီးကျောင်းများထံသို့ နေ့ရက်သတ်မှတ်ပြီး ကျောင်းကန်တော့ပွဲများ ဆင်နွှဲကြသည်။ ကျောင်းကန်တော့ပွဲတွင် သဲပုံစေတီ၌ မုန့်ဖက်ထုပ်များ သစ်သီးများ၊ ထမင်းထုပ်ဟင်းထုပ်များ သွားရောက်ပူဇော် လှူဒါန်းထားကြသည်။ သံဃာတော်များကို ကန်တော့ပြီးသောအခါ ထိုမုန့်ထုပ်၊ ထမင်းထုပ်၊ ဟင်းထုပ်၊ သစ်သီးများကို ကြဲဖြန့်ဝေငှကြသည်။ ထိုအစားအစာသည် ဆေးဖက်ဝင်သည်ဟု ရှမ်းများက ယုံကြည်ကြသည်။ ကျောင်းကန်တော့ပွဲသွားရာ၌ လူပုဂ္ဂိုလ်များသာမက ထိုနယ်ရှိ သံဃာတော်များက ရှာသူရှာသားများကို ဦးဆောင်၍ တစ်ကျောင်းပြီးတစ်ကျောင်း သွားရောက်ကန်တော့ကြသည်။ ရေပက်ကစားမှုလည်း ပြုသည်။

၇း၁း၆ ။ ကဆုန်လ ညောင်ရေသွန်းပွဲ

ကဆုန်လညောင်ရေသွန်းပွဲကို ရှမ်းလူမျိုးများ ကျယ်ကျယ်ပြန့်ပြန့် မကျင်းပချေ။ လောရှမ်းနှင့် ထိုင်းရှမ်းတို့ကမူ ကဆုန်လပြည့် ဗုဒ္ဓနေ့ကို အထူးတလည်ကျင်းပကြသည်။ ကဆုန်လတွင် နှောင်းသင်္ကြန်ပွဲအဖြစ် သံလွင်မြစ် အရှေ့ဘက်ရှိ ရှမ်းများ၊ လောဝ်များက ကျင်းပသည်။ ဘုန်းကြီးသင်္ကြန်ဟုလည်းခေါ်သည်။ မီးကျည်လွှတ်တင်ပွဲကိုလည်း ကျင်းပကြသည်။

၇း၁း၇ ။ နယုန်လ မြို့စောင့်နတ်/ရွာစောင့်နတ်ပူဇော်ပွဲ

နယုန်လသည် ရှမ်းတို့၏ ခုနစ်လမြောက်ဖြစ်သည်။ နယုန်လဆန်း ခုနစ်ရက် (၇ လ၊ ၇ ရက်) နေ့တွင် မြို့ရွာငြိမ်းချမ်းရေးအတွက်

မြို့/ရွာစောင့်နတ်တို့ကို ပူဇော်ပသကြလေသည်။ ရှမ်းလူမျိုးများ နတ်ပူဇော်သည်ဟု ဆိုရာ၌ ရွာဦးမြို့ဦးစသည်တို့၌ တစ်နှစ်တစ်ကြိမ်ကျ ရွာစောင့်နတ်၊ လယ်စောင့်နတ်၊ သမ္မာဒေဝါနတ်များအား ပူဇော်မှု လောက်သာရှိသည်။ မြေပြန့်မှာကဲ့သို့ နတ်ကနားပေးခြင်း၊ နတ်ပွဲကြီးများ ကျင်းပခြင်းများ မရှိပေ။ နတ်များကို ပူဇော်ကန်တော့သည့်အခါ ဘုရားရှိခိုးသကဲ့သို့ လက်အုပ်မချီရဘဲ မှူးမတ်များ ရှင်ဘုရင်ကို ဦးတင်ဦးချသကဲ့သို့သာ ပြုရမည်ဟု ရှေးလူကြီးသူမတို့က ပြောဆိုဆုံးမထားသည်။ ဆိုလိုသည်မှာ ရတနာသုံးပါးနှင့် နတ်ကို တန်းတူမထားရန်အတွက် ဖြစ်၍ သရဏဂုံမညိုးနွမ်းအောင် ဆုံးမသောစကားဖြစ်သည်ဟု ယူဆမိပါသည်။

၇ း ၁ း ၈ ။ ဝါဆိုလ မိုးရေခံသင်္ကန်းကပ်လှူပွဲ

ဝါဆိုလသည် မိုးလသို့ကျရောက်သည့် အချိန်ဖြစ်သည်။ ရဟန်းသံဃာများသည် ဝါတွင်းသုံးလပတ်လုံး ဝါဆိုကြရမည်ဖြစ်သောကြောင့် ဝါဆိုလဆန်းတွင် သံဃာများအတွက် မိုးရေခံသင်္ကန်း၊ ဝါဆိုသင်္ကန်းများကို ဆက်လက်လှူဒါန်းကြသည်။ ဝါဆိုပန်းကပ်ပွဲများကိုလည်း ကျင်းပလေ့ရှိသည်။ ဝါတွင်းကာလ ရက်ကြီးရက်မြတ်ဖြစ်သည့် ဥပုသ်နေ့၊ လပြည့်လကွယ်နေ့တို့တွင် ရှမ်းလူမျိုးများသည် ဥပုသ်သီတင်းသီလကို ဆောက်တည်ကြသည်။ အသက်ကြီးသောပုဂ္ဂိုလ်များသည် ရှစ်ပါးသီလခံယူပြီး အိမ်မပြန်ကြဘဲ ဘုန်းကြီးကျောင်း (သို့မဟုတ်) ဇရပ်တွင် အိပ်ကြရသည်။ မနက်ပိုင်းတွင် စေတနာများက ဥပုသ်သည်တို့အား အရုဏ်စာ လာရောက်စာဂလှူဒါန်းကြသည်။

၇ း ၁ း ၉ ။ ဝါခေါင်လ ထင်းရှူးမီးတိုင်ပူဇော်ပွဲ

ဝါခေါင်လသည် ဝါတွင်းကာလဖြစ်၍ စာရေးမဲတံပွဲကို ကျင်းပ

သည်။ ဘုရားရှင်ကို ပူဇော်ရန်အတွက် ထင်းရှူးတိုင်ဆီမီးများ၊ ထင်းရှူးပဒေသာပင်များကို ဘုရားကျောင်းဝင်းတွင် လာရောက်စိုက်ထူ၍ ထွန်းညှိပူဇော်ကြသည်။

၇း၁း၁၀ ။ တော်သလင်းလ မြို့ရွာစောင့်နတ် ပူဇော်ပွဲ

တော်သလင်းလသည် ရှမ်းလမှာ ၁၀ လမြောက်ဖြစ်သည်။ ရှမ်းပြက္ခဒိန် ၁၀ လ၊ ၁၀ ရက်သည် ရှမ်းပြည်နယ်အာလုံးတို့၏ စဝ်မိန်း (ခေါ်) မြို့စောင့်နတ်ကို ပူဇော်သောနေ့ဖြစ်သည်။ ရှမ်းပြက္ခဒိန်တွင် "မယ်ပီ" Stem (ခေါ်) မူရင်းနှစ်ကြီး ၁၀ ကို မူတည်၍ "လုတ်ပီ" Pranches လ ၁၂ လနှင့် ယှဉ်တွဲရေတွက်သည်။ ဗေဒင်လက္ခဏာ တွက်ချက်ရန်အတွက် ခုနှစ်ကို ကြွက်၊ နွား၊ ကျားစသော တိရစ္ဆာန်ဖြင့် ရေတွက်သည်။ တော်သလင်းလကွယ်နေ့သည် မူရင်းနှစ်ကြီး(၁၀) ကုန်ဆုံးသဖြင့် ထိုနေ့သည် နှစ်ကြီးကုန်ဆုံးသည့်နေ့ဟု သတ်မှတ်ပြီး နံနက်စောစောထ၍ ရေချိုးခြင်းမင်္ဂလာပြုသည်။ တော်သလင်းလကွယ်နေ့တွင် ရေကိုခပ်ထားပြီး တစ်နှစ်လုံး မျက်နှာသစ်ရေ၊ ခေါင်းလျှော်ရည်များ ပြုလုပ်ကြသည်။ အန္တရာယ်ကင်းသည်ဟု ယုံကြည်ကြသည်။ အတတ်ပညာရပ်ကို စတင်သင်ယူလျှင် တတ်သိလွယ်သည်ဟု ဆိုသည်။ တော်သလင်းလကွယ်နေ့တွင် နက္ခတ်တာရာများကို ကြည့်ရှုပြီး အတိတ်နိမိတ်ကောက်ကြသည်။ ဝေဿန္တရာကျမ်းများကို ပင့်၍ ဆုတောင်းအဓိဋ္ဌာန်ပြုပြီး ဝေဿန္တရာကိန်းခန်းဗေဒင်ကို ကျမ်းစာလှန်၍ ဗေဒင်ဟောကြသည်။ တချို့လည်း "သုတ်တမွမ်းထမ်း (ခေါ်) သုတ္တန်အနှစ်သာရ" တရားစာကို လှန်၍ ဗေဒင်ဟောကြသည်။ ဖျောက်ဆိပ်ကြယ် တိမ်းချိန်သည် တော်သလင်းလအတွင်းဖြစ်သဖြင့် ဖျောက်ဆိပ်ကြယ်ဆွမ်းတော်ကြီး လောင်းလှူပွဲများကို ကျင်းပကြသည်။ ဖျောက်ဆိပ်ကြယ်သည် နေနှင့်အတူတကွ

ထွက်ခြင်း တိမ်းခြင်းဖြစ်သဖြင့် မမြင်တွေ့ရချေ။ ရှေးခေတ်ရှမ်းများသည် တော်သလင်းလပြည့်ကျော် ၁၄ ရက်ညတွင် အိုး(မဲနယ်ဆေးဆိုးသည့် အိုး)ကို သက်ငယ်ကြိုးဖြင့် ချည်ထားသည်။ ထိုတော်သလင်းလကွယ်နေ့ သည် ငှက်အပေါင်းနှင့် အိုးစောင့်နတ်တို့သည် မူရင်းနှစ်ကြီးကုန်ဆုံးခြင်း ကို သွားရောက်ပူဆွေးသည်ဟု ယူဆ၍ အိုးများ ကွဲအက်တတ်သည် ဟုဆိုသည်။ ထိုတော်သလင်းလကွယ်နေ့တွင် ရှမ်းပြည်၌ ကျေးငှက်များ မြည်တွန်ခြင်းမရှိချေ။ မူရင်းနှစ်ကြီးကုန်ဆုံးသည်ကို သောကပရိဒေဝဖြစ် သည်ဟု ဆိုသည်။

၇း ၁း ၁၁ ။ သီတင်းကျွတ်လ မီးထွန်းပွဲ

သီတင်းကျွတ်လပြည့်နေ့တွင် သံဃာတော်များ ဝါကျွတ်သော နေ့ဖြစ်သည်။ မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ်အခါ တာဝတိံသာ တွင် မယ်တော်မိနတ်သားအား ဝါတွင်းသုံးလပတ်လုံး အဘိဓမ္မာတရား ဟောကြားပေးခဲ့ပြီး သီတင်းကျွတ်လပြည့်နေ့တွင် လူ့ပြည်သို့ ပြန်လည် ဆင်းလာသည်။ ထိုနေ့ကို ဗုဒ္ဓဘာသာဝင်များက သီတင်းကျွတ် မီးထွန်း ပွဲတော်အဖြစ် ကျင်းပကြသည်။ ရှမ်းအခေါ်ကား "ပွဲစဝ်ဖရားလုံးမိန်း" (ဘုရားရှင်လူ့ပြည်သို့ သက်ဆင်းလာတော်မူသောနေ့)ဟု ခေါ်ကြသည်။ သီတင်းကျွတ်ပွဲတော်တွင် ရှမ်းလူမျိုးများသည် အိုးစည်ဗုံမောင်းတီး၍ တိုးနရားအက၊ ကိန္နရာအကများဖြင့် ပျော်ရွှင်စွာ ကပြကြသည်။

ထိုတိုးနရားနှင့် ကိန္နရာတို့သည် သမိုင်းအရ ဘုရားရှင်တာဝတိံ သာမှ လူ့ပြည်သို့ဆင်းလာစဉ် ကမ္ဘာပေါ်ရှိ သတ္တဝါအားလုံးသည် ပျော်ရွှင် မြူးတူးကြသည်။ လူ၊ နတ်၊ နဂါး၊ ဂဠုန်၊ ကုမ္ဘာန်၊ ဘီလူးနှင့် ထူးဆန်း သော တိရစ္ဆာန်တို့သည် တစ်ဦးကိုတစ်ဦး မြင်တွေ့ကြရကုန်သည် ဟုဆို၏။ ရှမ်းလူမျိုးတို့အဆိုအရ ဘုရားရှင်အား တိုးနရားနှင့် ကိန္နရာတို့ ကြိုဆို၍

ကပြနေသည်ကို လွန်စွာနှစ်သက်ကြသဖြင့် ထိုတိုးနရားနှင့် ကိန္နရာအက ကို အတုယူ၍ သီတင်းကျွတ်ပွဲတော်တွင် ကပြရသည်ဟု ဆိုသည်။ တိုးနရားနှင့်ကိန္နရာ ကပွဲသို့ ဝင်လာသည့်အခါ ပွဲရှင်များက ကန်တော့ပွဲဖြင့် သွားရောက်ကြိုဆိုကြရသည်။ ပွဲရှင်က "အသင်တို့၏ တိုးနရားကိန္နရာ တို့သည် အဘယ်ကလာသနည်း"ဟုမေးလျှင် တိုးနရားပိုင်ရှင်တို့က "အကျွန်ုပ်တို့သည် မြင်းမိုရ်တောင်မှ လာပါသည်။ ရွှေတိုးနရား ရွှေ ကိန္နရာ၊ ငွေတိုးနရား၊ ငွေကိန္နရာများဖြစ်သည်" ဟု ဖြေဆိုရသည်။ ပွဲရှင် က "ရွှေငွေရတနာ ပေါများကြွယ်ဝအောင် ရွှေတိုးနရား ငွေတိုးနရား၊ ရွှေကိန္နရာ ငွေကိန္နရာများ အကျွန်ုပ်တို့အထံ လာရောက်ကပြ မင်္ဂလာ ပြုပေးတော်မူပါ၊ ပင့်ဆောင်ဖိတ်မန္တကပြု၍ ကြိုဆိုပါတယ်"ဟုဆိုပြီး ကန်တော့ပွဲဖြင့် ပင့်ဆောင်ကြလေသည်။ ထိုအခါ အိုးစည်ဗုံမောင်းတီး၍ ကျောင်းကို သုံးပတ်ပတ်ကာ ဘုရားကို ဦးတိုက်ပြီး သက်ဆိုင်ရာနေရာ၌ ကပြကြလေသည်။

သီတင်းကျွတ်လပြည့်နေ့ အရုဏ်တက်ချိန်တွင် ဘုရားရှင်သည် တာဝတိံသာနတ်ပြည်မှ လူ့ပြည်သို့ ဆင်းသက်တော်မူလာသည်ကို ရည် မှန်း၍ လမပြည့်မီ တစ်ရက်နှစ်ရက်အလိုတွင် ရှမ်းတို့သည် "ချိန်ဆန် ပုတ်"(ခေါ်)"သင်ပုတ်စင်"ကို ဝါးဖြင့် ဆောက်လုပ်၍ သစ်သီးမျိုးစုံကို နှီးဖြင့်သီပြီး ချိတ်ဆွဲလှူဒါန်းထားကြသည်။ ဘုရားရှင်အား အရုဏ်ဆွမ်း အတွက် လှူဒါန်းခြင်းဖြစ်သည်ဟု ဆိုသည်။

သီတင်းကျွတ်လပြည့်နေ့တွင် သံဃာတော်များသည် "အမြင် မတော်မှုများ၊ အကြားမတော်မှုများ၊ သံသယမှုများ တပည့်တော်အပေါ် တွေ့ရှိခဲ့သော် ပြောဆိုဆုံးမ သတိပေးတော်မူကြပါ"ဟု အချင်းချင်းပန် ကြားလေသည်။ ထေရ်ကြီးဝါကြီးများကို ကန်တော့ကြလေသည်။ လူ ပုဂ္ဂိုလ်များက သံဃာတော်များကို ကျောင်းတိုင်းသွားရောက် ကန်တော့

ကြလေသည်။ ကျေးရွာများတွင် တန်ခူးလကဲ့သို့ သံဃာတော်များ ဦးဆောင်၍ တစ်ကျောင်းပြီးတစ်ကျောင်း ပူဇော်ကန်တော့ကြလေသည်။

## ၇း ၁း ၁၂။ တန်ဆောင်မုန်းလ ကထိန်သင်္ကန်းကပ်လှူပွဲ ရှမ်းစာဆိုတော်ပွဲ

သီတင်းကျွတ်လပြည့်ကျော်တစ်ရက်မှ တန်ဆောင်မုန်းလပြည့်နေ့အထိကို ဘုရားရှင်က ကထိန်ခေတ်အဖြစ် သတ်မှတ်ပေးထားလေသည်။ ရဟန်းသံဃာတော်များအား ကထိန်သင်္ကန်းလှူဒါန်းနိုင်ရန်အတွက် ခွင့်ပြုထားခြင်းဖြစ်သဖြင့် တန်ဆောင်မုန်းလသည် ကထိန်သင်္ကန်းကပ်လှူပွဲများ မြို့ရွာအနှံ့ ကျောင်းအနှံ့ပြုလုပ်ကျင်းပကြသည်။

တန်ဆောင်မုန်းလသည် ထင်ရှားသော ရှမ်းစာဆိုတော်နေ့လည်းဖြစ်သည်။ စဝ်ကန်းဆေ၊ စဝ်အမတ်လုံမိန်းနောင်၊ စဝ်ဓမ္မဒိန္န၊ စဝ်ပညာဘောဂ၊ စဝ်ကောလီ၊ စဝ်ဝေါလခဲ့၊ စဝ်နော်ခမ်း၊ စဝ်နန်းခမ်းကူစသော စာဆိုတော်ကြီးများ၏ ကျေးဇူးကြောင့် စာမတတ်သော ရှမ်းလူထုအတွက် တရားစာများကို ကဗျာလင်္ကာ သီကုံးစပ်ဆိုထားသဖြင့် ရှမ်းစာဟောဆရာတစ်ဦး ဖတ်ဟောလျှင် ကျန်သည့်ပုဂ္ဂိုလ်များလည်း တရားတော်ကို တတ်သိသွားကြလေသည်။ စာဆိုတော်ကြီးများ၏ ကလောင်သွားထက်မှုကြောင့် ဝေဿန္တရာတရားစာကို နာကြားကြသော ရှမ်းအဘိုးအဘွားများသည် မျက်ရည်မဆည်နိုင်အောင် ဖြစ်ခဲ့ကြရသည်။ စာဆိုတော်များ၏ ကျေးဇူးကြောင့် သုတ၊ ဝိနည်း၊ အဘိဓမ္မာတရားများကို တတ်သိနားလည်ကြရသည်။ စာဆိုတော်ကြီးများ၏ ကျေးဇူးတရားကို အောက်မေ့သတိရသည့် အနေဖြင့် စာဆိုတော်နေ့ကို စည်ကားသိုက်မြိုက်စွာကျင်းကြ၏။ စာဆိုတော်ပွဲတော်တွင် စာဆိုတော်ကြီးများ၏ အတ္ထုပ္ပတ္တိကို ဖတ်ကြားခြင်း၊ ကဗျာ၊ လင်္ကာ၊ စာစီစာကုံး ရေးသားပြိုင်ဆိုင်ခြင်း၊

စာဆိုတော်များ ရေးသားထားသော တရားစာများကိုပြုင်ဆိုင်ရွတ်ဖတ်ခြင်း၊ သံဃာတော်များကို ဆွမ်းဆက်ကပ်လှူဒါန်း ခြင်းများပြု လုပ်ကြလေသည်။

၇း၂း၁ ။ ရှမ်းလူမျိုးများ မိသားစု ဆွေမျိုးတော်စပ်ပုံ

ရှမ်းအမျိုးသားတို့သည် မိသားစုနှင့် နေထိုင်လေ့ရှိကြသည်။ အဖကြီးစိုးသည်၊ အမိကြီးစိုးသည် ဟူသော စနစ်မရှိ။ အိမ်ထောင်စုကိုလိုက်၍ အချို့တွင် အမိသြဇာညောင်း၍ အချို့တွင် အဖသြဇာ လွှမ်းမိုးသည်။ တစ်နည်းဆိုရလျှင် အမိရောအဖပါ သူ့နေရာနှင့်သူ အိမ်ထောင်ကိုစိုးမိုးနိုင်ကြသည်။ အိမ်ထောင်စုတွင် အိမ်ရှင်အဘိုး(သို့မဟုတ်)အဖ (သို့မဟုတ်) ဦးလေး၊ ဦးကြီးစသော အိမ်ထောင်စုတွင် အကြီးအကဲယောကျ်ားအတွက် ထိုင်ရန်နေရာ သတ်မှတ်ထားလေ့ရှိသည်။ အိမ်ရှင်ယောကျ်ား၏ခွင့်ပြုချက်မရရှိဘဲနှင့် ထိုနေရာ၌ ထိုင်မိလျှင် ဆွေမျိုးရင်းချာပင်ဖြစ်စေဒဏ်တပ်နိုင်သည်အထိ အခွင့်ရှိသည်။ ဘုန်းကြီးများပင် ထိုနေရာမျိုး၌ အိမ်ရှင်၏ ခွင့်ချက်မရှိဘဲ မထိုင်ကြချေ။ အိမ်ရှင်ယောကျ်ားထိုင်ရန် သတ်မှတ်ထားသောနေရာသည် အိမ်ရှင်ယောကျ်ား အလုပ်မှအပြန် အပန်းဖြေရာ နေရာဖြစ်သည်။ အိမ်ရှင်ယောကျ်ားက မိမိသတ်မှတ်ထားသောနေရာတွင် ခွင့်မရရှိဘဲ နေထိုင်သူကို ဘုန်းတန်းခိုးမတူ၍ မထိုင်ရဟုဖြစ်တင်လေ့ရှိသည်။ ထိုအခါ ထိုင်မိသော ဧည့်သည်က ငွေအနည်းငယ်ဖြင့်သော်လည်းကောင်း၊ လက်အုပ်ချီ၍သော်လည်းကောင်း၊ လက်ဖက်တစ်ထုပ်၊ ကွမ်းတစ်ရာဖြင့်သော်လည်းကောင်း ကန်တော့ပြီး မှားယွင်းမှုကို တောင်းပန်ပါက ကျေအေးရသည်။[၁]

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၃၅-၆

ယောကျ်ားနှင့်မိန်းမထိုင်ရန် သီးသန့်ထားသော နေရာများလည်း ရှိသေးသည်။ အထူးသဖြင့် အိမ်ဦးဘုရားစင်အနီး၌ အမျိုးသမီးများ ထိုင်ခွင့်မရှိချေ။ ဤဓလေ့ထုံးစံကို အိမ်ရှင်မိဘများက သွန်သင်ပေးပြီး ဘုန်းကြီးကျောင်းတွင် ဘုန်းကြီးက ညွှန်ပြဆုံးမပေးသည်။ သို့သော်လူမှုရေးအရ ကျားမအဆင့်အတန်း ခွဲခြားခြင်းမရှိပေ။ အိမ်တွင်ရှိသော သားသမီးများတွင် အဆင့်အတန်းခွဲခြားမှု မရှိ။ သမီးဆိုလျှင် အစ်မကြီးအရာနှင့် ဩဇာရှိသည်။ သားအကြီးဆိုလျှင် အစ်ကိုကြီးအရာနှင့် ဩဇာတစ်မျိုးရှိသည်။ သားယောကျ်ားဆိုလျှင် ရှင်သာမဏေပြုနိုင်သောကြောင့် သားယောကျ်ားမွေးစေချင်သည်။ သို့သော် သမီးမိန်းကလေးရလျှင်လည်း ချစ်မြတ်နိုးကြသည်။ အိမ်တွင်း သားသမီးများပါက သားယောကျ်ား အိမ်ထောင်ပြုလျှင် တစ်နေရာသို့လည်းကောင်း၊ အိမ်ခြံဝင်းအတွင်း၌လည်းကောင်း သီးခြားအိမ်တစ်လုံးဆောက်ပြီး အိမ်ထောင်ခွဲသွားတတ်သည်။ သားသမီး မများပါက မိန်းမနှင့်တကွ မိဘများနှင့်အတူ နေလေ့ရှိသည်။ သမီးမိန်းကလေး အိမ်ထောင်ပြုလျှင် သားချင်းများပါက လင်ယောကျ်ားနောက်သို့ လိုက်သွားရသည်။ သားချင်းနည်းလျှင် လင်ယောကျ်ားက လိုက်နေရသည်။ ဤစနစ်ကို ကြည့်ခြင်းဖြင့် နှစ်ဘက်မျှတသော သဘောရှိပြီး တင်းကျပ်ခက်ခဲသော လူမှုရေးစနစ်မဟုတ်ကြောင်း တွေ့ရသည်။ အခြားရှမ်းများ၏ လူမှုရေးစနစ်သည် ရှမ်းလူမျိုးများနှင့် သိပ်ကွာခြားလှခြင်း မရှိပေ။[၁]

လူသားတိုင်းသည် မိမိတစ်ဦးတစ်ယောက်တည်း သီးခြားရပ်တည်နေထိုင်၍မရ။ ပတ်ဝန်းကျင်အသိုင်းအဝိုင်းတို့နှင့်အတူ နေထိုင်ကြရသည်။ အထူးသဖြင့် မိသားစုဆွေမျိုးများနှင့် နေထိုင်ကြရသည်။ ထို့ကြောင့် ရှမ်းလူမျိုးများ၏ မိသားစုဆွေမျိုးတော်စပ်ပုံများကို အကျဉ်းမျှ ဖော်ပြပါဦးမည်။

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၃၇-၈

## ၇း၂း၂။ မိသားစု ဆွေမျိုးတော်စပ်ပုံ[၁]

| ရှမ်း | မြန်မာ |
|---|---|
| မဲ့ | အမေ |
| ပေါ့ (အု) | အဖေ |
| လုယိင်း | သမီး |
| လုစိုင်း | သား |
| စိုင်း (ပီစိုင်း၊ ပီအိုက်) | အစ်ကို |
| နန်း (ပီနန်း၊ ပီဆောင်) | အစ်မ |
| လုခွေ | သမက် |
| လုပိုက် | ချွေးမ |
| နောင့်ခွေ | ယောက်ဖ |
| နောင့်ပိုက် | ယောက်မ |
| မဲ့ထောက် | အဘွား |
| ပေါ့ထောက် | အဘိုး |
| နိုင်း | အဘွား (အမေ၏အမေ) |
| ပူ | အဘိုး (အမေ၏အဖေ) |
| အောက် | အဘွား (အဖေ၏အမေ) |
| ချင်း | အဘိုး (အဖေ၏အဖေ) |
| လု | သားသမီး |
| လန်စိုင်း | တူ |
| လန်ယိင်း | တူမ |

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှု ဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၃၆
စိန်ခမ်းလှိုင်း၊ အတွဲ ၁၊ နှာ၊ ၆၄
Tem Moeng (Sao) Shan English Dictionary P.xvi.

| ရှမ်း | မြန်မာ |
|---|---|
| န | ဦးလေး၊ ဒေါ်လေး |
| နဆန်(အုဆန်) | ဦးလေး(အမေဘက်မှဆွေမျိုး) |
| မဲ့န | ဒေါ်လေး(အမိဘက်ဆွေမျိုး) |
| လုံး (အုလုံး၊ ပေ့ါလုံး) | ဦးကြီး |
| ပါ (မဲ့ပါ) | ကြီးတော် |
| အောဝ်(အုအောဝ်၊ ပေ့ါအောဝ်) | ဦးလေး (အဖေ၏ညီ) |
| အာ (မဲ့အာ) | ဒွေးတော် |
| ပီခွေ | ခဲအို |
| ပီလိုး | ယောက်မ(အစ်ကို၏ဇနီး) |
| လန် | မြေး |
| အိုက် (ၵၢႆ;) | ပထမသားအမည် |
| ယီ (ယီ;) | ဒုတိယသားအမည် |
| ဆမ် (သၢမ်) | တတိယသားအမည် |
| ဆိုင် (သႆ,) | စတုတ္ထသားအမည် |
| ငို့ (ငူဝ်.) | ပဉ္စမသားအမည် |
| နုတ် (ၸုဝ်.) | ဆဋ္ဌမသားအမည် |
| နူ (ၶူ) | သတ္တမသားအမည် |
| နိုင် (ၶႆ,) | အဋ္ဌမသားအမည် |
| လာ (လျ;) | နဝမသားအမည် |
| လင်း (လိုၶ်း) | ဒသမသားအမည် |
| ကွယ် (ၵႆွ) | ဧကာဒသမသားအမည် |
| ယေ့ (ယေး) | ပထမသမီးအမည် |
| အီ (ၵီ,) | ဒုတိယသမီးအမည် |

| | |
|---|---|
| | တတိယသမီးအမည် |
| အမ် (ၵၢမ်) | စတုတ္ထသမီးအမည် |
| အိုင် (ၵံႇ) | ပဉ္စမသမီးအမည် |
| အို့ (ၵူဝ်ႈ) | ဆဋ္ဌမသမီးအမည် |
| အုပ် (ၵူၵ်း) | သတ္တမသမီးအမည် |
| အစ် (ၵိတ်း) | အဋ္ဌမသမီးအမည် |
| လိတ် (လိၵ်ႉ) | နဝမသမီးအမည် |
| လာ (လႃႈ) | ဒသမသမီးအမည် |
| လင်း (လိုခ်း) | ဧကာဒသမသမီးအမည် |
| ကွယ် (ႁွံ) | |

ပေါ်၊ ချင်း၊ မွန်၊ မြန်၊ မွန့်၊ စွန့်၊ ဆင်း ♦
(ဘ၊ ဘိုး၊ ဘေး၊ ဘီ၊ ဘင်၊ ဘောင်၊ ဘော) (ဘမျိုး/ကျား)
ပေါ်၊ ပူ၊ မွန်၊ မြန်၊ မွန့်၊ စွန့်၊ ဆင်း
(ဘ၊ ဘိုး၊ ဘေး၊ ဘီ၊ ဘင်၊ ဘောင်၊ ဘော) (မိမျိုး/ကျား)
မဲ့၊ အောက်၊ မွန်၊ မြန်၊ မွန့်၊ စွန့်၊ ဆင်း
(ဘ၊ ဘိုး၊ ဘေး၊ ဘီ၊ ဘင်၊ ဘောင်၊ ဘောတို့၏ဇနီး) (ဘမျိုး/မ)
မဲ့၊ နိုင်း၊ မွန်၊ မြန်၊ မွန့်၊ စွန့်၊ ဆင်း
(ဘ၊ ဘိုး၊ ဘေး၊ ဘီ၊ ဘင်၊ ဘောင်၊ ဘောတို့၏ဇနီး) (မိမျိုး/မ)
လု၊ လန်၊ လင်၊ လွန်၊ လျှန်၊ လွန့်၊ လင်း
(သား၊ မြေး၊ မြစ်၊ တီ၊ တွတ်၊ ကျွတ်၊ ဆတ်)

---

♦။ မိုးမိတ်ရာဇဝင်တော်ကြီးတွင် "ပေါ်၊ ပူ၊ မွန်၊ မြန်၊ မွန့်၊ ယ၊ ကွန်"
''ပေႃး၊ ပူႇ၊ မွၼ်ႇ၊ မ်ၼ်ႇ၊ မိုၼ်ႉ၊ ယ၊ ၵူၼ်ႇ''ဟု ဆိုထားသည်။

## ၇ း ၃ ။ အမွေဆက်ခံခြင်း

ရိုးရာအရ သားအကြီးဆုံးသည် အဖအရိုက်အရာကို ခံရသည်။ သို့သော် သားမရှိက သမီးအကြီးက အရာခံနိုင်သည်။ အမွေခွဲဝေရာတွင် ပုံသေမရှိ။ မိဘများ သဘောအတိုင်း ဖြစ်သည်။ သားထွေး၊ သမီးထွေးကို ပိုချစ်တတ်သဖြင့် အမွေပိုပေးလေ့ရှိတတ်သည်။ တစ်ခါတစ်ရံသားကြီးမှာ အိမ်ထောင်စုတာဝန် ထမ်းဆောင်ရသူဖြစ်၍ သားကြီးအား အမွေပိုပေးလေ့ရှိပြန်သည်။ မိဘများက ခွဲဝေမပေးသောအခါ အမွေလုယက်မှုမှာ မရှိသလောက် နည်းပါးသည်။ ကျန်ရစ်သော သားသမီးများ ကျေနပ်စွာ ခွဲဝေယူလေ့ရှိသည်။ မကျေနပ်သည့်အခါ ဆွေမျိုးညာတိထဲမှ အကြီးအကဲများ၊ ရပ်ရွာလူကြီးလူကောင်းများ၏ ဖျန်ဖြေမှုကို နာခံကြသည် ဆက်ခံသောအမွေမှာ မြေယာ၊ အိမ်၊ ခြံစသော မရွှေ့ပြောင်းနိုင်သော ပစ္စည်းများမှ ကျွဲ၊ နွား၊ တိရစ္ဆာန်နှင့် အိုးခွက်၊ အဝတ်အစား၊ ရွှေငွေစသော ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများအထိဖြစ်သည်။ မြေယာနှင့်အိမ်ကို ခွဲခြမ်းယူလေ့မရှိပဲ အားလုံးပိုင်အဖြစ်ထားပြီး အတူနေထိုင် လုပ်ကိုင်စားသောက်နေတတ်ကြသည်။ အမှုကြီးတစ်ခုအနေနှင့် ဖြစ်လာခဲ့သော် ဗုဒ္ဓသာသာ ဓမ္မသတ်နည်းအရ ဆုံးဖြတ်လေ့ရှိသည်။[၁]

## ၇ း ၄ ။ ကိုယ်ဝန်ဆောင်ခြင်းနှင့် မီးနေခြင်း

ရှမ်းအမျိုးသမီးများ ကိုယ်ဝန်ဆောင်မှုနှင့် မီးနေမှုတွင် မြန်မာနှင့်တူသော ဓလေ့ထုံးစံများကို တွေ့ရှိရသည်။ ကိုယ်ဝန်ဆောင်မိန်းမသည် ခေါ်ပုပ်များ၊ ထမင်းချိုးများမစားရ၊ မီးကိုကြောခိုင်းမလှုံရ။ နေဝင်မိုးချုပ် ရေမချိုးရ။ နေဝင်မိုးချုပ် အပြင်ထွက်လျှင် မကောင်းဆိုးဝါး မကပ်ရန်

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၅၈-၁၆၁

ခေါင်းတွင် အပ်စိုက်ရသည်။ မီးနေသောအခါ ခေါင်းမကိုက်စေရန် ခေါင်းကို တစ်လ၊ နှစ်လအထိအဝတ်နှင့် ပေါင်းထုပ်ထားရသည်။ အလေးအပင်မခြင်းကို ရှောင်ကြဉ်ခြင်း၊ ချေးငှားမှု ရှောင်ကြဉ်ခြင်းတို့ကို ပြုကြသည်။ မီးဖွားသည့်အခါ မီးနေခန်းသို့ ယောကျ်ားများမဝင်ရ၊ ဘုန်းသမ္ဘာနိမ့်သည်ဟု ယူဆကြသည်။ အိမ်တွင် နားလည်သူ မိန်းမကြီးများရှိလျှင်ယင်းတို့က မွေးပေးသည်။ မရှိလျှင် လက်သည်ခေါ်မွေးသည်။[၁]

လက်သည်ကို အဖိုးအခမပေးရဘဲလက်ဆေးခဟု အဝတ်အစား၊ ငွေကြေး၊ ဆန်၊ ဆားစသည်တို့နှင့် ကန်တော့သည့် အလေ့အထရှိသည်။ မွေးဖွားပြီးနောက် မီးလှုံခြင်း၊ နနွင်းလိမ်းခြင်း၊ မိတ်သလင်ရည်၊ ချင်းရေသောက်ခြင်းစသော ပူစပ်သော မီးတွင်းဆေးများကိုစားရသည်။ ၄၅ ရက်ကြာမျှ မီးတွင်းနေလေ့ရှိသည်။ သို့သော် ဆင်းရဲနွမ်းပါးလုပ်စားကိုင်စားများအဖို့ ရက်အနည်းငယ်နေပြီး မီးထွက်၍ အလုပ်ခွင်သို့ဝင်ကြသည်။[၂]

၇ း ၅ ။ ကင်းပွန်းတပ်ခြင်း

များသောအားဖြင့် ဘုန်းကြီးများကို ပင့်ဖိတ်ဆွမ်းကျွေးပြီး နေ့နံသင့်သောအမည်ကို ကလေးအားပေးသည်။ လူများကိုလည်း ဖိတ်ကြားကျွေးမွေးသည်။ ဧည့်သည်များက ကလေးအတွက် ဆုတောင်းပြီး လက်ဖွဲ့သည့်အနေနှင့် ကင်းပွန်းရည်ထည့်ထားသော ဖလားတွင် ပိုက်ဆံအကြွေထည့်ပြီး ကင်းပွန်းရည်ကို ကလေးအား အနည်းငယ် ဆွတ်ပေးကြသည်။ ထိုပိုက်ဆံအကြွေအချို့ကို ဘုရား၊ ဘုန်းကြီးများသို့လှူ၍ အချို့ကို ဖောက်ကာ ကလေး၏ လည်ပင်း၊ လက်နှင့်ခြေများတွင် ဆွဲပေးသည်။ ငွေကြေးမတတ်နိုင်သူများမှာ သက်ကြီးဝါကြီးများအား အမည်ပေးခိုင်းကာမျှနှင့်

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၆၈။
၂။ ၎င်းစာ၊ နှာ၊ ၁၆၈-၁၆၉။

ကင်ပွန်းတပ်ပြီးဖြစ်သည်။ ရှမ်းအမျိုးသားတို့သည် ဘာသာရေးအရ ရှင်ပြုနိုင်သော ယောကျာ်းလေးကို လိုလားကြသည်။ သို့သော် အဆင့်အတန်းခွဲခြားသည့် သဘောမျိုး မဟုတ်ချေ။[၁]

ဂုံ (ခွဲ)ရှမ်းတို့ကမူ မွေးလာသော ကလေးမှာ ယောကျာ်းလေးဖြစ်လျှင် အသက်တစ်လမပြည့်မီကပင် ကင်ပွန်းတပ်ရသည်။ မိန်းကလေးဖြစ်ပါက တစ်လကျော်မှ ကင်ပွန်းတပ်ရသည်။ ကင်ပွန်းတပ်ရာတွင် ထမင်းနှစ်ဆုပ်၊ ကြက်ဥပြုတ်နှစ်လုံး၊ ငှက်ပျောသီးနှစ်လုံး၊ ကွမ်းအစ်နှစ်လုံး၊ ဖယောင်းတိုင်လေးတိုင်၊ ဆန်တစ်ပန်းကန်၊ စပါးတစ်ပန်းကန်နှင့် ပရိတ်ကြိုးတို့ ပါဝင်သည်။ ထို့ပြင် ယောကျာ်းလေးအတွက် စာအုပ်၊ စလွယ်၊ သေနတ်၊ လက်နက်စသော ယောကျာ်းနှင့်ဆိုင်သော ပစ္စည်းများ ပါဝင်ရပြီး မိန်းကလေးတွင်မူ အပ်၊ အပ်ချည်၊ ထမင်းအိုး၊ ဟင်းအိုးစသော မိန်းမနှင့်ဆိုင်သော ပစ္စည်းများ ပါဝင်ရသည်။ ကင်ပွန်းရည်နှင့် အမွှေးနံ့သာများကို ရောပြီးကလေးအား ပက်ဖျန်းပေးရသည်။ ပရိတ်ကြိုးကို လက်တွင်ပတ်ချည်ပေးရသည်။ ရွှေ၊ ငွေ၊ လက်ဝတ်လက်စားများကိုလည်း တတ်နိုင်သလောက် ဝတ်ဆင်ပေးသည်။ လက်ဆောင်ပစ္စည်းအနေနှင့် ငွေကြေးကို လက်ဖွဲ့ကြသည်။ ကလေးအမည်ကိုလည်း နေ့သင့်နံသင့် ပေးလေ့ရှိသည်။[၂]

ယွန်းရှမ်းတို့ကမူ ယောကျာ်းကလေးကို အသက်တစ်လပြည့်ရန် တစ်ရက်အလိုတွင် ကင်ပွန်းတပ် အမည်ပေးသည်။ မိန်းကလေးကို တစ်လနှင့်တစ်ရက်အကြာမှ ကင်ပွန်းတပ်အမည်ပေးသည်။ မွေးရာပါဆံပင်ကို သုံးလကြာမှ ရိတ်ပေးသည်။ အမည်များကို ဗေဒင်ဆရာ (သို့မဟုတ်) စာဟောဆရာတို့က နေ့သင့်နံသင့် အမည်သော်လည်းကောင်း၊ အမည်

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၇၆-၁၇၇

၂။ ၎င်းစာ၊ နှာ၊ ၁၇၇

ကြားရုံနှင့် အကြီးအငယ် အရွယ်ခွဲနိုင်သော အမည်များကိုလည်းကောင်း မှည့်ခေါ်လေ့ရှိသည်။[၁]

ပုံစံအားဖြင့်- အိုက်ကျောက် = ပထမသား
အိုက်ခမ်း = ဒုတိယသား
အိုက်ကောက် = တတိယသား

၇း၆ ။ ပညာသင်ကြားခြင်း

ရှမ်းကလေးသူငယ်များမှာ ကျား,မ မခွဲဘဲ အတူနေ အတူကြီး ပြင်းကြသည်။ ကလေးထိန်းငှားထားရန် မလိုပေ။ ရှေးအစဉ်အလာအရ ကလေးများသည် ကြီးစဉ်ငယ်လိုက် အချင်းချင်းထိန်းကျောင်းသွားကြ သဖြင့် မိဘများအတွက် များစွာအကူအညီရသည်။ မိန်းကလေးများသည် မိခင်အား အိမ်တွင်းမှုကိစ္စလုပ်ကိုင်ရာတွင် ကူညီပြီး ယောကျ်ားလေး များက ဖခင်နှင့်အတူ တောင်ယာသို့ လိုက်ပါကြသည်။ ထုပ်ဆီးတိုးခြင်း၊ အိုးပုတ်များ၊ မြေနှင့်လုပ်သော အရုပ်များကို မိန်းကလေးများက ကစားကြ ပြီး ခွေလှိမ့်ခြင်း၊ ဒိုးပစ်ခြင်း၊ လေးဂွများနှင့် ငှက်ပစ်ခြင်းများကို ယောကျ်ား လေးများက ကစားကြသည်။[၂]

ကလေးများ လိမ္မာရေးခြားရှိရေးအတွက် အိမ်ထောင်စုတွင်ရှိ သော အဘိုး၊ အဘွား၊ ကြီးတော်၊ ဦးလေးစသည်တို့က ဆုံးမပေးသည်။ ယောကျ်ားလေးများကို ဘုန်းကြီးကျောင်းများတွင် အပ်နှံထားကြသဖြင့် ဘုန်းကြီးများက သွန်သင်ပေးလေ့ရှိသည်။ ပညာသင်ကြားရေးတွင် ယောကျ်ားလေး၊ မိန်းကလေးခွဲခြားမှု မရှိ။ ရွာရှိဘုန်းကြီးကျောင်းသို့ သွား ရောက်စာသင်ကြသည်။ အချို့မှာ အရွယ်ရောက်မှ လူထွက်လာကြသည်။

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၅၈-၁၆၂
၂။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၈၃။

အချို့မှာ ရဟန်းဘောင်တွင် မွေ့လျော်သဖြင့် ရာသက်ပန် ဘုန်းကြီးဝတ်ရင်း ဓမ္မစာပေတွင် အကျော်အမော်များ ဖြစ်သွားကြလေသည်။ ယခုခေတ်တွင် အစိုးရက စာသင်ကျောင်းများကို နေရာအနှံ့အပြားတွင် ဖွင့်လှစ်ခဲ့ကြသဖြင့် ယင်းစာသင်ကျောင်းများတွင် စာသင်နေကြသည်။ တောလက်ကျေးရွာများတွင် ယောကျ်ားလေးများမှာ အသက်ငါးနှစ်ခြောက်နှစ်မှစပြီး ဘုန်းကြီးကျောင်းသို့ ရောက်ကြရသည်။ ကျောင်းထွက်လျှင် မိဘလက်ငုတ်လက်ရင်းဖြစ်သော တောင်ယာကို ဝင်ရောက်လုပ်ကိုင်ကြသည်။ ရှမ်းအမျိုးသားများတို့သည် ပညာရေးကို များစွာလိုလားကြ၍ ယခုအချိန်၌ ရွာတိုင်းတွင် အနည်းဆုံး မူလတန်းကျောင်းတစ်ကျောင်းမျှပင် ရှိနေပြီဖြစ်သည်။ ရှမ်းပြည်နယ်တွင် ဘုန်းကြီးကျောင်းများသည်လည်း ကလေးသူငယ်တို့၏ မူလတန်းပညာရေးအတွက် အရေးပါသော အခန်းမှ ပါဝင်လေသည်။[၁]

ဂုံ(ခွဲ) အမျိုးသားတို့သည် ယခင်က ယောကျ်ားလေးများကိုသာ ဦးစားပေးပြီး စာပေသင်ကြားခဲ့ကြသော်လည်း ယခုအခါတွင် ကျား၊မ ခွဲခြားမှု မရှိဘဲ ပညာသင်ကြားပေးကြသည်။ ခွဲစာပေသည် ရှေးကျသော ရှမ်းကာပေများဖြစ်သည်။ ခွဲကျောက်စာ၊ ပေစာများလည်းရှိသည်။ ခွဲအမျိုးသားတို့သည် ပညာရေးကို ဘာသာရေးအရလည်းကောင်း၊ လူမှုရေးအရလည်းကောင်း၊ ယဉ်ကျေးမှုအရသော်လည်းကောင်း၊ တန်ဖိုးထားမြတ်နိုးကြသည်။ အထူးသဖြင့် ယောကျ်ားလေးများအဖို့ ပညာရေးသည် မသင်မနေရသော အတတ်တစ်ခုအဖြစ် သဘောထားကြသည်။ ယွန်းစာပေသည် စာကြီးပေကြီးများရှိပြီး ဝတ္ထု၊ ကဗျာ၊ လင်္ကာ၊ ဓမ္မသတ်မှအစ ဘာသာရေးဆိုင်ရာ စာပေများရှိသည်။[၂]

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၈၃-၁၈၄

၂။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၈၄-၁၈၅

## ၇း၇ ။ ရှင်ပြုပွဲအခမ်းအနားများ

ရှမ်းအမျိုးသားတို့သည် သားရှင်ပြုအခမ်းအနားကို ငွေကြေးတတ်နိုင်လျှင် တတ်နိုင်သလောက် အကုန်အကျခံကာ ကြီးကျယ်ခမ်းနားစွာ ကျင်းပကြသည်။ ရှမ်းအမျိုးသားတို့သည်

(၁) ရှင်ပြုပွဲ၊

(၂) ဘုရားရုပ်ပွားတော်လှူဒါန်းပွဲ၊

(၃) ဓမ္မကျမ်းစာပုရပိုက် လှူဒါန်းပွဲများကို တတ်နိုင်သူများက တစ်ဦးချင်း အနေနှင့်သော်လည်းကောင်း၊ (သို့မဟုတ်) ရပ်ရွာအလိုက် စုပေါင်း၍လည်းကောင်း ကျင်းပလေ့ရှိသည်။ ထိုပွဲသုံးခုကို တစ်နေရာတည်း၊ တစ်ချိန်တည်း ပူးပေါင်းကျင်းပလေ့ရှိသည်။ ယင်းပွဲ ကျင်းပသည့်အခါ အလှူတကာတို့က ကျောင်းကန်ဘုရားအနီး သာယာပြန့်ပြူးသောနေရာတွင် ယာယီအလှူမဏ္ဍပ်ဆောက်လုပ်ကျင်းပသည်။ မဏ္ဍပ်အလယ်နေရာတွင် လှူဖွယ်ပစ္စည်းများနှင့် ဘုရားရုပ်ပွားတော်တို့ကို လှပစွာပြင်ဆင်ထားသည်။ ဘုရားစင်တစ်ဘက်တစ်ချက်တွင် တစ်တောင်ခန့်အမြင့်ရှိစင်သိုးပြီး ရာဇမတ်ကာ၊ လှေကားတပ်၍ ငှက်ပျောပင်၊ ကြံပင်များဖြင့်ဆင်ယင်ထားပြီး သက်ငယ်ကောက်ရိုးများ ကာရံထားသည်။ ဝင်ပေါက်များတွင် ရေအိုးစင်များ ဆောက်ထားသည်။[၁]

အလှူပွဲနေ့ရက် မတိုင်မီ ကြိုတင်၍ နီးစပ်ရာ ပတ်ဝန်းကျင်ရှိ ဆွေမျိုးမိတ်သင်္ဂဟများအား အလှူပွဲသို့ ကြွလာရန် လူလွှတ်၍ ဖိတ်ကြားလေ့ရှိသည်။ ဖိတ်ကြားခြင်းကို စကားပြောဆိုရာတွင် လိမ္မာယဉ်ကျေးသူများက ဆောင်ရွက်ရ၍ ဖိတ်ကြားသည့်အခါ ကြက်လျှာနှင့် ပူးတွဲချည်နှောင်ထားသော မုံ့ထုပ်(သို့မဟုတ်) လက်ဖက်ခြောက်ထုပ်နှင့် ဖိတ်လေ့ဖိတ်ထရှိသည်။[၂]

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၂၃၈-၂၃၉
၂။ ၎င်းစာ၊ နှာ၊ ၁၈၉၊ ၂၃၈-၂၄၁။

အလှူနေ့တွင် ရှင်လောင်းများနှင့်တကွ အလှူပစ္စည်းများကို ပွဲခင်းမဏ္ဍပ်သို့ အိုးစည်ဗုံမောင်းများ တီးမှုတ်လျက် ဝေါဖြင့်တင်ဆောင်လာကြသည်။ ရှမ်းအမျိုးသားတို့၏ ဓလေ့ထုံးစံအရ ရှင်ပြုလိုသည့် သားရှင်မိဘများသည် သားအတွက် ရှင်အဖနှင့် ရှင်အမိရှာပြီး သားအား ရှင်ပြုပေးပါရန် အပ်နှံကြရသည်။ (ရှင်လောင်းကို ပြုစုရန်အတွက် ရှင်လောင်းလူပျိုရဲ'ပေါ် လိန်မောဝ်-ပျေ့လိင်-မဝ်'၊ အပျိုရဲ 'မြေလိန်ဆောဝ် ဓမ့လိင်-သဝ်' ကိုလည်း ရှာ၍အပ်နှံကြရသည်။) ရှင်အဖ ရှင်အမိနှင့် ရှင်လူပျိုရဲ ရှင်အပျိုရဲတို့သည် ရှင်လောင်းအား အဝတ်အစား ဆင်ယင်ပေးခြင်း၊ အလှပြင်ပေးခြင်း၊ ဘေးမှစောင့်ရှောက်ပေးခြင်းစသော တာဝန်များကို ယူရသည်။ ရှင်ပြုအဖနှင့် အမိတို့သည် အလှူမှ ဆုများခံပြီး ရရှိသောငွေများကို ရွာအတွက် လိုအပ်သော ပစ္စည်းများဝယ်ထားရန် ပြန်၍လှူခဲ့ကြသည်။ ရှင်ပြုပေးသော ရှင့်ဖ ရှင့်မိများအား ရှင်လောင်းက မိဘအရင်းကဲ့သို့ ချစ်ခင်လေးစားသည်။[၁]

ငွေကြေးတတ်နိုင်သည့် အခြေအနေကိုလိုက်ပြီး အလှူပွဲကို သုံးရက်၊ ငါးရက်၊ ခုနစ်ရက်စသည်ဖြင့် ကျင်းပလေ့ရှိသည်။ ရပ်ဝေးမှ ရောက်လာသော ဧည့်ပရိသတ်တို့ တည်းခိုစားသောက်ရေးအားလုံးကို အလှူရှင်များက တာဝန်ယူရသည်။ အလှူရေစက်ချမည့်နေ့တွင် မဏ္ဍပ်သို့ ဘုန်းကြီးများအား ပင့်၍ ရှင်လောင်းများကို သာမဏေအဖြစ် သင်္ကန်းဝတ်ပေးပြီး လှူဖွယ်ရာများကို ရေစက်ချလှူခြင်းဖြင့် အလှူအခမ်းအနားပြီးမြောက်သည်။ ပွဲပြီးသောညသို့ အလှူပွဲတွင် အချက်အပြုတ်မှစပြီး ပါဝင်ကူညီပေးသူများက အိုးစည်ဗုံမောင်းဖြင့် အလှူရှင်များအတွက် ဆုတောင်းပွဲလုပ်ကြကာ အလှူရှင်များကလည်း အကျွေးအမွေးနှင့် ဆုငွေ

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း) နှာ၊ ၂၃၉-၂၄၀။

များပေးသည်။ မိန်းကလေးများ၏ နားသမင်္ဂလာမှာ ရှင်ပြုအခမ်းအနား လောက် ကြီးကျယ်ခန်းနားစွာ ကျင်းပလေ့မရှိ။[၁]

## ၇း၈။ အိမ်တက် မင်္ဂလာပွဲ

ဤပွဲမှာ အိမ်သစ်တက်သော မင်္ဂလာပွဲသော်လည်းကောင်း၊ အိမ်ကို ပြန်လည်မင်္ဂလာပြုသည့် ပွဲသော်လည်းကောင်းဖြစ်သည်။ နီးစပ်ရာ မိတ်ဆွေများကို ဖိတ်ကြားပြီး မိမိတို့ ရွေးချယ်ထားသည့်နေ့ရက်တွင် ပြုလုပ်သည်။ ညပိုင်းတွင် ဓမ္မတရားဖတ်ကြားဟောပြောသည်။ အကျွေးအမွေးများနှင့် ဧည့်ခံပြီး နောက်တစ်နေ့ နံနက်တွင် သံဃာတော်များအား ပင့်ဆောင်၍ ဆွမ်းကပ်လျက် သီလခံယူသည်။ ပရိတ်တရားတော် ရွတ်ဖတ်ခြင်းပြုပြီးနောက် လှူဖွယ်ဝတ္ထုများ ဆက်ကပ်လှူဒါန်းသည်။ ယင်းမင်္ဂလာပွဲမှာ ဘေးရန်ကင်းပြီး ကျန်းမာချမ်းသာစေရန် ရည်ရွယ်သည်။[၂]

## ၇း၉။ လူပျိုအပျိုဘဝ

ရှမ်းအမျိုးသားတို့၏ ချစ်ရေးဆိုကြပုံမှာ ညဖက်တွင် ယောကျ်ားလေးများက အပျိုများရှိရာအိမ်သို့ သွား၍ စကားပြောကြသည်။ မိန်းခလေး မိဘများက ခွင့်ပြုကြသည်။ တစ်ခါတစ်ရံလူပျို၏ အကျင့်စာရိတ္တကို မကြိုက်ပါက လူပျိုပြန်သွားသောအခါ မိဘများက နောင်တွင် ထိုလူပျိုအား လက်ခံစကားမပြောရန် သမီးဖြစ်သူအား ဆုံးမလေ့ရှိသည်။ အချို့လူပျိုများမှာ သုံးလေးယောက်စုပေါင်းပြီး တူရိယာပစ္စည်းတစ်ခုခုကို တီးမှုတ်၍ အပျိုအိမ်အောက်မှသော်လည်းကောင်း၊ မလှမ်းမကမ်းမှသော်လည်းကောင်း၊ အိမ်ပေါ်တက်လာပြီး မီးဖိုတွင်ထိုင်၍သော်လည်းကောင်း

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၂၄၁

၂။ ၎င်းစာ။

သီဆိုတီးမှုတ်ပြီး ချစ်ရေးဆိုတတ်သည်။ ချစ်ရေးဆိုရန် လာသူများအား အပျိုက ကွမ်း၊ ဆေး၊ လက်ဖက်ရည်နှင့် ဧည့်ခံရသည်။ လူပျိုများကလည်း ယင်းတို့ ယူဆောင်လာသော ကွမ်း၊ ဆေးစသည်တို့ကို အပျိုအား ကျွေးမွေးဧည့်ခံသည်။ အပျို၏ လက်ခံစားသုံးခြင်း ခံရသော ကွမ်း၊ ဆေး၊ လက်ဖက်ပိုင်ရှင်လူပျိုမှာ အပျိုသဘောကျသူဖြစ်သောကြောင့် ကျန်သောလူပျိုတို့က အလိုက်သိစွာ ရှောင်ရှား၍ နောက်ထပ်လာရောက်လည်ပတ်ခြင်း မပြုကြတော့ချေ။[၁]

ချစ်ရေးဆိုသီချင်းများမှာ ကြိုတင်စပ်ဆိုထားခြင်း မဟုတ်ဘဲ တခဏပွတ္တိဉာဏ်ဖြင့် လက်သန်းသီဆိုတီးမှုတ် ကြခြင်းဖြစ်သည်။ သီဆိုရာတွင် သုံးကြိုးတပ်စောင်းနှင့် ပလွေတို့ကို အသုံးပြုကြသည်။ တောရွာများတွင် အသက် ၁၄ နှစ်၊ ၁၅ နှစ်တွင် လက်ထပ်လေ့ရှိကြပြီး မြို့နီးနားပတ်ဝန်းကျင်၌ အသက် ၂၀ ခန့်မှ လက်ထပ်ကြသည်။ လူငယ်ချင်းချစ်ကြိုက်၍ လက်ထပ်ကြသည်လည်းရှိသည်။ လူကြီးချင်း စေ့စပ်၍ လက်ထပ်ကြသည်လည်း ရှိသည်။ လူကြီးချင်းစေ့စပ်ပါက လက်ဆောင်တစ်ခုခုကို ပေးထားရသည်။ ဖျက်ကွက်သူက ဖျက်ကွက်မှုအတွက် လက်ဆောင်တန်ဖိုး နှစ်ဆလျော်ရသည်။ လူငယ်ချင်း ကြိုက်သည်ကို လူကြီးမိဘများက သဘောမတူလျှင် ခိုးပြေးကြသည်လည်း ရှိသည်။[၂]

### ၇ း ၁၀ ။ မင်္ဂလာ လက်ထပ်ပွဲ

ရှမ်းအမျိုးသား အမျိုးသမီးတို့ မင်္ဂလာဆောင်ပွဲများမှာ ဒေသအလိုက် အနည်းနှင့်အများ ကွဲပြားကြသည်။ မိဘများက တောင်းရမ်းပေးရာတွင် ဦးစွာပထမလူပျိုတို့၏ မိဘများသည် အပျို၏မိဘများထံ

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၁၉၅-၁၉၆။
၂။ ၎င်းစာ၊ နှာ၊ ၁၉၆။

သို့ သွား၍ပြောရသည်။ အပျို၏မိဘများက လေးငါးရက်အချိန်ယူပြီး ဆွေမျိုးများနှင့် တိုင်ပင်ရသည်။ သမီး၏ သဘောကို မေးရသည်။ သမီးက သဘောတူပါက လူပျိုဘက်သို့ အကြောင်းပြန်ကြားရသည်။ လူပျို၏ မိဘများက လူကြီးများနှင့် နေ့ကောင်းရက်သာရွေးပြီး အပျို၏ မိဘများထံ သမီးတောင်းရန် လာကြသည်။ အပျိုဘက်မှလူငယ်များက လူပျိုကို ခြံတံခါးဝ၌တစ်ကြိမ်၊ အိမ်တံခါးဝ၌တစ်ကြိမ် ကြိုးတားထားကြသည်။ ငွေကြေးပေးမှ ဖွင့်ပေးကြသည်။ အိမ်ပေါ်သို့ရောက်သည့်အခါ အပျိုဘက်က လူကြီးနှစ်ဦးကို လူပျိုဘက်မှလူကြီးများက သွား၍နှုတ်ဆက်ရသည်။အပျိုဘက်မှ လူကြီးများက လာရင်းကိစ္စကို မသိချင်ယောင်ဆောင်ပြီး မေးရသည်။လူပျိုဘက်မှ သမီးလာတောင်းသည့်အကြောင်း ပြောပြရသည်။[၁]

ဤသို့ တစ်ဘက်နှင့်တစ်ဘက် အပြန်အလှန် ပြောဆိုကြသည်။ ထိုသို့ပြောဆိုနေစဉ် လူပျိုဘက်က လင်ပန်းတစ်ခုတွင် လက်ဘက်နှစ်ထုပ်၊ ကွမ်းနှစ်ထုပ်၊ ငှက်ပျောနှစ်ဖီး၊ အနည်းဆုံးငွေငါးမတ်နှင့် ကြက်ဥပြုတ်နှစ်လုံးထည့်၍ အိမ်ထောင်စုံ အမျိုးသမီးထံ ပို့ထားရသည်။ အကယ်၍ စကားပြောမပြီးမီ ထိုလင်ပန်းကို အောက်ချထားမိပါက အပျိုဘက်က ယူစားပစ်နိုင်သည်။ စကားပြောပြီးလျှင် နားလည်သူ တစ်ဦးက ရွတ်ပေးဖတ်ပေးရသည်။ ထို့နောက် ကြက်ဥနှစ်လုံးမှတစ်ပါး လင်ပန်းတွင်းရှိ အစားအစာတစ်ဝက်ကို ဆွေမျိုးနှစ်ဘက်အား ကျွေးမွေးပြီး ကျန်တစ်ဝက်ကို အိမ်အပြင်တွင် နတ်ပသ၍ ဆုတောင်းခြင်းပြုကြသည်။[၂]

ထို့နောက် လူပျိုဘက်မှ ဧည့်သည်များကို အပျိုဘက်က ထမင်းကျွေး ပြုစုရသည်။ အပျိုနှင့်လူပျိုအတွက်မူ ထမင်းပွဲတစ်ခု သီးသန့်ပြင်ပေးရသည်။ လူပျိုနှင့်အပျို ထမင်းစားနေစဉ် အနားတွင် ကလေးများက

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ ၂၀၄-၂၀၅။
၂။ ရင်းစာ၊ နှာ ၂၀၆-၂၀၇။

သားသမီးများသဖွယ် ကြက်ဥနှစ်လုံးကိုခွဲပြီး "ဖေဖေ မေမေ"ဟုခေါ်ကာ သတိုးသားနှင့်သတို့သမီးတို့အား ခွံ့ကျွေးရသည်။ ချည်ခုနစ်ပင်ပါသည့် ချည်မန်းကွင်းဖြင့် သတိုးသား သတို့သမီးတို့အား စွပ်ပေးရသည်။ လူဖို့နှင့်အဖို့ တစ်ပြန်စီ ထမင်းခွဲသည့် ဓလေ့လည်းရှိသည်။ သတိုးသားက သတို့သမီးမိဘအား သမီးမွေးပေးသည့်အတွက် ငွေငါးကျပ်ကို နို့ဖိုးအဖြစ် ကန်တော့ရသည်။ ထို့အပြင် အဖျိုဘက်က ဆွေမျိုးများအတွက် တစ်အိုးစားလျှင် တစ်ကျပ်၊ နှစ်အိုးစားလျှင် နှစ်ကျပ်စသည်ဖြင့် ငွေကြေးပေးရသေးသည်။ ထိုသို့ပြုလုပ်ခြင်းမှာ နောင်တစ်နေ့ လင်မယား သဘောကွဲလွဲပါက ဆွေမျိုးများကို သက်သေထူပြီး သတိုးသား၊ သတို့သမီးတို့အား ဆုံးမရန်ဖြစ်သည်။[၁]

အချို့ဒေသများတွင် လက်ထပ်ပွဲလုပ်လျှင် ငှက်ပျောပွဲကိုပြင်၍ ငါးချဉ်ထုပ်များကို အုပ်ထဲတွင် ထည့်ထားသည်။ ရွာထဲက အသက်ကြီးရင့်သူတို့က ထိုအထုပ်များကိုဖြေပြီး ဧည့်သည်များကို ကျွေးမွေးသည်။ ရွှေ ငွေ ထည့်ထားသည့်ရေကို လက်ထပ်ပေးသူ လူကြီးက သတို့သမီးကို တိုက်သည်။ သတို့သမီးကတစ်ဆင့် သတိုးသားအား တိုက်သည်။ လက်ဖွဲ့သောအလေ့ရှိသည်။ သတို့သမီးအရံ သတိုးသားအရံနှင့် လက်ထပ်ပေးသူတို့သည် မိဘစုံလင်စွာရှိပြီး ငယ်လင်၊ ငယ်မယား အိမ်ထောင်စုံများ ဖြစ်ရသည်။ လူဖျို၏မိဘများက အဖျို၏ မိဘများထံ သမီးတောင်းရာတွင် တင်တောင်းသော ပစ္စည်းမှာ ရွှေ ငွေ၊ အဝတ်အစားများသာဖြစ်သည်။ အိမ်နှင့်မြေယာများကို တင်မတောင်းကြပေ။ လက်ထပ်ပွဲ ကုန်ကျငွေကို ယောကျာ်းလေးဘက်က အကုန်ခံရသည်။[၂]

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၂၀၆။
၂။ ၎င်းစာ၊ နှာ၊ ၂၀၆-၂၀၇။

ရှမ်းပြည်နယ်မြောက်ပိုင်း အချို့ဒေသများတွင် မိန်းကလေးအား သွားရောက်တောင်းယူရာတွင် ရေအပြည့်ပါသော ရေတကောင်းတစ်ခု၊ နှစ်တောင်ပတ်လည်ရှိသော ဖျာချောတစ်ချပ်၊ ကွမ်းဆေးအစုံထည့်ထားသော ကွမ်းအစ်တစ်လုံး၊ ဆေးလိပ်ထည့်ထားသော ဆေးလိပ်ခွက် တစ်ခွက်နှင့် သွားတောင်းရသည်။ ရှမ်းပြည်နယ်တောင်ပိုင်း အချို့ဒေသများတွင် လက်ဖက်စိုတစ်ပိဿာ၊ ဆားတစ်ပိဿာ၊ ကြံသကာတစ်ပိဿာ၊ ဆင်အန်ငှက်ပျောဖီး တစ်ဖီးနှင့် မိန်းကလေးမိဘ (သို့မဟုတ်) အုပ်ထိန်းသူထံ လာရောက်ကန်တော့ပြီး မိန်းကလေးဝတ်ဆင်ရန် ရွှေတိုငွေစ အဆင်တန်ဆာများကိုပါ ယူဆောင်သွားရသည်။[၁]

တောင်းရမ်းရာတွင် ကွမ်းတော့တော်(ခေါ်)တစ်ဘက်နှင့် တစ်ဘက် အချီအချ စကားပြောဆိုကြရာတွင် ကြားဝင်ပြောရမည့် စကားပြော လိမ္မာကျွမ်းကျင်သူ၊ အာဝဇ္ဇန်းရှိပြီး လူရေးလူရာသိနားလည်သူ (အများအားဖြင့် လူပျိုခေါင်း) တစ်ယောက်ယောက်ကို ငှားရမ်းခေါ်ဆောင်ကာ သွားတောင်းလေ့ရှိသည်။ မင်္ဂလာပွဲကိုလည်း သတိုးသမီးအိမ်တွင်သာ ပြုလုပ်လေ့ရှိသည်။ ရှေးရှမ်းပုံပြင်မှ ခွန်ဆမ်လောနှင့် နန်းအိုးပြိမ်တို့ကို အစွဲပြုပြီး သတိုးသား၊ သတို့သမီး အိမ်သို့အလာလမ်းတွင် ရွှေကြိုး၊ ငွေကြိုးတားကြသည်။ လက်ထပ်ပြီး ခုနစ်ရက်အတွင်း ခရီးထွက်လေ့မရှိကြပေ။ ယောက္ခမအိမ်တွင် အနည်းဆုံး တစ်နှစ်နေပြီးမှ အိမ်ထောင်ခွဲလိုက ခွဲနေကြလေ့ရှိသည်။[၂] (ခွန်ဆမ်လော၏ တတိယသားအမည်နှင့် နန်းအိုးပြိန် ပဥ္စမသမီးအမည်ကို အစွဲပြု၍ တတိယသားနှင့် ပဥ္စမသမီးတို့ လက်ထပ်ခြင်းကို ရှောင်ကြဉ်ကြသည်။ စောစီးစွာ သေကွဲကွဲတတ်သည် ဟု ယူဆသည်။)

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၂၀၅။
၂။ ၎င်းစာ၊ နှာ၊ ၂၀၇။

ဂုံ (ခွဲ) ရှမ်းအမျိုးသားတို့ လက်ထပ်ရာတွင် ရှမ်းအမျိုးသားတို့ ဓလေ့ထုံးစံနှင့် တူသည်။ ထူးခြားချက်မှာ သတို့သမီးအတွက် ခန်းဝင်ပစ္စည်း တင်တောင်းခြင်းမရှိ။ လက်ထပ်ရာတွင် ရွှေကြိုးငွေကြိုး တားလေ့ရှိသည်။ ထို့ပြင် ထမင်းဆုပ်၊ ငှက်ပျောသီး၊ ဖယောင်းတိုင်များ ပါဝင်ရသည်၊ သတို့သမီးနှင့်သတို့သားတို့ အတူယှဉ်တွဲထိုင်ကြပြီး လူကြီးတစ်ဦးက မင်္ဂလာအခမ်းအနားကို ဆောင်ရွက်ပေးရသည်။ ထို့နောက်မှ လူကြီးမိဘများကို ကန်တော့ရသည်၊ လက်ထပ်ပြီးနောက် ဆွေမျိုးနည်းသောဘက်သို့ လိုက်နေရသည်။ လူးအမျိုးသားများ လက်ထပ်ရာတွင် ဂုံအမျိုးသားများနှင့်တူသည်။[၁]

ယွန်းအမျိုးသားလက်ထပ်ပွဲတွင် ရပ်ရွာရှိ လူကြီးများနှင့် ဆွေမျိုးညှိပရိတ်သတ်အား ကျွေးမွေးညှိခံလေ့ရှိသည်၊ လက်ထပ်သောအခါ သတို့သားနှင့်သတို့သမီးတို့၏ လက်တို့ကို ချည်ဖြူကြိုးနှင့် ချည်နှောင်ရသည်။ ကြိုးချည်ပေးသူနှစ်ဦးက သတို့သားသတို့သမီးများအတွက် ဆုမွန်ကောင်းတောင်းပေး၍ လက်ဆောင်ပစ္စည်းများဖြင့် လက်ဖွဲ့လေ့ရှိကြသည်။ ကြွလာသော ညှိသည်များကလည်း လက်ဖွဲ့ကြသည်။ လက်ဖွဲ့ပြီး၍ အကြင်လင်မယား အရာမြောက်သွားသောအခါ နှစ်သက်ရာဘက်သို့ လိုက်နေနိုင်သည်။ သို့သော် ပထမသားဦးဖွားပြီးနောက်ပိုင်းတွင် အိုးသစ်အိမ်သစ် ထူထောင်ပြီး အိမ်ခွဲနေရသည်။[၂]

## ၇း ၁၁ ။ လင်မယား ကွာရှင်းမှု

ရှမ်းအမျိုးသားများ လင်မယားကွာရှင်းမှုမှာ တစ်ဦးက အကျင့်ဖောက်ဖျက်လျှင် လူကြီးများက စေ့စပ်၍ မရသည့်အခါ ကွာရှင်းပေးကြ

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊နှာ ၂၀၈။

၂။ ၎င်း၊စာ။

သည်။ ကွာရှင်းလိုသူက ပစ္စည်းအားလုံးကို ထားရစ်ပြီး လူလွတ်ဆင်းပေးရသည်။ တစ်ဦးက ကွာလိုပြီး တစ်ဦးက မကွာလိုပါက ကွာလိုသူက လျော်ကြေးပေး၍ ကွာရသည်။ ကလေးများကမူ အမေ့ဘက်သို့ လိုက်နေကြသည်။ သို့သော် တစ်ခါတစ်ရံသမီးကို အမေ့ဘက်၊ သားကို အဖေ့ဘက်သို့ လိုက်နေစေသော ဆုံးဖြတ်မှုလည်း ရှိသည်။ ကွာရှင်းပြီးနောက် အိမ်ထောင်ပြုနိုင်သည်။ လင်မယားကွာရှင်းရေးကိစ္စများမှာ မြို့ပေါ်တွင်များပြီး တောတွင်နည်းပါးသည်။ ကွာရှင်းရေးကိစ္စကိုလည်း ရပ်ရွာလူကြီးများအဆုံးအဖြတ်နှင့် ပြီးစီးကျေအေးကြသည်က များသည်။ ရုံးပြင်ကနားရောက်ခဲလှသည်။[၁]

ဂုံအမျိုးသားတို့ကမူ လင်မယားကွာရှင်းလိုပါက ရပ်ရွာလူကြီးများရှေ့တွင် မယားက ဖယောင်းတိုင်နှစ်တိုင်နှင့် လင်ကိုကန်တော့လျှင် ကွာရှင်းမှုပြီးသည်။ လက်ထက်ပွား ပစ္စည်းခွဲရာတွင် နှစ်ဦးသဘောကျ ဝေခွဲလေ့ရှိသည်။ ကလေးများနှင့်ပတ်သက်၍ သားများကို လင်ယောကျ်ားကယူပြီး သမီးများကို ဇနီးကယူရသည်။ လူးအမျိုးသားများသည် ဂုံအမျိုးသားများနှင့် တူသည်။[၂]

ယွန်းအမျိုးသားတို့ကမူ လင်မယားကွာရှင်းလိုပါက ရပ်ရွာရှိ လူကြီးက စစ်ဆေးရသည်။ အပြစ်ရှိသူက ဒင်္ဂါးငွေ ၁၂ ကျပ်ပေးရသည့်အပြင် ပစ္စည်းအားလုံးကို စွန့်လွှတ်ရသည်။ ကလေးများကိုမူ ဇနီးကမယူမှသာ လင်ယောကျ်ားက ခေါ်ဆောင်သွားနိုင်သည်။ မုဆိုးမ၊ တစ်ခုလပ်တို့နောက် အိမ်ထောင်ပြုနိုင်သည်။ မယားတစ်ဦးထက် ပိုယူနိုင်သည်။[၃]

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၂၁၉-၂၂၀။
၂။ ၎င်းစာ၊ နှာ၊ ၂၂၀။
၃။ ၎င်းစာ။

## ၇ ။ ၁၂ ။ မုဆိုးမအပေါ် သဘောထား

ရှမ်းအမျိုးသားက မုဆိုးမသည် ရပ်ရွာထဲတွင် မျက်နှာမငယ်ရ၊ စိတ်အားမငယ်ရစေရန် ရပ်ရွာက ဝိုင်းဝန်းစောင့်ရှောက်ပေးသည်။ အလုပ်အကိုင် တောင်ယာများကို သားကြီး၊ သမီးကြီးများက ဦးဆောင်လုပ်ကိုင်ပေးသည်။ သားထောက်သမီးခံ မရှိက ဆွေမျိုးထဲမှ ကူညီပေးသည်။ ဆွေမျိုးမရှိလျှင် ရပ်ရွာက ကူညီကြသည်။ ဆင်းရဲနွမ်းပါးပြီး အလုပ်အကိုင်မရှိသော် ရပ်ရွာက ကျွေးမွေးထားသည်။ ရပ်ရွာကိစ္စ၊ မင်းမှုကိစ္စ ငွေကြေးအလှူခံများတွင် မုဆိုးမများအား လွတ်ငြိမ်းချမ်းသာခွင့်ရစေသည်။ မုဆိုးမကို လက်ထပ်သော အလေ့လည်း ရှိကြသည်။ ဂုံအမျိုးသားတို့သည် မုဆိုးမကို သက်ညှာစွာ ဆက်ဆံကြသည်။ မုဆိုးမများ၊ အဘွားအိုများကို အများနှင့်ဆိုင်သော ရပ်ကွက်ကိစ္စများ လုပ်ဆောင်ခြင်းမှ လွတ်ကင်းစေသည်။ မုဆိုးမနှင့် တစ်လင်ကွာများ နောက်အိမ်ထောင်ပြုခွင့်ရှိသည်။ တစ်လင်တစ်မယားစနစ်သာရှိပြီး မယားတစ်ဦးထက်ပိုယူပါက ရပ်ရွာကဲ့ရဲ့ခြင်းမှတစ်ပါး အခြားအပြစ်ဒဏ်ပေးခြင်း မရှိ။[၁]

## ၇ ။ ၁၃ ။ သင်္ဂြိုဟ်ခြင်း နှင့် အသုဘ အခမ်းအနား

ရှမ်းအမျိုးသားတို့၏ သေဆုံးခြင်းနှင့် သင်္ဂြိုဟ်ခြင်းမှာ ရှုပ်ထွေးသော အလေ့အထများမရှိ။ သေဆုံးသူတွင် ကျောထောက်နောက်ခံ မရှိလျှင် ရပ်ရွာက ဝိုင်းဝန်းသင်္ဂြိုဟ်ပေးသည်။ အလောင်းကိုမြေမြှုပ်သည်။ မီးရှို့သင်္ဂြိုဟ်လေ့ မရှိ။ ကျားမသင်္ဂြိုဟ်ပုံ ကွဲပြားမှုမရှိ။ ဆိုင်းနှင့်ပို့ချလေ့မရှိ။ သေဆုံးသူပါးစပ်ထဲသို့ ကူးတို့ခ ပိုက်ဆံတစ်မတ် ထည့်လေ့ရှိသည်။ အသုဘအခမ်းအနားတွင် အတန်းအစားခွဲခြားမှုမရှိ။ ငွေကြေးတတ်နိုင်

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)နှာ ၂၂၅။

သူများက ခမ်းနားစွာသင်္ဂြိုဟ်ပြီး မတတ်နိုင်သူတို့က တော်သင့်ရုံ သင်္ဂြိုဟ်ကြသည်။ အချို့အလောင်းကို ဖျာနှင့်လိပ်၍ သင်္ဂြိုဟ်ကြသည်။ အချို့မှာ အခေါင်းတွင် ထည့်ပြီးသင်္ဂြိုဟ်ကြသည်။ သရဏဂုံတင်ခြင်း၊ ဘုန်းကြီးတရားဟော ရေစက်ချခြင်းကို ပြုလုပ်ကြသည်။ ခုနစ်ရက်လည်သောအခါ ရက်လည်ဆွမ်းကျွေးသော အလေ့လည်းရှိသည်။[၁]

ဂုံအမျိုးသားတို့ သင်္ဂြိုဟ်ရာတွင် ရှမ်းတို့ဓလေ့ထုံးစံနှင့် တူသည်။ အသက်အရွယ်ကြီး သူများနှင့် ဂုဏ်သရေရှိသူများ သေဆုံးလျှင် အလှအပ ပန်းစက္ကူများနှင့် အခေါင်းကို ဆင်ယင်ပြီး တွန်းလှည်းနှင့် ပို့၍ မြေမြှုပ်သင်္ဂြိုဟ်သည်။ သာမန်လူများနှင့်လူငယ်များ သေဆုံးလျှင် ရိုးရိုးတန်းတန်း သင်္ဂြိုဟ်သည်။ လူသေပါးစပ်တွင် ကူးတို့ခထည့်ခြင်း၊ အလှအပဆင်ယင်ပေးခြင်း ပြုလုပ်သည်။ သရဏဂုံတင်ခြင်း၊ ခုနစ်ရက်လည်ဆွမ်းကျွေးခြင်း ပြုသည်။ အစိမ်းသေများကို ရက်ကူးမထားဘဲ ချက်ချင်းသင်္ဂြိုဟ်သည်။ ယွန်းတို့ကမူ လူသေဆုံးသော် အခေါင်းတွင်ထည့်ပြီး မီးရှို့၍သော်လည်းကောင်း၊ မြေမြှုပ်၍လည်းကောင်း သင်္ဂြိုဟ်သည်။[၂]

## ၇ း ၁၄ ။ ရိုးရာယုံကြည်မှုများ

ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ တိုင်းရင်းသားများသည် အများအားဖြင့် စုန်း၊ နတ်၊ ကဝေ စသည်တို့ အပေါ်တွင် စွဲစွဲလမ်းလမ်း ယုံကြည်မှု မရှိကြပေ။ အချို့ကျေးရွာများတွင် နေထိုင်ကြသော သက်ကြီးရွယ်အိုများသည် မိရိုးဖလာ ကိုးကွယ်ပသမှုများ ရှိကြသော်လည်း ကြီးကြီးကျယ်ကျယ် ပူဇော်ပသမှုများ မဟုတ်ဘဲ အစဉ်အလာ ဝတ္တရားမပျက်ကွက်ရုံမျှသာ ဖြစ်သည်။ အချို့သော ကျေးရွာများတွင် နေထိုင်ကြသော

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း) နှာ ၂၂၆။
၂။ ၎င်း၊စာ၊ နှာ၊ ၂၂၆-၂၂၇။

ဦးရေအားဖြင့် အလွန်နည်းပါးသော သူတို့လောက်သာ အင်းအိုင်၊ ခလုံ လက်ဖွဲ့များကို အကာအကွယ်သဘော တုတ်ပီး၊ ဓားပီးဆေး အဖြစ်နှင့် ပီယဆေးအဖြစ် ချိတ်ဆွဲတတ်ကြသည်။[၁]

ရှမ်းအမျိုးသားများကို မြေပြန့်သားတို့က ရှမ်းပြည်နယ်တွင် နတ်ကိုးကွယ်မှုနှင့် စုန်း၊ တစ္ဆေ၊ ကဝေစသော မိစ္ဆာအယူဝါဒ ထွန်းကားသည်ဟု လွဲမှားစွာ ယူဆခဲ့သည်။ ရှမ်းဗုဒ္ဓဘာသာဝင်တို့မှာ ဗုဒ္ဓဘာသာကိုသာ ကိုးကွယ်ကြသည်။ ရှမ်းအိမ်များတွင် ဘုရားစင်များသာရှိသည်။ နတ်စင်မရှိ။ ဗုဒ္ဓဘာသာဝင် ရှမ်းအမျိုးသားများမှန်သရွေ့ ရိုးရာကိုးကွယ်မှု မရှိ။ တစ်နှစ်တစ်ကြိမ်ကျ ရွာစောင့်နတ်၊ လက်စောင့်နတ်၊ သမ္မာဒေနတ်များအား ပူဇော်မှုလောက်သာ ရှိသည်။ သို့သော် ထုံးစသဘောမျှသာဖြစ်ပြီး ကြီးကျယ်စွာ မကိုးကွယ်ကြ။ မြေပြန့်မှာကဲ့သို့ နတ်ကနားပေးခြင်း၊ နတ်ပွဲကြီးများ ကျင်းပခြင်းများ မရှိပေ။[၂]

ဂုံအမျိုးသား ကျေးရွာများတွင် စီးပွားရေးဖူလုံမှုအတွက် ရည်ရွယ်၍ ရိုးရာနတ်ပသမှုများရှိသည်။ ကောက်စိုက်ချိန်၊ သိမ်းချိန်များတွင် စပါးကထွက်များစေရန် ပသကြသည်။ထို့ပြင်ရွာစောင့်နတ်၊ သာသနာစောင့်နတ် စသည်များကို ရှင်ပြု ရဟန်းခံပြုလုပ်ရာတွင် ရတနာသုံးပါး မိဘဆရာများအား ကန်တော့ပြီးနောက် ကန်တော့ပူဇော် ကြရသည်။ သီးခြားနတ်ကိုးကွယ်မှုမရှိကြ။ စုန်း၊ ကဝေ၊ မှော်စသော အောက်လမ်းပညာများကို ယုံကြည်မှုမရှိလှ။ တစ္ဆေသရဲရှိသည်ဟုကား ယုံကြည်ကြသည်၊ သို့သော် ပြုစားတတ်သည်ဟု မယုံကြ။ ထိုပညာကို တတ်မှုမရှိကြ။[၃]

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၂၉၃။
၂။ ၎င်းစာ၊ နှာ၊ ၂၉၄။
၃။ ၎င်းစာ၊

ယွန်းအမျိုးသား၏ အချို့ကျေးရွာဒေသများတွင် ရိုးရာနတ်ကိုးကွယ်မှု ရှိသည်။ သို့သော်ထုံးစံမပျက်သာ ဖြစ်သည်။ အောက်လမ်းပညာများကို ယခင်က ယုံကြည်သူများ ရှိခဲ့သော်လည်း ယခု မရှိတော့ပေ။ တစ္ဆေ သရဲရှိသည်ဟု ယုံကြည်ကြသည်။ တမလွန် ဘဝကူးခြင်းကိုလည်း ယုံကြည်ကြသည်။ အင်း၊ အိုင် လက်ဖွဲ့များကို ကလေးဘဝမှစ၍ မိဘများက အန္တရာယ်ကင်းဝေးရန် ဆွဲပေးလေ့ရှိသည်။ အချို့မှာ အဘိုးအဘွားများ၏ သွားများ၊ ငွေမတ်စေ့များကို တရိုတသေဆွဲထားကြသည်။[၁]

၇း ၁၅ ။ ဗေဒင်ပညာနှင့် အတိတ်နိမိတ်များ

ရှမ်းများသည် ဗေဒင်မေးလေ့မေးထရှိသည်။ ပစ္စည်းပျောက်၊ ကျမ်းမာရေးစသော အခြေအနေများနှင့် ပတ်သက်ပြီး ကြက်ရိုးဗေဒင်ကို မေးကြသည်။ အိမ်ဆောက်ရန် နေရာရွေးခြင်း၊ ကျောင်းဆောက်ရန် နေရာအခါရွေးခြင်းတွင် စပါးကိုပုံပြီး အုပ်ထားရသည်။ ထို့နောက် အဓိဋ္ဌာန်ပြုသည်။ နောက်တစ်နေ့တွင် ထိုအပုံကို ဖွင့်ကြည့်ပြီး စပါးစေ့ကို စုံ,မ ရေရသည်။ 'စုံ' ဖြစ်လျှင် ကောင်းသော အတိတ်ဖြစ်၍ 'မ'ဖြစ်လျှင် မကောင်းသော အတိတ်ဖြစ်သည်။ အခြားနိမိတ်ဖတ်နည်းမှာ စပါးပုံ အခြေအနေ ပျက် မပျက် ကြည့်ခြင်းဖြစ်သည်။ မပျက်လျှင် ကောင်းသည်။ ပျက်လျှင် မကောင်းဟု နိမိတ်ဖတ်သည်။ နောက်တစ်မျိုးမှာ စပါးစေ့ အရေအတွက်ကို လေးဂဏန်းနှင့် စား၍ ကြွင်းသောဂဏန်းကို ကြည့်ပြီး ကောင်း, မကောင်း အတိတ်ကောက်ယူကြသည်။[၂]

အိမ်ရှင်ယောကျ်ားခရီးဝေး သွားတော် အိမ်ရှင်မက ဘုရားစင်မှ ဘုရားပန်း မညှိုးအောင် ဂရုစိုက်လဲလှယ် ပေးရသည်။ ပန်းများညှိုးသွား

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း) နှာ ၂၉၄။

၂။ ၎င်းစာ၊ နှာ၊ ၃၀၀။

ခြင်း၊ ပျက်စီးခြင်း၊ ကြွက်ကိုက်သွားခြင်းကို ကြည့်ပြီး ခရီးသွားသူ ဘေးအန္တရာယ် ရောက်၊ မရောက် အတိတ်ကောက်လေ့ရှိသည်။ ဖျားနာသောအခါ၌ အိမ်တွင် ဆေးဝါးကုသည်။ တောရွာများတွင် ဂါထာမန်းပြီး ကုသသော ပျောက်စေဆရာများကိုသာ အားကိုးရသည်။ ဆေးဖယောင်းတိုင်ထွန်းကုသော ဓလေ့လည်း ရှိသည်။ အခကြေးငွေ မပေးရ။ အစားအစာ၊ အဝတ်အစားများစသည်ဖြင့် ပျောက်သောအခါ ဆရာအား ကန်တော့ကြရသည်။[၁]

၇ း ၁၆ ။ ထိုးကွင်းထိုးခြင်း

ရှမ်းပြည်နယ်အတွင်းတွင် နေထိုင်ကြသော တိုင်းရင်းသားများအနက် ကိုးကန့်နှင့် ကော်အမျိုးသားများမှအပ ကျန်အမျိုးသားအားလုံးလိုလို ထိုးကွင်းမင်ကြောင်ဆေးများ ထိုးလေ့ရှိကြသည်။ ရှေးအခါက ထိုးကွင်းမင်ကြောင်ကို ယောကျ်ားတိုင်း ကိုယ်ပေါ်တွင် နေရာအနှံ့အပြားထိုးကြသော်လည်း ယခုခေတ် လူငယ်များတွင် ဤမျှလောက် မများတော့ပဲ လက်မောင်းစသည့်နေရာ အနည်းငယ်လောက်မျှသာ ထိုးကြတော့သည်။ ထိုးကွင်းမင်ကြောင်ထိုးခြင်း၏ ရည်ရွယ်ချက်မှာ ယောကျ်ားပီသစေရန်ဖြစ်သည်။ အချို့သူတို့မှာ အကာအကွယ် တုတ်ပီး၊ ဓားပီး၊ ပီယဆေးစသည်တို့အတွက် ထိုးကြသည်။[၂] ရှမ်းလူမျိုးတို့တွင် ထိုးကွင်းမင်ကြောင်ထိုးသော အတတ်ကို ကျွမ်းကျင်သူများဖြစ်သော်လည်း ဤဓလေ့ထုံးစံမှာ မြန်မာတို့က အစဖြစ်သည်ဟု ဆာဂျော့စကော့ကဆိုသည်။[၃]

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၃၀၀-၃၀၁။
၂။ ရင်းတ၊ နှာ၊ ၃၀၁-၃၀၂။
၃။ ခေမိန္ဒ(ဦး)၊ မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၇၀။

၇း၁၇။ အရှောင်နှင့် အဆောင်များ

ကုန်သည်အိမ်များတွင် ပလွေမှုတ်ခြင်း၊ လေချွန်ခြင်း မပြုလုပ်ရ။ လာဘ်ပိတ်သည်ဟု ယူဆကြသည်။ ဇီးကွက်များ ရပ်ရွာတွင်အော်မြည်ပါက နာစေးချောင်းဆိုးဖြစ်တတ်သည်။ အိမ်ရှင်ခွင့်မပြုဘဲ အိမ်ရှင်ယောကျ်ား၏ သီးသန့်နေရာသို့ မသွားရ။ အိမ်ပေါ်တက်လျှင် ဖိနပ်ချွတ်ရသည်။ ကျွဲမွေးညှော်ဝတ်ပြုသော အစားအစာ၊ လက်ဖက်ရည်များကို စားသုံးမှ သဘောကျသည်။ မစားဘဲနေလျှင် ရိုင်းစိုင်းသည်ဟု ယူဆကြသည်။ ရှမ်းအမျိုးသားများသည် စီးပွားရေးနှင့် ဆိုင်သော ရိုးရာဓလေ့များကို ပြုလုပ်လေ့ရှိသည်။ ယင်းတို့မှာ အထူးသဖြင့် လယ်ယာများနှင့် ပတ်သက်သည်။[၁]

မိုးဦးကျ လယ်တောဆင်းချိန်တွင် မိုးမမှန်၊ လေမမှန်ဖြစ်ခဲ့သော် လွန်ဆွဲခြင်း၊ ယုံကြည်ကိုးစားရာ ဘုရား၊ နတ်တို့အား ပူဇော်ပသခြင်းပြုသည်။ လယ်ယာများတွင် ပိုးမွှားကျရောက်သဖြင့် စိုက်ပျိုးထားသော ကောက်ပဲသီးနှံများ မအောင်မြင်သောအခါ မိမိတို့ မကောင်းမှုပြုလုပ်ခဲ့သောကြောင့် အပြစ်တို့မှ ခွင့်လွှတ်ရန် တောင်းပန်ခြင်း၊ လယ်ယာများတွင် ဖျက်ဆီးအံ့သော မကောင်းမှု အကုသိုလ်များ ပပျောက်ရန် နတ်ပူဇော်ခြင်းပြုလုပ်လေ့ရှိသည်။ တော်သလင်းလကျော်လျှင် ကောက်မစိုက်၊ စိုက်လျှင်၊ သီးနှံမထွက်ဟု ယူဆသည်။ စပါးများ ရိတ်သိမ်းပြီးနောက် စပါးတင်းရေပိုမိုထွက်ရန် လယ်ကွင်းထဲတွင် မီးထွန်းပြီး ဆုတောင်းပသလေ့ရှိသည်။ ကောက်လှိုင်းစည်းများစုပုံပြီး စပါးမနယ်မီ စပါးနှံများကို ပူစတ်ခိုင်၊ နိုင်းစတ်ခိုင်(ခေါ်) ဘိုးဥကြီး၊ ဘွားဥကြီးဟု အမည်တပ်ထားသော စပါးစောင့်နတ်အား ကြက်ဥပြုတ်နှစ်လုံးနှင့် မုံ့များပသရသည်။

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၃၀၂။

စပါးများကို အိမ်သို့ သယ်ယူသောအခါတွင် လယ်ကွင်းမှ အိမ်အထိ လမ်းတစ်လျှောက်တွင် စပါးပုံကလေးများ အနည်းငယ်ပုံထားလေ့ရှိသည်၊ ထိုသို့ ပုံထားခြင်းမှာ ကျေးငှက်သတ္တဝါအပေါင်းတို့နှင့် ဝေမျှစားခြင်းဖြစ်သည် ထို့အပြင် လမ်းခရီး၌ အစားအစာပြတ်သူများအား စပါးရှိသော နေရာသို့အလွယ်တကူရှာဖွေနိုင်ရန် လမ်းပြအဖြစ် ပုံထားခဲ့ခြင်းဖြစ်သည်၊

ရှမ်းလူမျိုးများသည် ခရီးသွားသောအခါ လဆန်း ၂ ရက်နှင့် လပြည့်ကျော် ၄ ရက်ကို ရှောင်ကြဉ်ကြသည်၊ ခရီးသွားလျှင် အမျိုးသမီး ၃ ယောက်နှင့် အမျိုးသား ၂ ယောက်အတူတကွ သွားသည်ကိုရှောင်သည်၊ ၉ ဂဏန်းကို ရှမ်းများမနှစ်သက်ကြပေ၊ ခရီးသွားသည့်အခါ ၉ ယောက်ရှိလျှင် ကျောက်ခဲတစ်လုံးကို လူတစ်ယောက်အဖြစ် အစားထိုးခေါ်သွားလေ့ရှိသည်၊ ရှမ်းလူမျိုးများသည် ဦးခေါင်းသည် မြင့်မြတ်သည်ဟု ယူဆ၍ အချင်းချင်း ခေါင်းပုတ်မှုကို မပြုကြပေ၊ တောကောင်များရွာအတွင်းသို့ ဝင်လာလျှင် အတိတ်နိမိတ်မကောင်းဟု ယူဆပြီး သံဃာများပင့်၍ ရွာကို ပရိတ်အရံအတားပြုစေသည်၊ အနောက်မှ အရှေ့ဘက်သို့ စီးသောချောင်းရေ မြစ်ရေတို့ကို 'နမ့်တင်းဝမ်း' ဟု ခေါ်ပြီး ထိုမြစ်ရေကို သောက်သုံးနေသူတို့သည် မိုက်မဲ၍ သတ္တိရှိကြသည်ဟုဆိုသည်၊

၇ ။ ၁၈ ။ ဝတ်စားဆင်ယင်မှု

ရှမ်းအမျိုးသားတို့သည် အတွင်းမှ ရှပ်အင်္ကျီနှင့် ပင်နီတိုက်ပုံအင်္ကျီကို ဝတ်လေ့ရှိကြသည်၊ ဘောင်းဘီမှာ ခပ်ပွပွဖြစ်ပြီး အများအားဖြင့် ပင်နီဖျင်ကိုပင် ချုပ်ကြသည်၊ အမျိုးသားတိုင်း ခေါင်းပေါင်း ပေါင်း

---

အ မြည်အောင်၊ မြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း) နှာ ၃၀၂-၃၀၃

ကြသည်။ နေ့စဉ် နေ့တိုင်းတွင်မူ မှတ်နှာသုတ်ပုဝါကို ပေါင်းကြသည်။ အမျိုးသမီးများမှာ ထဘီနှင့်အကျီတို့ကို မြေပြန့်သူများကဲ့သို့ ဝတ်ဆင်ကြသည်။ ရှမ်းအမျိုးသားများကဲ့သို့ပင် ခေါင်းပေါင်း ပေါင်းကြသည်။[၁]

ဂုံအမျိုးသမီးများသည် ဆံထုံးကို ဦးခေါင်းထိပ်တွင် ထုံးသည်၊ 'ဆီခွန်' ခေါ်သည့် ရှေးမြန်မာ ထိုင်မသိမ်း အကျီပုံစံနှင့်တူသော အကျီကို ဝတ်သည်။ လုထဘီခေါ် ထဘီကို ဝတ်ဆင်လေ့ရှိသည်။ ထဘီမှာ အဖြူရောင်ဖြစ်ပြီး အောက်တွင် အစိမ်း၊ အနီ၊ အနက်၊ အဝါစသည့် အရောင်အမျိုးမျိုးကို အနားတပ်ထားလေ့ရှိသည်။ အမျိုးသားတို့၏ အဝတ်အစားမှာ ရှမ်းအမျိုးသားတို့၏ အဝတ်အစားအတိုင်းပင်ဖြစ်သည်။ ယွန်းအမျိုးသားတို့၏ အဝတ်တန်ဆာမှာ အကျီလက်တိုတို ခပ်ပွပွ ဝတ်ကြပြီး နိုးမိုးလုံချည်ကို ခါးစည်း၍ ဝတ်လေ့ရှိသည်။ အမျိုးသမီးများမှာ အကျီနှင့် ထဘီကိုပင် ဝတ်ကြသည်။ ခေါင်းတွင် ခေါင်းစည်း စည်းထားသည့် အလေ့ ရှိသည်။ လိ(လူး) အမျိုးသားတို့သည် အခမ်းအနားများ၌ ရှမ်းအမျိုးသားဝတ်စုံများကို ဝတ်ဆင်ကြသည်။ အမျိုးသမီးများက အစင်းအကြောင်းများပါသည့် အစိမ်းရောင်ထဘီကို ဝတ်ကြသည်။ နေ့စဉ်သုံး အဝတ်အစား အနေဖြင့် အိမ်တွင်ရက်လုပ်သော ချည်နက်ပြာရောင် အထည်များကို ဝတ်ဆင်ကြသည်။ ဆောင်းအခါတွင် ဝါဂွမ်းစောင်နှင့် ဂွမ်းကပ်အနွေး ထည်များကို ဝတ်ဆင်ကြသည်။[၂]

၄ ။ ၁၉ ။ အစားအစာ

ရှမ်းအမျိုးသားတို့သည် အခြားသော တိုင်းရင်းသားများနည်းတူ ထမင်းနှင့် ဟင်းများကို စားကြသည်။ ကျေးရွာများတွင် နေထိုင်ကြသော

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)နှာ ၃၀၇။
၂။ ၎င်းစာ၊ နှာ ၃၀၂-၃၀၃။

ရှမ်းအမျိုးသားများတို့ကမူ တစ်နေ့လျှင် သုံးကြိမ်စားကြသည်။ လယ်တော သို့ ဆင်းသည့်အခါ အဆာခံနိုင်ရန် ကောက်ညှင်းများကိုလည်း စားကြသည်။ ပဲပုပ်မှာ ရှမ်းအမျိုးသားတို့၏ ငါးပိ၊ ငံပြာရည်ဖြစ်သည်။ ပဲပုပ်အခြောက်မှာ ရှမ်းအိမ်တိုင်းတွင်ရှိသည်။ မြောက်ပိုင်းရှမ်းများသည် မုန့်ညင်း၊ မုန့်လာ၊ အရွက်အသီးများကို အချဉ်၊ အငန်၊ အစပ်ထည့်စိမ် ကာ စားသောက်ကြသည်။ ကောက်ညှင်းငချိပ်နှင့် ပြုလုပ်သော ခေါပုတ်မှာ ရှမ်းတို့၏ မုန့်ပဲသရေစာဖြစ်သည်။ ကွမ်းဆေးလက်ဖက်များကို ရှမ်း တိုင်းစားသုံးကြသော ခေါပုတ်မှာ ရှမ်းတို့၏ မုန့်ပဲသရေစာဖြစ်သည်။ ရှမ်း အမျိုးသားတို့သည် ရေအေးထက် လက်ဖက်ရည်ကြမ်းကို သောက်သုံး လေ့ရှိပြီး သောက်သောအခါ ဆားခတ်သောက်ကြသည်။[၁]

ရှမ်းလူမျိုးများသည် တောကြိုတောင်ကြား၌ ရှေးပဝေသဏီက စ၍ နေလာခဲ့ကြသူများ ဖြစ်ကြသဖြင့် တောတွင်းရှိ ဟင်းသီးဟင်းရွက် သစ်ရွက်၊ သစ်မြစ်၊ သစ်ဥ၊ သစ်ခေါက်စသည်တို့အား မည်သည့်အရာ စားကောင်းသည်၊ မစားကောင်းသည်ကို သိရှိကြသည်။ ဆေးဖက်ဝင် သည့်အရာ၊ အဆိပ်အတောက် ဖြစ်စေသည့်အရာများကိုလည်း သိရှိကြ သည်။ ထို့ကြောင့် ရှမ်းလူမျိုးတို့သည် စားနိုင်သောအသီးအရွက်မျိုးစုံကို စားသုံးတတ်သော လူမျိုးဖြစ်သည်။ အသားငါးကိုလည်း မရှောင်ပေ။ မြေကြီးအထဲတွင်ရှိသည့် 'အိကုတ်' ခေါ် နွားချေးပိုးလောင်း၊ 'မြန်းမန်း' ခေါ် ပုရွက်ဆိတ်ကြီးနှင့်တူသည့် အဆီကောင်များ၊ ပျား၊ ပဒူ၊ ခါချဉ် စသည်တို့ကိုလည်း စားသုံးတတ်သည်။ ရှမ်းလူမျိုးသည် သူတစ်ပါးမစား သော ပိုးကောင်များကိုလည်း ကြံကြံဖန်ဖန် ရှာဖွေစားသောက်တတ်ကြ သဖြင့် "ကစ်တုံ့တုံ့ ဝိုက်တမ်းခေါင်နံ" (လှုပ်လှုပ်ရှားရှား မှန်သမျှ တံခွန်

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ ၁၁၄။

ကိုသာချန်ထား၊ ကျန်သည့်သက်ရှိအကုန်စား) ဟုပင် ဆိုရိုးရှိခဲ့လေသည်။ သို့သော် ရှမ်းလူမျိုးများသည် မြန်မာလူမျိုးများကဲ့သို့ ဆီကိုသိပ်မကြိုက်ကြပါ။ ရှမ်းဟင်းသည် ဆီကို အနည်းငယ်သာထည့်သည်။[၁] ရှမ်းခေါက်ဆွဲနှင့် ရှမ်းတို့ဟူးတို့သည် အရသာရှိ၍ လူသိများသော အစားအစာဖြစ်သည်။ ဝက်သားချဉ်၊ အမဲသားချဉ်၊ ငါးချဉ်၊ ပုဇွန်ချဉ်တို့ကို တချို့က ချက်၊ ပြုတ်၊ ကင်၍စားကြသော်လည်း အချို့မှာ အစိမ်းသာစားကြသည်။ ဟင်းရည်ကို အဆင်သင့် အလွယ်တကူ ပြုလုပ်နိုင်ရန်အတွက် 'ရှမ်းဆွန်ထန်ချောက်' သည်လည်း လူသိများသည်။

ခွန်ဟင်း(ဂုံဟင်း)ဟူ၍ အထူးသဖြင့် ကျိုင်းလမ်း(ခေါ်) ဟင်းသီးရွက်စုံဟင်းရှိသည်။ ထိုဟင်းတွင် အသားပြုတ်ရည်နှင့် ပြောင်းစသည့် ဟင်းသီးဟင်းရွက်စုံပါသည်။ မှို၊ ပဲတောင့်၊ ခရမ်းသီး၊ ကင်းပုံရွက်၊ ဗူးသီး ဖရုံသီး၊ ဂေါ်ရခါးရွက်၊ ပင်စိမ်းရွက်တို့ ပါဝင်ပြီး ဆီမပါချေ။ အခြားဟင်းတစ်မျိုးမှာ ကျိုင်းခေး(ခေါ်) ဟင်းရွက်ဟင်း တစ်မျိုးပင်ဖြစ်သည်။ မြန်မာဆန်လှော်ဟင်းကဲ့သို့ပင်ဖြစ်သည်။ ယွန်းအမျိုးသားတို့သည် လက်ဖက်အချဉ်ကို ပါးစပ်တွင် ငုံလေ့ရှိသည်။ ပဲပုပ်၊ ငရုပ်သီးထောင်းနှင့် ကျိုင်းဖူးဟင်းချိုမှာ ယွန်းအမျိုးသားတို့၏ အကြိုက်ဆုံးဟင်းများ ဖြစ်သည်။[၂]

## ၃း၂၀ ။ တူရိယာနှင့် သီချင်းများ

ရှမ်းအမျိုးသားတို့၏ တူရိယာပစ္စည်းများမှာ ရှမ်းအိုးစည်၊ မောင်း၊ မောင်းဆိုင်း၊ လင်းကွင်းနှင့် ဝါးလက်ခုပ်များဖြစ်ကြသည်။ မောင်းဆိုင်းမှာ ခြောက်လုံးရှိသောမောင်းများကို အစဉ်လိုက်စီပြီး သစ်သားဘောင်တွင် ချိတ်၍ တုတ်တံတစ်ခုတွင် တီးစရာဘုခြောက်လုံး တပ်ထားပြီး

---

၁။ Hsen (Khur). The Oregin of Tais and A Short History of Shan. P.105

၂။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း) နှာ၊ ၃၁၄-၃၁၅။

လက်ကိုင်မှ တစ်ချက်တီးလိုက်ခြင်းဖြင့် ခြောက်လုံးစလုံး မြည်စေသည်။ ရှမ်းအိုးစည်မှာ ရှမ်းတူရိယာတွင် အဓိကဖြစ်သည်။ တီးဝိုင်းစာရင်းမဝင်ဘဲ တစ်ဦးချင်းတီးမှုတ်သော တူရိယာပစ္စည်းများလည်းရှိသေးသည်။ သစ်သားနှင့်ပြုလုပ်ထားသော သုံးကြိုးတပ်စောင်းငယ်၊ ဗူးသီးခြောက်နှင့် သစ်သားတို့ဖြင့် လုပ်ထားသော တယောများဖြစ်သည်။ ယင်းတူရိယာတို့ကို တစ်ဦးချင်းအနေနှင့် လူပျိုလှည့်ရာတွင် တီးမှုတ်ကြသည်။ ညှင်းသွဲ့နွဲ့ပြောင်းသော အသံများရှိပြီး နှစ်ကိုယ်ကြား အသံမြည်နိုင်သည်။[၁]

ရှမ်းပြဇာတ်သဘင်ကို ဦးဩဇေယျ (သီပေါ)က မြန်မာသက္ကရာဇ် ၁၃၀၉ ခုနှစ်တွင် စတင်တည်ထောင်ခဲ့သည်။ ထိုဇာတ်သဘင်တွင် မြန်မာတူရိယာဖြစ်သော မောင်းကြေးနင်း၊ ပတ္တလား၊ မောင်းဝိုင်းစသည်တို့ပါဝင်အသုံးပြုလာကြသည်။ ဦးဩဇေယျသည် ရှမ်းပြဇာတ်သဘင် ဖခင်ကြီးဖြစ်သည်ဟု ဆိုရပေမည်။ သူကိုယ်တိုင် ဇာတ်သဘင် အဖွင့်အပိတ်သီချင်းများ ရေးစပ်သီကုံးပြီး ရှမ်းဇာတ်သဘင် အကများကိုလည်း ကိုယ်ပိုင်ဉာဏ်စွမ်းဉာဏ်စဖြင့် တပည့်များကို သင်ကြားပေးခဲ့သည်။ အော်ပရေတာဇာတ်လမ်းကိုလည်း သူကိုယ်တိုင် ဒါရိုက်တာပြုလုပ်ပြီး တင်ဆက်သည်။ ဦးဩဇေယျ အစပျိုးထောင်ပေးခဲ့သဖြင့် ယခုအခါ အနယ်နယ်အရပ်ရပ်မှ ရှမ်းဇာတ်သဘင်များ များစွာပေါ်ထွန်းလာခဲ့သည်။ ရှမ်းခေတ်ဟောင်းသီချင်းသည် လက်တန်းစပ်ဆိုသော သီချင်းဖြစ်၍ သီချင်းအသွားအတိုင်း ဂီတသံစဉ်က လိုက်တီးခတ်ရသည်။ သီချင်းကြီးများကို ဝါရင့်သော ရှမ်းအမျိုးသား အမျိုးသမီးအဆိုတော်ကြီးများက တူရိယာသံမပါဘဲ မိုးလင်းပေါက်အထိ သီဆိုကြသည်။ သီချင်းထဲတွင် အချစ်ရေးများ၊ စကားပရိယာယ်များ၊ စကားထာစကားဝှတ်များ၊ ဟာသများလည်းပါဝင်သဖြင့်

---

[၁] ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုစလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၃၁၉-၂၀။

နားထောင်သူသည် မိုးလင်းသည်အထိဖွဲ့ရှိရှိ နားထောင်ကြသည်။ စိုင်းမုန့်မိန်း၊ စိုင်းမုနိန်(နားခေါ်)၊ စိုင်းဆန်ယွန်း(တနံ့ယန်း)၊ စိုင်းဆန်ဆော၊ နန်းစိန်ထွန်း၊ နန်းစမ်ပေါင်းတို့သည် နာမည်ကြီး ခေတ်ဟောင်းအဆိုတော်များ ဖြစ်ကြသည်။ ခေတ်သစ်ရှမ်းသီးချင်းကိုစတင်စပ်ဆိုသူမှာ ရှမ်းအမျိုးသား ဒေါက်တာစိုင်းခမ်းလိတ်ဖြစ်သည်။စိုင်းဆိုင်မောဝ်၊ စိုင်းထီးဆိုင်၊ စိုင်းမှူး၊ နန်းနန်း၊ နန်းမွန်းမိန်းတို့သည် ခေတ်သစ်နာမည်ကြီး ရှမ်းအဆိုတော်များဖြစ်ကြသည်။

ဂုံ(ခွဲ)အမျိုးသားတို့၏ တူရိယာတွင်သစ်သားကို ထွင်းလုပ်ထားသော ဘင်ဂျိုအကြီးအလတ်၊ အသေး သုံးမျိုးသုံးစွဲရှိသည်။ စစ်စေ့(ခေါ်)မိကျောင်းတူရိယာလည်း ရှိသည်။ အုန်းမှုတ်ခွံနှင့် ပြုလုပ်ထားသော တယော၊ အုန်းမှုတ်ခွံဘင်ဂျိုများကိုလည်း သုံးသည်၊ ဘင်ဂျိုကို ပေ့ဟုခေါ်သည်။ တီးရာတွင် ခွက်ကိုရင်ဘတ်တွင် ကပ်ပြီး တီးရသည်။ ရှမ်းအိုးစည်ကိုလည်းသုံးသည် မောင်းဆိုင်းတီးရာတွင် ကောင်တီထွန်း(ခေါ်) အိုးစည်တစ်မျိုး၊ လင်းကွင်း၊ မောင်းတစ်လုံးပါဝင်သည်။ သီးချင်းအနေနှင့် ကဗျာများသာဖြစ်သည်။ သုံးလုံး၊ လေးလုံးနှင့် ငါးလုံးကောက် ကဗျာများ ရေးစပ်ကြသည်။ တပေါင်းလပွဲတော်တွင် ယိမ်းအကနှင့် ဆောအက (ခေါ်) ဖယောင်းတိုင်လက်ကြားညှပ်အက(သို့မဟုတ်) ဆီမီးခွက်အကမှာ မိန်းကလေးများသာ ကရပြီး အခြားအကများမှာ ယောကျ်ားလေးများပါ ကနိုင်သည်။ ဘာသာရေးဆိုင်ရာ ပွဲလမ်းများရှိ၍ ကျင်းပရာတွင်မြန်မာများနှင့် ဆင်တူသည်။[၁]

ယွန်းအမျိုးသားတို့သည် ပလွေ၊ အုန်းမှုတ်ခွတ်ဖြင့် ပြုလုပ်ထားသော ဝါးဘင်ဂျိုတို့ကို တူရိယာပစ္စည်းအဖြစ် သုံးကြသည်၊ ကဗျာများကို

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၃၂၁-၂၃။

အပြန်အလှန် သီးဆိုလေ့ရှိသည်။ လက်တန်းစပ်ဆိုသည်က များသည်။ မောင်း၊ အိုးစည်တို့ကိုလည်း အသုံးပြုကြသည်။ အကမှာ ရှမ်းအကအတိုင်းဖြစ်သည်။[၁]

၇ း ၂၁ ။ စာပေ

မွန်းဂိုးလီးယားနှင့် တရုတ်ပြည်မြောက်ပိုင်းတွင် နေထိုင်ကြသော ရှေးခေတ်လူမျိုးများသည်၎င်းတို့၏ စာပေအမှတ်အသားများကို အရုပ်ပုံသင်္ကေတဖြင့် ရေးမှတ်လာခဲ့ကြသည်။ လယ်ကို(田)လေးထောင့်ပုံစံ၊ တောင် ကို(山) အချွန်ပုံစံ စသည်ဖြင့် ရေးမှတ်လာခဲလေ့သည်။ ယခု တရုတ်စာ သည်ယင်းကဲ့သို့ ဖြစ်သည်။ ရှေးက ဂျပန်၊ ကိုးရီးယားတို့သည်လည်းထိုအရုပ်ပုံသင်္ကေတစာကိုအသုံးပြုလာခဲ့ကြသည်။ တရုတ်ပြည်မြောက်စွန်းပိုင်းမှ ဆင်းသက်လာသော ရှမ်းလူမျိုးများသည်လည်း ၎င်းစာများကို အသုံးပြု လာဟန်ရှိသည်။ ရှေးခေတ်ရှမ်းလူမျိုးတို့၏ စာပေလည်းဖြစ်နိုင်သည်။ အဘယ်ကြောင့်ဆိုသော် 'တိုင်း' ရှမ်းတို့သည် ဘီစီ ၂၆၀၀ ကတည်းက ဤအရုပ်စာကို အသုံးပြုလာခဲ့ကြဟန်တူသည်။[၂]

သို့သော် ရှမ်းလူမျိုးတို့သည် မိမိအချင်းချင်းသော်လည်းကောင်း၊ လူမျိုးခြားတို့နှင့်သော်လည်းကောင်း သမိုင်းတစ်လျှောက်လုံးတွင် စစ်ဘေး စစ်ဒဏ်ကို ခံလာခဲ့ရသူဖြစ်သည်။ တရုတ်တို့ကို စစ်ရှုံးသဖြင့် တောင်ဘက်သို့ တစ်ဆင့်ပြီးတစ်ဆင့် ဆင်းလာခဲ့သည်။ ရှမ်းတို့၏စာပေယဉ်ကျေးမှုများသည်လည်း တရုတ်တို့ထံ ရောက်သွားကောင်း ရောက်သွားနိုင်သည်။ ထို့ကြောင့် ဤလက္ခဏာစာ (ခေါ်) အရုပ်ပုံသင်္ကေတစာသည်လည်း တရုတ်တို့က ရှမ်းတို့ထံ ယူသွားသည်ဟု ဆိုနိုင်ကောင်း ဆိုနိုင်ပေမည်။

---

၁။ ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသားယဉ်ကျေးမှုဓလေ့ထုံးစံ(ရှမ်း)၊ နှာ၊ ၃၂၃။
၂။ ရှိန် (ခေး)၊ ရှမ်းစာပေသုတေသနစာတမ်း။ (လက်ရေးမူ ရှမ်းစာ)၊ နှာ၊ ၈-၉။

အဘယ်ကြောင့်ဆိုသော် ရှေးခေတ်တွင် ဂျလက္ခဏာစာသည် ရှေးခေတ်လူများ၏ သင်္ကေတအမှတ်အသားသာ ဖြစ်ပေမည်။ ထိုခေတ်က မည်သည့် လူမျိုးဖြစ်ဖြစ် 'ဂျအမှတ်အသားသည် ဂျကဲ့သို့ အဓိပ္ပါယ်ရှိ၏' ဟု သိကြပေမည်။ သို့သော် အသံထွက်ကား တူညီဟန်မရှိချေ။ ယခု တရုတ်စာပင်လျှင် အဓိပ္ပါယ်လည်းတူ၊ ပုံသဏ္ဌာန်လည်းတူသော်လည်း ကန်တုန်အသံထွက်ကား တစ်မျိုး၊ ဟတ်ကာအသံထွက်ကား တစ်မျိုး၊ မန်ဒရင်တရုတ်တို့က တစ်မျိုးစီ ထွက်ဆိုကြသည်။ ထိုအရုပ်ပုံသဏ္ဌာန်စာကို ရှေးခေတ်ရှမ်းများသည်လည်း အသံထွက် တစ်မျိုးဖြင့် အသုံးပြုလာခဲ့ပေမည်။

တချို့သော ရှမ်းသမိုင်းပညာရှင်များက ရှမ်းစာပေများသည် တကောင်းခေတ် (ဘီစီ ၈၄၃) တွင် အဘိရာဇာမင်းက ကောလိပြည်မှ ရယူခဲ့သည်ဟု ဆိုသည်။ တကောင်းမှတစ်ဆင့် ဘိန္နကရာဇာမင်းသည် မောပြည်သို့ ရောက်လာသည်။ စာလုံးပုံစံမှာ သက္ကတဆန်သည်ဟု ဆိုသည်၊ နန်ချောင်ဘုရင် ဆိုင်လောဝ်ပီ (အေဒီ ၇၂၈-၇၄၈) လက်ထက်တွင် ရှမ်းအက္ခရာများကို လေးထောင့်ပုံသဏ္ဌာန်အဖြစ် ပြောင်းလဲအသုံးပြုခဲ့သည်။ မိခင်ရင်းဘာသာမှ မလိုအပ်သော အက္ခရာများကို ဖယ်ထုတ်ပစ်သဖြင့် ဗျည်း ၁၇/၁၈ လုံးသာရှိတော့သည်။ ထိုစာသည် ပဲပင်ပေါက်ပုံသဏ္ဌာန်ရှိပြီး ရှမ်းတို့က "လိတ်ထိုငေါက်ယောင်း" (လိၵ်ႈထူဝ်,ငွၵ်ႈယၢဝ်း) "ပဲပင်ပေါက်ရှည်စာ" ဟု ခေါ်ကြသည်၊ ခေတ်ဟောင်းမောရှမ်းစာပေဖြစ်သည်။ အေဒီ ၁၃၁၂ ခုနှစ်တွင် မောရှမ်းဘုရင် ဆေခန်ဖသည် ခေတ်ဟောင်းရှမ်းစာကို ထိုကဲ့သို့ မရှည်စေတော့ဘဲ တိုအောင်ပြုပြင်လိုက်သဖြင့် "လိတ်ထိုငေါက်ပွတ်း" (လိၵ်ႈထူဝ်,ငွၵ်ႈပွတ်း)"ပဲပင်ပေါက်တိုစာ" ဟု ခေါ်တွင်လာကြသည်။ သိန္နီစော်ဘွား စဝ်ခမ်းကိုင်ဖ (အေဒီ ၁၄၀၅-၁၄၂၈ ) လက်ထက်တွင် "ပဲပင်ပေါက်တိုစာ"ကို အဝိုင်းပုံသဏ္ဌာန်သို့

ပြုပြင်အသုံးပြုလာသဖြင့် ထိုစာသည် "ခေတ်ဟောင်းရှမ်းကြီးစာ" အဖြစ် တည်ရှိလေတော့သည်။ ဒုတိယကမ္ဘာစစ်ပြီးဆုံးပြီးနောက် စဝ်ဆိုင်မိန်းနှင့် ဆရာတော် ဦးဝိဇယနန္ဒ ဦးဆောင်သော ရှမ်းပညာရှင်များက "ခေတ်ဟောင်းရှမ်းကြီးစာ"ကို ပြင်ဆင်ဖြည့်စွက်ပြီး "ခေတ်သစ်ရှမ်းစာ"၏ မျိုးစေ့ကို ချပေးခဲ့လေသည်။ အေဒီ ၁၂၅၃ ခုနှစ် ကူဗလိုင်ခန်တို့၏ ကျူးကျော်တိုက်ခိုက်မှုကြောင့် တောင်ပိုင်းဒေသသို့ ပြောင်းရွှေ့လာကြသော ရှမ်းများသည် နိုင်ငံအသီးသီး တည်ထောင်ကြသည်။ တောင်ပိုင်းဒေသသို့ရောက်လာသော ထိုင်း၊ လောဝ်၊ ယွန်း၊ လူးတို့သည်လည်း သီးခြားစာပေများ ရှိကြလေသည်။°

ရှမ်းလူမျိုးသည် လူမျိုးကွဲများစွာရှိသည်နှင့်အညီ ရှမ်းစာပေသည်လည်း အမျိုးမျိုးရှိလေသည်။ ထိုစာများကို လေ့လာနိုင်ရန်အတွက် စာမျက်နှာ( ) တွင် သီးသန့်စာမျက်နှာတွင် ဖော်ပြပေးထားပါသည်။

၇း ၂၂။ ရှေးကျခဲ့ ခေတ်မီနေသော ရှမ်းအဆိုအမိန့်များ

(၁) မဟောင်တတ်သော ခွေးသည် ကိုက်တတ်၏၊ စကားမပြောဘဲ ဆိတ်ဆိတ်နေသူသည် မိုက်တတ်၏။

(၂) မကိုက်တတ်သောခွေးသည် ဟောင်၏၊ ငွေမချေးသင့်ဘဲ ချေးပေးလျှင် ဒုးညောင်း၏။

(၃) ကန်ဖူးသော မြင်းသည် ကန်ချက်ကိုမမေ့၊ လူသည်လည်း အကျင့်ပျက်ကို မမေ့။

(၄) ထိုင်သည့်အခါ အောက်ကိုကြည့်ပါ၊ ထသည့်အခါ အပေါ်ကို ကြည့်ပါ။

(၅) မပုပ်သောအသီးကို ပိုးမထိုး၊ မရှိသောသူကို သူခိုးမခိုး။

(၆) လက်ခြေတို့သည် ဝမ်းဗိုက်၏ကျေးကျွန်ဖြစ်သည်၊ မည်သူကမျှ

အလကားခေါ်မကျွေးနိုင်။

(၇) ခမောက်သည် လူ၏ဦးခေါင်းနှင့်မကင်း၊ လူတိုင်းသည် အချစ်နှင့် မကင်း။

(၈) နှုတ်ခမ်းရှဲ့သောသူသည် ဆဲရေးတတ်၏၊ မာနကြီးသူသည် စကားကျဲ၏။

(၉) ဦးချိုမကောင်းသော နွားကို မမွေးပါနှင့်၊ အလုပ်မလုပ်ဘဲ လေလွင့် နေသူကို မကျွေးပါနှင့်။

(၁၀) အစားကြောင့် ချစ်တတ်၏၊ စကားကြောင့် မုန်းတတ်၏။

(၁၁) မြန်မြန်စားသော် နင်တတ်၏၊ မြန်မြန်ပြေးသော် ချော်လဲတတ်၏။

(၁၂) ချစ်လျှင် လက်ဆောင်အဖြစ် အလကားပေးရာ၏၊ အရောင်းအဝယ်ပြုလျှင် အများတကာကဲ့သို့ ဈေးယူရာ၏။

(၁၃) နှုတ်ချိုသော် ပခုံးသက်သာ၏၊ နှုတ်ချိုသော် ဗိုက်ပြည့်၏။

(၁၄) ရေကန်ကို ဆဲဆိုလျှင် ငါးသတ္တဝါတို့ စိတ်နာတတ်၏၊ ခွေးကို ဆဲဆိုသော် အိမ်ရှင်သည် စိတ်နာတတ်၏။

(၁၅) အရိပ်ခိုသော် အကိုင်းကို မချိုးရာ၊ မိုးကြိုးမပစ်သော်လည်း မြွေကိုက်တတ်၏။

(၁၆) ကျီးကန်းအား သစ်စေးပုံးကို မစောင့်စေရာ၊ သူခိုးကို ဥစ္စာထုပ်အား မစောင့်စေရာ။

(၁၇) အတူတကွ ဝိုင်းဝန်းစားမှ အရသာမြိန်၏၊ အတူတကွ ဝိုင်းဝန်းမမှ အလေးချိန်ပေါ့၏။

(၁၈) နက်သောရေသည် အသံတိတ်ဆိတ်၏၊ ပညာရှိသည် တိတ်တိတ်နေတတ်၏။

(၁၉) တောချုံကိုလည်း မပျက်စေရာ၊ ယုံကိုလည်း မလွတ်ထွက်

စေရာ။

(၂၀) ကြာပန်းကိုလည်း မနွမ်းစေရာ၊ ရေကိုလည်း မနောက်စေရာ။

(၂၁) လုပ်ရင်တကယ်လုပ်ပါ။ ရလာရင် စားမကုန်သည့်အပြင် ပြန်ရောင်းနိုင်သည်။

(၂၂) စားလို၍ မေးမြန်းတတ်သည်၊ ခိုးလို၍ ထိတ်လန့်အောင်လုပ်တတ်သည်။

(၂၃) ပျော်ရွှင်ချင်သူ၏ မျက်နှာသည် စပ်ဖြဲဖြဲ၊ ရည်းစားစကားပြောသူ၏ မျက်နှာသည် ပျော့ရဲရဲ။

(၂၄) အုပ်စုကွဲသောနွားသည် အမဲသားဖြစ်၏၊ အမျိုးကွဲသော သားသမီးသည် တခြားသူဖြစ်သွား၏။

(၂၅) လူဖြစ်လာလျှင် မအပါနှင့်၊ မိမိကြောကို လှန်၍ သူတစ်ပါးအား မပြပါနှင့်။

(၂၆) လက်ကျိုးလျှင် အင်္ကျီထဲတွင်သာ ကျိုးပါစေ။

(၂၇) ပြောပြီးသော စကား၊ ဓားဖြင့်ခုတ်မိသွားသောအရာ၊ ကျိုးသွားသောကျောက်ခဲတို့သည် မူလအတိုင်းပြန်မဖြစ်တော့၊

(၂၈) အပြောကြီးသောသူသည် ကျားအရှင်ကို ဖမ်းမိတော့၏။

(၂၉) ကျီးကန်းကလည်း ဇီးကွက်ကိုမစွပ်စွဲပါနှင့်၊ ဇီးကွက်လည်း ကျီးကန်းကို မစွပ်စွဲပါနှင့်၊ အော်သံချင်း သိပ်မထူးပါဘူး။

(၃၀) လူသည် အသက်ရှူတာချင်း ခြားနား၏၊ တချို့က ငှက်ပျောသီးကို ဆားနှင့်တို့စားချင်ကြ၏။

(၃၁) မကတတ်လျှင် အိုးစည်တီးသူကို မစွပ်စွဲပါနှင့် ၊ မလုပ်တတ်လျှင် သူများကို မကွပ်ကဲပါနှင့်။

(၃၂) သကာလိုချိုသော တရားကို လူကြိုက်ရှား၏၊ ပဲပုပ်လိုနံသော အစားအစာကို လူကြိုက်များ၏။

(၃၃) သူတစ်ပါးကို ခိုင်းလျှင် စိတ်တိုင်းမကျ ၊ နှာခေါင်းဖြင့်စားလျှင် ဗိုက်မဝ။ (အနံ့ခံရရုံဖြင့် ဗိုက်မဝဟုဆိုလို၏။)

(၃၄) သူတစ်ပါးကို လက်ညှိုးထိုး၊ ကိုယ့်ဘက်တစ်ချောင်းတိုး။ (လက်မနှင့်လက်ညှိုးသာ သူများဘက်သို့လှည့်၏၊ လက်ခလယ်၊ လက်သူကြွယ်နှင့် လက်သန်းသည် ကိုယ့်ဘက်ကို လှည့်နေ၏)

(၃၅) ထက်လှစွာသော ဓားသည် သူ၏ဓားရိုးကို ပြန်ပြီးမခုတ်နိုင်။

(၃၆) အသွင်ပြောင်းသော သမန်းကျားသည် နွားကိုဖျောက်၏၊ အသွင် ပြောင်းသောသူသည် အမျိုးပျောက်၏။

(၃၇) အကောင်းပြောလာလျှင် ချက်ချင်းဝမ်းမသာပါနှင့်၊ မကောင်းပြောလျှင်လည်း ချက်ချင်းဝမ်းမနည်းပါနှင့်။

(၃၈) ဆင်ပြောင်ကြီးသည် သစ်တုံးကြီးကိုချီနိုင်သကဲ့သို့ စာကလေးသည်လည်း မြက်ပင်ကို ချီနိုင်သည်။

(၃၉) မတ်တပ်ရပ်လျှင် အပေါ်ထုပ်တန်းကို ကြည့်ပါ ၊ ထမင်းချက်လျှင် ထမင်းကျန်ကို အရင်ကြည့်ပါ။

(၄၀) ဝေးဝေးနေခြင်းသည် ချွေးနံ့ကိုမွှေးစေ၏၊ အနီးကပ်နေခြင်းသည် ချွေးနံ့ကို နံစေ၏။

(၄၁) ငါးရံ့သည် ရေထဲတွင် တစ်သက်လုံးနေသော်လည်း မဖြူ။ ဗျိုင်းသည် ကုန်းပေါ်နေသော်လည်း မမဲ။

(၄၂) ခွေးက သန်းကိုကိုက်သော်လည်း သန်းမသေ ၊ သန်းက ခွေးကိုကိုက်သော်လည်း ခွေးမသေ။

(၄၃) ကံမကောင်းလျှင် သစ်ပင်ကို အမှီပြုသော်လည်း သစ်ပင်သည် လဲကျ၏။ တိုင်ကိုအမှီပြုသော်လည်း တိုင်သည် လဲကျရာ၏။

(၄၄) ဒုက္ခရောက်ချိန် ဝက်ဝံကိုရှောင်စဉ် ကျားနှင့်ဝင်တိုးတတ်၏။

(၄၅) ဝါးခမောက်လုပ်သူ ဖက်ခမောက်ကိုဆောင်၊ အိုးစည်လုပ်သူ

ဝါးခေါင်းကိုတီး။

(၄၆) ကိုရင်ကလေးသည် ကြေးစည်ကြီးကို ရိုက်ခတ်၍ အမြဲတမ်း ငိုအောင်ပြု၏။ တစ်ခါတစ်ရံ ကြေးစည်ကြီးသည် ကိုရင်ကလေးကို ပြန်ရိုက်ခတ်သောအခါ ကိုရင်ကလေးသည် ကြေးစည်ထက် အကြာကြီးငိုနေတတ်၏။ ။





ရှမ်းမိသားတစ်စု၏ ကိုယ်ကာယသန့်ရှင်းမှု

မြှင့်သုံးသပ်ချက်။

အခန်း (၁) တွင် "ရှမ်း" ဝေါဟာရ ရှင်းလင်းချက်နှင့် ရှမ်းလူမျိုးများ မိမိကိုယ်ကို "တိုင်း" ဟုခေါ်ဆိုကြသဖြင့် ထို "တိုင်း" ဝေါဟာရ ရှင်းလင်းချက်ကိုလည်း အဓိပ္ပါယ်ဖွင့်ဆိုထားပါသည်။ ထို့အပြင် "ရှမ်း"ခေါ် "တိုင်း" လူမျိုးများ ရောက်ရှိရာအရပ်ဒေသနှင့် ၎င်းတို့၏ အမည်ကွဲများ အကြောင်းကို ဖော်ပြထားပါသည်။

ဤအခန်းကို ဖတ်ရှုခြင်းအားဖြင့် "ရှမ်း" ဆိုသည်မှာ "အရှင်သခင်အဖြစ်ဖြင့် အစိုးရတတ်ခြင်း၊ ရွှေအဆင်းနှင့်တူသော ဝါဝင်းသော ကိုယ်အဆင်းရှိခြင်းစသော "ရှမ်း" စကားလုံး ဖွင့်ဆိုချက်များကို သိရှိနိုင်သည့်အပြင် "တိုင်း"၏ အဓိပ္ပါယ်ကိုလည်း "အဆင့်အတန်းရှိသောလူဟူ၍လည်းကောင်း၊ ကြီးမြတ်ခြင်း၊ အရှင်သခင်ဖြစ်ခြင်း၊ လွတ်လပ်သူဖြစ်ခြင်း၊ သူ့ကျွန်မခံလိုသူ ဖြစ်ခြင်းစသော ဖွင့်ဆိုချက်ကို သိရှိရမည်ဖြစ်သည်။ ထို့အပြင် "တိုင်း" ခေါ် "ရှမ်း" လူမျိုးတို့၏ တိုင်းနေ၊ တိုင်းမောဝ်၊ တိုင်းလုံစသော ရှမ်းအမည်အမျိုးမျိုးကိုလည်း သိရှိနိုင်ပြီး ထိုအမည်များသည် နေရာဒေသကိုလိုက်၍ ကွဲပြားမှုရှိသော်လည်း ထိုသူတို့သည် ရှမ်းမျိုးနွယ်များသာ ဖြစ်ကြကြောင်း၊ ထိုရှမ်းများသည် အသံလေး၊ အသံပေါ့များသာ စကားကွဲလွဲမှု ရှိကြပြီး အခြေခံစကားများသည် များစွာတူညီနေကြပေသည်။ ယခုအခါ ကွန်ပျူတာခေတ်၊ အင်တာနက်ခေတ်ရောက်လာသည်နှင့်အညီ ကမ္ဘာပေါ်ရှိ ဘာသာစကားများ အလွယ်တကူ လေ့လာနိုင်အောင် ပြုလုပ်နိုင်နေပြီဖြစ်သောကြောင့် ထိုစကားသံကွဲနေသော ရှမ်းများသည်လည်း တစ်နေ့နေ့တွင် တစ်ခွန်းတည်းသော စကားသံများ မပြောဆိုနိုင်ကြဟု မည်သူမျှ ဆိုနိုင်မည် မဟုတ်ပေ။

အခန်း(၂) တွင် ဘီစီ ၂၀၀၀ ကျော်မှစ၍ အေဒီ ၁၅ ရာစုအထိ ရှမ်းလူမျိုးတို့၏ သမိုင်းကြောင်းကို တင်ပြထားပါသည်။ ထိုသမိုင်းကြောင်း

တွင် ရှမ်းလူမျိုးတို့၏ စုနိုင်ငံတော်၊ ပန်နိုင်ငံတော်၊ ပါးနိုင်ငံတော်၊ အိုက်လောဝ်နိုင်ငံတော်၊ နန်ချောင်နိုင်ငံတော်နှင့် မောနိုင်ငံတော်များကို ဖော်ပြထားသည်။ ရှေးခေတ်ရှမ်းလူမျိုးများသည် အာရှတိုက်တစ်ခွင်တွင် တရုတ်နှင့် တိဗက်နိုင်ငံ ကြီးများကဲ့သို့ တန်ခိုးဩဇာကြီးထွားခဲ့ပုံ၊ ရှေးခေတ် ရှမ်းလူမျိုးများသည် သမိုင်းပေးတာဝန်ကို ကျေပွန်စွာ ထမ်းဆောင်ခဲ့ပုံများးကို တင်ပြထားပါသည်။

ဤအခန်းကို ဖတ်ရှုခြင်းအားဖြင့် ကမ္ဘာ့သမိုင်းပညာရှင်များ အဆိုအရ ရှမ်းလူမျိုးများသည် လွန်ခဲ့သော နှစ်ပေါင်း ၄၀၀၀ ကျော်က မြစ်ဝါမြစ်ဝှမ်း၌လည်းကောင်း၊ ယန်စီမြစ်တောင်ပိုင်းတွင်လည်းကောင်း ရှမ်းလူမျိုးများ အခြေချနေထိုင်လာခဲ့ကြောင်း ရှမ်းသမိုင်းဦးကို တွေ့မြင်ရပေသည်။ အိုက်လောဝ်နိုင်ငံတော်မှတစ်ဆင့် ပေါက်ဖွားလာသော နန်ချောင်နိုင်ငံတော်ကြီးသည် ရှမ်းလူမျိုးတို့၏ ထင်ရှားသော သမိုင်းမှတ်တိုင်ကြီး တစ်ခုဖြစ်ခဲ့သည်။ နန်ချောင်ဘုရင်များသည် အမြော်အမြင်ရှိကြသည်။ မိမိတို့၏ တိုင်းပြည်အခြေအနေနှင့် ပြည်ပနိုင်ငံများ၏ အခြေအနေကို သိရှိနားလည်ကြသည်။ တိုင်းပြည်ကို စည်းစနစ်ကျကျ အုပ်ချုပ်ထိန်းသိမ်းနိုင်ခဲ့သည်။ စည်းလုံးမှုရှိကြပြီး ခေါင်းဆောင်ကောင်းများရှိသဖြင့် အင်အားကြီးသော တရုတ်နှင့်တိဗက်တို့ကိုပင် တွန်းလှန်တိုက်ခိုက်နိုင်ခဲ့သည်။ နန်ချောင်သမိုင်းတွင် ပူးပေါင်းသင့်သောအချိန်ကာလ၌ ပူးပေါင်းသင့်သူကို ပူးပေါင်း၍ တိုက်ခိုက်သင့်သူများကိုလည်း တိုက်ခိုက်ပစ်ကြသည်ကို တွေ့ရသည်။ နယ်မြေများကိုလည်း ချဲ့ထွင်နိုင်ခဲ့ပြီး တိုင်းသစ်ပြည်သစ်များကိုလည်း ထူထောင်နိုင်ခဲ့သည်။ ထင်ရှား၍ အစွမ်းထက်သော ဘုရင်များမှာ ဘုရင်စီနုလို၊ ဘုရင်ခိုလိုဖုန်း၊ ယီမွန်ဆွန်နှင့် ခွန်ဖုန်းယုတို့ဖြစ်သည်။ နန်ချောင်နိုင်ငံတော်သည် အေဒီ ၆၄၉ ခုမှ အေဒီ ၁၂၅၃

ခုနှစ်တိုင်အောင် နှစ်ပေါင်း ၅၆၈ နှစ်ရှည်ကြာခဲ့ပြီး လွတ်လပ်သော ရှမ်းတို့၏ နိုင်ငံတော်ကြီးဖြစ်ခဲ့သည်။ ယူနန်နယ်အားလုံး၊ မြန်မာနိုင်ငံအထက်ပိုင်းဒေသများ၊ အာသံမဏိပူရဒေသများ၊ စီချွန်ပြည်နယ်တောင်ပိုင်းဒေသ၊ ကွမ်စီပြည်နယ်အနောက်ပိုင်း၊ တုံကင်းအထက်ပိုင်းမှ ကမ္ဘောဒီးယားအထိတို့သည် နန်ချောင်နိုင်ငံတော်၏ ဧရိယာဖြစ်ခဲ့သည်။ ထို့အပြင် နန်ချောင်မင်းဆက်များ အမည်မှည့်ပုံသည် ရှေးခေတ်ပုဂံများတို့၏ အမည်မှည့်ပုံနှင့် တူညီနေသည်ကို စိတ်ဝင်စားဖွယ်အဖြစ် တွေ့ရသည်။

ပျက်စီးတတ်သော လောက၏ သဘောအရ နန်ချောင်နိုင်ငံတော်ကြီးသည် အေဒီ ၁၂၃၅ ခုနှစ်တွင် မွန်ဂိုများ ဝင်ရောက်တိုက်ခိုက်မှုကြောင့် ပျက်စီးခဲ့ရသည်။ နန်ချောင်နိုင်ငံတော်ကြီး ပျက်စီးသွားပြီးနောက် လွတ်လပ်ရေးကို မြတ်နိုးကြသော ရှမ်းလူမျိုးများသည် မောနိုင်ငံတော်ကြီးကို ဆက်လက်တည်ထောင်နိုင်ခဲ့သည်။ မောနိုင်ငံတော်သည် မောသခင်မ နန်းအိခမ်းလှိုင်က တိုင်းပြည်ကို (၁၆) နှစ် အုပ်ချုပ်ခဲ့သည်ကို ကြည့်ခြင်းအားဖြင့် ရှမ်းအမျိုးသမီးများသည်လည်း တိုင်းရေးပြည်ရေးကို စွမ်းဆောင်နိုင်သော ပုဂ္ဂိုလ်များဖြစ်ကြောင်း ထင်ရှားပေသည်။ ထို့ကြောင့် ရှမ်းလူမျိုးတို့၏ စကားပုံတစ်ခုမှာ "နန်းယိင်းမော်ပေါင်မိန်း ဦမွန်ဟိန်းတိမ်ဖ" အမျိုးသမီးများ တိုင်းပြည်ကို စီမံအုပ်ချုပ်တတ်လျှင် ဘုန်းတန်ခိုးသည် မိုးထက်အာကာပြည့်၏" ဟုပင် ဆိုရိုးပြုထားကြသည်။ မောနိုင်ငံတော်၏ ထင်ရှားသော ဘုရင်မှာ မောဘုရင် ဆေခန်ဖ(အေဒီ ၁၃၁၁-၁၃၆၄)ပင် ဖြစ်သည်။ ဆေခန်ဖသည် ကွဲပြားနေသော ရှမ်းတို့ကို ပြန်လည်စည်းရုံးနိုင်ခဲ့သည့်အပြင် တရုတ်တို့သိမ်းပိုက်ထားသော ဘိုးဘွားပိုင်နယ်မြေများကိုပင် ပြန်လည်တိုက်ခိုက် သိမ်းပိုက်ယူနိုင်ခဲ့သည်။ မောနိုင်ငံ၏ နောက်ဆုံးဘုရင်မှာ သိုင်ဘွား၊ သိုချည်ဘွားတွင် အဆုံးသတ်လေတော့သည်။ သိုင်ဘွား၊ သိုချည်ဘွားတို့သည် မိမိတို့ထက် အင်အား

အဆမတန်များသော တရုတ်စစ်တပ်တို့ကို အနိုင်မခံ အရှုံးမပေးလိုသော စိတ်ဓာတ်ဖြင့် တရုတ်တို့ကို ခုခံတိုက်ခိုက်ခဲ့သည်။ တရုတ်စေကြရာစ်ကပင် အတန်တန်စစ်ကူများပို့၍ သိုင်ဘွားတို့ကို တိုက်ခိုက်သဖြင့် ရှမ်းလူမျိုးများသည် ဤစစ်ပွဲကြောင့် ချင်းတွင်းမြစ် အတိုင်းဆန်တက်သွားပြီး အာသံအထိရွှေ့ပြောင်း နေထိုင် ကြလေသည်။ မောနိုင်ငံတော် ပျက်စီးသွားပြီးနောက် ရှမ်းများသည် နေရာအနှံ့သို့ ရောက်သွားကြသဖြင့် စော်ဘွားနိုင်ငံများသာ တည်ထောင်နိုင်ခဲ့ကြလေတော့သည်။ အေဒီ ၁၃ ရာစုနောက်ပိုင်းတွင် ယိုးဒယားရှမ်းများသာလျှင် ဘုရင့် နိုင်ငံတော်အဖြစ် တည်ထောင်နိုင်ကြပြီး ကျူးကျော်လာသော မွန်ဂို၊ တရုတ်၊ မြန်မာများကို တွန်းလှန်တိုက်ခိုက်နိုင်၍ သီးခြားလွတ်လပ်သော တိုင်းပြည်တစ်ခုအဖြစ် ယနေ့တိုင် တည်ထောင်နိုင်လေသည်။ လောရှမ်းများသည်လည်း ထို့အတူ လောနိုင်ငံတစ်နိုင်ငံအဖြစ် တည်ထောင်နိုင်ခဲ့သည်။

အခန်း (၃) တွင် အေဒီ ၁၃ ရာစုမှ အေဒီ ၁၉ ရာစုအတွင်း မြန်မာနိုင်ငံနှင့် အရှေ့တောင်အာရှသို့ ရောက်ရှိလာကြသော ရှမ်းလူမျိုးများအကြောင်း၊ တရုတ်လက်အောက်ခံ ရှမ်းစော်ဘွားများ၊ မြန်မာလက်အောက်ခံ ရှမ်းစော်ဘွားများ၊ ယိုးဒယားလက်အောက်ခံ ရှမ်းစော်ဘွားများစသည်ဖြင့် ကွဲပြားပုံ၊ ဗဟိုအုပ်ချုပ်မှုစနစ် တစ်ခုတည်းတွင် မရှိနိုင်ကြသော ရှမ်းလူမျိုးများ အချင်းချင်းသွေးကွဲပြီး အချင်းချင်းတိုက်ခိုက်ရပုံများ အကြောင်းကို တင်ပြထားပါသည်။

ဤအခန်းကို ဖတ်ရှုခြင်းအားဖြင့် ၁၃ ရာစု အဆုံးပိုင်းလောက်တွင် ရှမ်းညီနောင်သုံးပါးတို့ ပုဂံထီးနန်းကို ဆက်လက်ခံယူခဲ့ကြသည်။ ထို့နောက် အေဒီ ၁၆ ရာစုတွင် မိုးညှင်းစလုံသည် ပြည်ဘုရင်ကို ပူးပေါင်း၍ အင်းဝကိုတိုက်ခိုက်သည်။ အင်းဝနှင့် အုန်းပေါင်ခွန်မိန်းငယ်တို့က ပူးပေါင်းပြီး ခုခံတိုက်ခိုက်သည်။ အင်းဝကို အောင်နိုင်ပြီးနောက် မိုးညှင်း

လုံ၏သားတော် အင်းဝဘုရင်သို့ဟန်ဘွားသည် ရဟန်းတော်များအား သံသယရှိ၍ သတ်ဖြတ်ပစ်သဖြင့် မြန်မာ့သမိုင်းတွင် အမဲစက်မှတ်တမ်း အဖြစ် ကျန်ရစ်ခဲ့လေသည်။ တောင်ငူခေတ်မှစ၍ မြန်မာမင်းများအင်အား ကြီးမားလာသဖြင့် ရှမ်းစော်ဘွားများသည် မြန်မာမင်းများထံသို့ အခွန် ပဏ္ဏာတော်များအစဉ်ဆက်သလာခဲ့ရလေသည်။ မြန်မာမင်းများနှင့် ပူးပေါင်း၍ ကျူးကျော်လာသော တရုတ်တို့ကိုလည်း ခုခံတိုက်ခိုက်ကြ သည်။ မြန်မာမင်းများနှင့် ပူးပေါင်း၍ ယိုးဒယားနိုင်ငံကိုလည်း သွား ရောက်တိုက်ခိုက်ကြသည်။ နယ်မြေလုမှုကြောင့် အချင်းချင်းလည်း တိုက် ခိုက်ကြသည်။ အေဒီ ၁၃ ရာစုမှစ၍ ၁၉ ရာစုအထိ ရှမ်းပြည်နယ်သည် စစ်တလင်းဒေသဖြစ်ခဲ့သည် ဟု ဆိုလျှင်လည်းမှားမည်မဟုတ်ပေ။ ရှမ်းလူမျိုးသည် စစ်ဘေးစစ်ဒဏ်အကြားမှ ပေါက်ဖွားလာသော လူမျိုးဟုဆိုလျှင်လည်း မှားမည်မထင်၊ ဤကဲ့သို့ စစ်ဖြစ်နေကြခြင်းမှာ လူမျိုးကြောင့်မဟုတ်ပေ။ အမှန်မှာထိုသူတို့၏ အဇ္ဈတ္တသန္တာန်တွင် ကိန်းအောင်နေသော် လောဘ၊ ဒေါသ၊ မောဟ၊ မာနစသည်တို့ကြောင့် သာဖြစ်ပေသည်။ သမိုင်းပေးသင်ခန်းစာအရ တိုင်းပြည်ငြိမ်းချမ်းရေး ရမှသာလျှင် ပြည်သူလူထု သာယာဝပြောပေမည်။ ယိုးဒယားရှမ်းများကမူ သမိုင်းပေးသင်ခန်းစာကို ရယူတတ်ကြသဖြင့် အေဒီ ၁၈ ရာစုမှ စ၍ စစ်ကိုရှောင်နိုင်အောင် ကြိုးစားလာကြသည်ကို တွေ့ရသည်။ ထို့ကြောင့် ယိုးဒယားနိုင်ငံသည် အင်္ဂလိပ်၊ ပြင်သစ်စသော နယ်ချဲ့တို့၏ လက် အောက်တွင် မကျရောက်ဘဲ မိမိတို့၏ လွတ်လပ်ရေးကို ကာကွယ်နိုင် သော နိုင်ငံတစ်နိုင်ငံအဖြစ် အာရှတိုက်တွင် တည်ရှိခဲ့သည်။ ဒုတိယကမ္ဘာ စစ်တွင်လည်း စစ်ဘေးစစ်ဒဏ်မှ လွတ်ခဲ့သည်ဟု ဆိုရပေမည်။

အခန်း (၄) တွင် နယ်ချဲ့အင်္ဂလိပ်တို့ မြန်မာပြည်နှင့် ရှမ်းပြည် ကို လာရောက်သိမ်းပိုက်ပုံ၊ ရှမ်းစော်ဘွားများသည်လည်း အချင်းချင်း

ညီညွတ်မှု မရှိကြတော့သဖြင့် ရှမ်းပြည်တစ်ခုလုံးကို အင်္ဂလိပ်များ အနုနည်းဖြင့် အလွယ်တကူ စည်းရုံးသိမ်းသွင်းနိုင်ခဲ့ပုံ၊ ဒုတိယကမ္ဘာစစ်နှင့် ရှမ်းပြည်နယ်အကြောင်း၊ စစ်ပြီးခေတ်မှ လွတ်လပ်ရေးရသည့်ခေတ်အထိ ရှမ်းလူမျိုးများနှင့် မြန်မာနိုင်ငံတိုင်းရင်းသားများ လွတ်လပ်ရေးကြိုးပမ်းမှု အကြောင်းများကိုလည်း ဤအခန်း၌ ဖော်ပြပါသည်။

ဤအခန်းကို ဖတ်ရှုခြင်းအားဖြင့် ရှမ်းစော်ဘွားများ သူ့နယ်ကိုယ့်နယ် သူတစ်လူငါတစ်မင်းအုပ်ချုပ် နေကြခြင်း၊ အချင်းချင်း မညီမညွတ်ဖြစ်နေကြခြင်းသည် နယ်ချဲ့အင်္ဂလိပ်တို့၏ အကြိုက်ဖြစ်ပေသည်။ စော်ဘွားများသည်လည်း မိမိတို့ အချင်းချင်း မညီညွတ်ကြသဖြင့် တစ်ဦးကိုတစ်ဦး အားထားမှုပြု၍ မရနိုင်တော့ချေ။ မိမိတို့၏ ကိုယ်ပိုင် နယ်မြေတည်တံ့ရေးအတွက် အားကိုးရလောက်သော အင်္ဂလိပ်တို့ထံသာ အကူအညီတောင်းခံလာခဲ့ကြသည်။ အင်္ဂလိပ်တို့သည် စော်ဘွားတို့၏ အားနည်းချက်ကို သိရှိကြသဖြင့် ရှမ်းပြည်နယ်အားလုံးကို အလွယ်တကူပင် သိမ်းသွင်းနိုင်ခဲ့လေတော့သည်။ အင်္ဂလိပ်လက်ထက်တွင် ရှမ်းစော်ဘွားများ အချင်းချင်း စစ်တိုက်ခိုက်မှု မရှိသည်ကို တွေ့ရသည်။ ဒုတိယကမ္ဘာစစ်မီးကြီး တောက်လောင်လာသောအခါ ရှမ်းပြည်သည်လည်း စစ်ဘေးစစ်ဒဏ်ကို ခံခဲ့ရလေသည်။ ရှမ်းပြည်သူတို့သည် ကျွန်ုပ်တစ်ကောင်အကြားမြေစာပင်ဘဝရောက်ခဲ့ရလေသည်။ ဒုတိယကမ္ဘာစစ် ပြီးဆုံးသွားသောအခါ ကိုလိုနီနိုင်ငံအသီးသီးက လွတ်လပ်ရေးကို တောင်းဆိုလာခဲ့ကြသည်။ ပဒေသရာဇ်စော်ဘွားများ ကိုယ်တိုင်လည်း မြန်မာပြည်ဖွား တိုင်းရင်းသားများနည်းတူ သွေးစည်းညီညွတ်စွာဖြင့် ပူးပေါင်းဆောင်ရွက်လာခဲ့ကြပြီး ၁၉၄၇ ခု ဖေဖော်ဝါရီလ ၇ ရက်နေ့တွင် ပဒေသရာဇ်ကောင်စီကို ဖျက်သိမ်း၍ လူထုကိုယ်စားလှယ်များ ပါဝင်သော ရှမ်းပြည်နယ်ကောင်စီကို ဖွဲ့စည်းနိုင်ခဲ့သည်။ ထိုနှစ် ဖေဖော်ဝါရီလ ၁၂ ရက်နေ့တွင်

ပြည်မတောင်တန်းပူးပေါင်းရေး ကမ္ဘာသိ ပင်လုံစာချုပ်ကိုလည်း ရှမ်းပြည် နယ် ပင်လုံတွင် ချုပ်ဆိုနိုင်ခဲ့ပြီး ပြည်ထောင်စုနေ့အဖြစ် မြန်မာ့သမိုင်း မှတ်တိုင်ကို စိုက်ထူနိုင်ခဲ့လေသည်။ ထိုမှတစ်ဆင့် ၁၉၄၈ ခု ဇန်နဝါရီ ၄ ရက်နေ့တွင် ပြည်ထောင်စုမြန်မာနိုင်ငံတော် လွတ်လပ်ရေး ရလာခဲ့ သည်။ ရှမ်းပြည်သည်လည်း ပြည်ထောင်စုမြန်မာနိုင်ငံတွင် ပြည်နယ် တစ်ခုအဖြစ် ပါဝင်လေသည်။

အခန်း (၅) တွင် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ပါဝင် သော ရှမ်းပြည်နယ်၏ ပထဝီဝင်များအကြောင်း၊ ရှမ်းပြည်နယ်ရှိ ရှမ်း လူမျိုးများအကြောင်းနှင့် အခြားတိုင်းရင်းသားများ အကြောင်းကို ဖော်ပြ ထားသည်။ ထို့အပြင် ရှမ်းလူမျိုးတို့၏ ကြွန်အင်လက္ခဏာနှင့် ဘာသာ စကားအနွယ်များကိုလည်း ဗဟုသုတအဖြစ် တင်ပြထားပါသည်။

ဤအခန်းကို ဖတ်ရှုတွင် ရှမ်းပြည်နယ်၏ တည်နေရာ၊ အကျယ် အဝန်းနှင့် မြေမျက်နှာသွင်ပြင်များကို သိရှိရပါသည်။ ရှမ်းပြည်နယ်ရှိ မြင့်မားမတ်စောက်သော တောင်များ၊ ရှမ်းတောင်တန်းအကြား စီးဆင်း နေသော နမ့်ခုံး (သံလွင်မြစ်)၊ နမ့်မောဝ် (ရွှေလီမြစ်) စသော မြစ်များ၊ ရှမ်းပြည်နယ်၏ အောက်ခံမြေ သယံဇာတများအပြင် အေးမြသော ရှမ်း ပြည်ရာသီဥတုအကြောင်းများ၊ ရှမ်းပြည်၏ တောတောင်သဘာဝပေါက် ပင်များကို စိတ်ဝင်စားစွာ တွေ့ရပါသည်။ ထို့အပြင် ရှမ်းပြည်သို့ ဆက် သွယ်သော ကုန်းလမ်းခရီး၊ လေကြောင်းလမ်းခရီးများ အကြောင်းကို လည်းဗဟုသုတအဖြစ် ဖေါ်ညွှန်းထားပါသည်။ ၎င်းအပြင် ရှမ်းပြည်စိုက် ပျိုးရေးအကြောင်းနှင့် တွင်းထွက်ပစ္စည်းများကိုလည်း မီးမောင်းထိုးပြ ထားလေသည်။ ရှမ်းပြည်နယ်သည် ပြည်ထောင်စုမြန်မာနိုင်ငံတွင် လူမျိုးစုပေါင်းစုံ နေထိုင်သောပြည်နယ် တစ်ခုဖြစ်ကြောင်း၊ ရှမ်းပြည်နယ် ရှိ ရှမ်းလူမျိုးနွယ်များ၊ အခြားသွေးချင်းများ၏ အမည်တို့ကိုလည်း မှတ်

သားဖွယ် တင်ပြထားသည်ကို တွေ့ရသည်။ ထို့အပြင် ကမ္ဘာပေါ်ရှိ ဘာသာစကားအနွယ်များကို ဖေါ်ပြပြီး ရှမ်းလူမျိုးတို့ ပြောဆိုသော ဘာသာစကားသည် "ကမ်းတိုင်း" အုပ်စုတွင်ပါဝင်ကြောင်း၊ ထိုကမ်းတိုင်းအုပ်စုစကားပြောသူတို့၏ နေရာဒေသတို့ကိုလည်း စုဆောင်း တင်ဆက်ထားသည်ကိုလည်း ဗဟုသုတဖြစ်ဖွယ် တွေ့ရှိမှတ်သားရမည်ဖြစ်ပါသည်။

အခန်း (၆) တွင် ဤကျမ်း၏ အဓိကအခန်းကဏ္ဍဖြစ်သော ရှမ်းလူမျိုးတို့၏ ယုံကြည်ကိုးကွယ်မှု အကြောင်းကို သမိုင်းကြောင်း အထောက်အထားများစွာတို့ဖြင့် အကျယ်တဝင့် ဆွေးနွေးတင်ပြထားပါသည်။

ဤအခန်း၌ ရှမ်းလူမျိုးများ ၉၅ ရာခိုင်နှုန်းသည် ဗုဒ္ဓဘာသာဝင်များဖြစ်ကြောင်း၊ ဘုရားလက်ထက်မှစ၍ သာကီဝင်တို့ထံမှတစ်ဆင့် ဗုဒ္ဓဘာသာကို ကိုးကွယ်ခဲ့သူများဖြစ်ကြောင်း၊ တကောင်းနှင့် ဆက်စပ်ပုံအကြောင်း၊ မိုးမိတ်ရာဇဝင်အရ ရှမ်းလူမျိုးများ ရှေးကတည်းက ဗုဒ္ဓဘာသာဝင်ဖြစ်ပုံကို "သားတော်ရဘုရား" စေတီကို တည်သည့် မိဖုရားနန်းမြဝတီအကြောင်း၊ ရှမ်းလူမျိုးတို့သည် မဟာယာနဗုဒ္ဓဘာသာကို ယုံကြည်ကိုးကွယ်ခဲ့သူဖြစ်ကြောင်း ကမ္ဘာ့သမိုင်းပညာရှင်များ၏ အယူအဆဖြင့် သော်လည်းကောင်း၊ သာသနာနှစ် ၅၃၈ (ခရစ်မပေါ်မီ ၄ နှစ်) တွင် တိဗက်မှ မဟာယာနသာသနာပြုများ မိုးမိတ်သို့ သာသနာပြုရောက်လာပုံကို မိုးမိတ်ရာဇဝင် အဆိုအရသော်လည်းကောင်း တင်ပြထားလေသည်။ အနောက်တိုင်း သမိုင်းပညာရှင်များဖြစ်သော ဆာဂျော့စကော့၊ မစ္စတာတော်စိန်ခိုစသူတို့၏ ယူဆချက်အရ ရှမ်းလူမျိုးများသည် တရုတ်၊ မွန်ဂိုလီးယား နှင့် တိဗက်တို့ထံမှ မဟာယာနဗုဒ္ဓဘာသာကို လက်ခံရရှိပုံကိုလည်း ဖေါ်ပြထားသည်ကို စိတ်ဝင်စားဖွယ် မှတ်သားရပါမည်။ စာပေသည်လည်း လူမျိုးတစ်မျိုး၏ မှတ်တိုင်အဖြစ် အရေးကြီး၍ ခိုင်မာသော

အထောက်အထားဖြစ်သဖြင့် ရှမ်းလူမျိုးများသည် ထေရဝါဒဗုဒ္ဓဘာသာကို လက်မခံမီက ခိုင်မာသော အထောက်အထားဖြစ်သဖြင့် ရှမ်းလူမျိုးများသည် ထေရဝါဒဗုဒ္ဓဘာသာကို လက်မခံမီက မဟာယာနဗုဒ္ဓဘာသာကို လက်ခံထားသူများဖြစ်ကြောင်းကို ရှမ်းစာ အဟုမ်စာများဖြင့် ဗဟုသုတဖြစ်ဖွယ် ဆွေးနွေးတင်ပြထားပါသည်။

၎င်းအပြင် ရှမ်းလူမျိုးများ ထေရဝါဒကို စတင်ထိတွေ့ ကိုးကွယ်လာခဲ့ပုံများ၊ ယောနကတိုင်းသို့ သာသနာအဆက်ဆက် ရောက်ရှိလာပုံများ၊ ထိုင်းရှမ်းတို့သည် မွန်ခမာတို့ထံမှ ထေရဝါဒဗုဒ္ဓဘာသာကို စတင်ရရှိလာပုံများ၊ ရှမ်းမင်းများအချင်းချင်း ဘာသာရေးဆက်စပ်မှုရှိခဲ့ပုံများ ဘုရင့်နောင်၊ ဘိုးတော်မင်းတရားစသော မြန်မာမင်းများ ထေရဝါဒဗုဒ္ဓဘာသာကို ရှမ်းပြည်သို့ ပြန့်စေပုံများကို စိတ်ဝင်စားဖွယ် ဗဟုသုတအဖြစ် စုဆောင်းတင်ပြထားပါသည်။ ရှမ်းပြည်နယ်၏ မျက်မှောက်သာသနာတော်အကြောင်းကိုလည်း ဖေါ်ပြထားပါသည်။

အခန်း(၇)တွင် ရှမ်းလူမျိုးတို့၏ ယဉ်ကျေးမှု ဓလေ့ထုံးစံများကို စုဆောင်း တင်ပြထားခြင်းဖြစ်သည်။

ဤအခန်းကို ဖတ်ရှုခြင်းအားဖြင့် ရှမ်းလူမျိုးတို့၏ ရိုးရာယဉ်ကျေးမှုဓလေ့ထုံးစံတို့ကိုဗဟုသုတများစွာ ရရှိစေပါသည်။ လူမျိုးတစ်မျိုး၏ ယဉ်ကျေးမှုသည် လူမှုဆက်ဆံရေးအတွက်လွန်စွာအရေးပါသည်ကို တွေ့ရမည်။ ယဉ်ကျေးမှုကို နားမလည်ပါက မယဉ်ကျေးသူအဖြစ်သို့လည်း သက်ရောက်နိုင်သည်။ အလိုက်မသိခြင်းလည်း ဖြစ်သွားနိုင်ပါသည်။ လူမျိုးတစ်မျိုး၏ ယဉ်ကျေးမှုသည် မှားသည်ဖြစ်စေ မှန်သည်ဖြစ်စေ "အမှားကိုပင် အမှန်ထင် ပြင်ရန်ခက်ခဲစွ" ဆိုသည့်အတိုင်း ထိုလူမျိုးအတွက် အရိုးစွဲ နေပြီဖြစ်သောကြောင့် သူတစ်ပါး၏ ယဉ်ကျေးမှုကို လေးစားတတ်ရန် လွန်စွာအရေးကြီးပါသည်။

ရှမ်းလူမျိုးတို့သည်လည်း ယဉ်ကျေးမှုထွန်းကားလာခဲ့သော လူမျိုးတစ်မျိုး ဖြစ်လေသည်။ ဤအခန်း၌ ဦးစွာ ပထမ ရှမ်းလူမျိုးတို့၏ ၁၂ ရာသီပွဲတော်များအကြောင်းကို တင်ပြခြင်းအားဖြင့် ရှမ်းတို့၏ဓလေ့ကို များစွာဗဟု သုတဖြစ်စေပါသည်။ ၁၂ ရာသီပွဲတော်များသည် ဘာသာရေး ဆိုင်ရာ ပွဲတော်များသာဖြစ်သဖြင့် ရှမ်းလူမျိုးတို့၏ ဘာသာရေးရှိုးသေ ကိုင်းရှိုင်းမှုကို ဖော်ညွှန်းလျက်ရှိသည်။ ရှမ်းလူမျိုးများ၏ဆွေမျိုးတော်စပ်ပုံ မှာလည်း အဘိုး၊ အဘွားကို ရှမ်းများကမိခင်ဘက်တွင် တစ်မျိုး၊ ဖခင် ဘက်တွင်တစ်မျိုး ခေါ်ဆိုကြပုံကို ကြည့်ရှုခြင်းအားဖြင့် အမိဘက်မှဆွေမျိုး (သို့မဟုတ်) အဖဘက်မှ ဆွေမျိုးဖြစ်ကြောင်းစသည်ဖြင့် အလွယ်တကူသိ နိုင်ပါသည်။ သားသမီးများ၏ အမည်ကို ကြားရရုံဖြင့် ထိုသူသည် ဘယ် နှစ်ယောက်မြောက် သားသမီးများဖြစ်ကြောင်းကိုလည်း လွယ်ကူစွာသိရှိ နိုင်ပါပေသည်။ ရှမ်းလူမျိုးတို့၏ ဆွေမျိုးအခေါ်များ များစွာရှိပုံကိုလည်း ဗ ဟုသုတတိုးစေပါသည်။ ရှမ်းလူမျိုးတို့၏ ပညာသင်ကြားခြင်း၊ ကိုယ်ဝန် ဆောင်ခြင်း၊ မီးနေခြင်း၊ ကင်ပွန်းတပ်ခြင်းများသည်လည်း မြန်မာလူမျိုး များနှင့် တူညီမှုများရှိသကဲ့သို့ ကွဲပြားခြားနားမှုများလည်း ရှိကြောင်းကို ဗဟုသုတအဖြစ် မြင်တွေ့ရပါသည်။ ရှမ်းတို့၏ ရှင်ပြုအခမ်းအနားကို ဖတ်ရှုခြင်းအားဖြင့် ရှမ်းရှင်ပြုပုံများကို သိမြင်နိုင်ပါသည်။ "ရှမ်းရှင်ပြုအ လွယ်ကလေး" ဟု တချို့က ဆိုကြသော်လည်း ရှမ်းရှင်ပြုသည် မြန်မာများ ထက် အချက်အလက်များပိုများနေကြောင်း သိရှိရပါသည်။ ယခုအခါ ထိုင်းနိုင်ငံ မြောက်ပိုင်း မယ်ဟောင်ဆောင်နှင့် ဇင်းမယ်ဒေသတွင် နာမည် ကျော်ကြားနေသောရှင်ပြုပွဲများသည်ရှမ်းရှင်ပြုနည်း များပင်ဖြစ်ပေသည်။

အိမ်တက်မင်္ဂလာပွဲတွင်ကား မြန်မာများနှင့် တူညီသည်ကိုတွေ့ရ သည်၊ ဘာသာရေးနှင့်ဆက်နွှယ်သည်ကို တွေ့ရသည်။ ရှမ်းလူမျိုးတို့၏ လူမှုရေးစနစ်များကို ကြည့်လျှင် လူပျိုအပျိုဘဝ၊ လက်ထပ်မင်္ဂလာပွဲ၊

လင်မယားကွာရှင်းမှု မုဆိုးမနှင့် တစ်ခုလပ်အပေါ် သဘောထားများသည် ချုပ်ချယ်မှုမရှိဘဲ လွတ်လပ်မှုရှိပြီး ကိုယ်ပိုင်ဆုံးဖြတ်ချက် ပြဋ္ဌာန်းထားသည်ကို တွေ့ရသည်။ သင်္ဂြိုဟ်ခြင်းနှင့် အသုဘအခမ်းအနားများမှာ ရှုပ်ထွေးခြင်းမရှိပေ။ မြန်မာများနှင့်နည်းတူ သေဆုံးသူပါးစပ်ထဲသို့ ကူးတို့ခ ပိုက်ဆံထည့်လေ့ရှိသည်။ ယွန်းရှမ်းနှင့် ယိုးဒယားရှမ်းတို့ကမူ လူသေကို မီးရှို့၍သော်လည်းကောင်း၊ မြေမြှုပ်၍သော်လည်းကောင်း သင်္ဂြိုဟ်ကြသည်ကို တွေ့ရသည်။ ရိုးရာယုံကြည်မှုတွင်ကား ရှမ်းလူမျိုးများသည် အစွဲအလမ်းမကြီးကြချေ။ နတ်ရှိသည်ဟု ယုံကြည်ကြသော်လည်း ဝတ္တရားမပျက်ကွက်ရုံမျှသာ ပူဇော်ကြသည်ကို တွေ့ရသည်။ ထို့အပြင် ရှမ်းတို့၏ အယူအဆ အဆောင်အရှောင်များသည်လည်း ဖြစ်ပျက်ခဲ့သော အတွေ့အကြုံပေါ်မူတည်၍ ရှောင်ကြဉ်ကြခြင်း၊ ဆောင်ယူကြခြင်းပင် ဖြစ်ပေသည်။ ဝတ်စားဆင်ယင်မှုသည်လည်း ရှေးခေတ်က ရှမ်းလူမျိုးများသည် အဝတ်ဖြူကို ဝတ်ဆင်ကြဟန်တူသည်။ ထို့ကြောင့် တရုတ်တို့က "ပါးယီ-ဝတ်စုံဖြူဝတ်ဆင်သူ" ဟု ခေါ်ဆိုကြခြင်းဖြစ်သည်။ ယခုအခါ ရှမ်းလူမျိုးတို့သည် ရိုးရာဝတ်စုံအဖြစ် အမျိုးသားများက ဖျင်နီရှမ်းဘောင်းဘီပွပွနှင့် တိုက်ပုံအင်္ကျီကို ဝတ်ဆင်ကြပြီး အမျိုးသမီးများကမူ ခေါင်းပေါင်းပေါင်းတတ်ကြပြီး မြန်မာအမျိုးသမီးကဲ့သို့ ထဘီကို ဝတ်ဆင်ကြသည်။ အစားအစာတွင်လည်း ရှမ်းများသည် ပဲပုပ်မပါ၍ မပြီးသဖြင့် "ရှမ်းပဲပုပ်" ဟုပင် မြန်မာလူမျိုးများက ချစ်စနိုးခေါ်ကြလေသည်။ ရှမ်းများကလည်း မိမိကိုယ်ကို "တိုင်းထိုနောက်" (ရှမ်းပဲပုပ်) ဟုပင် ဂုဏ်ယူစွာ ခေါ်တတ်ကြသည်။ နာမည်ကျော်ကြား လူကြိုက်များသော ရှမ်းအစားအစာ အကြောင်းများကိုလည်း ဤအခန်းတွင် ဖော်ပြထားသည်ကို တွေ့မြင်ရသည်။

ၑင်းအပြင်ရှမ်းလူမျိုးများ၏ တူရိယာနှင့်သီချင်းများ၊ ရှမ်းပြဇာတ်

ပေါ်ပေါက်လာပုံ ရှမ်းခေတ်သစ်သီချင်းဖန်တီးသူများ အကြောင်းကိုလည်း ဗဟုသုတအဖြစ် မှတ်သားသိရှိရပါသည်။ စာပေသည် လူမျိုးတစ်မျိုးအတွက် မရှိမဖြစ်သော အရာဖြစ်သောကြောင့် ရှမ်းလူမျိုးများ၏ စာပေအကြောင်းများကိုလည်း ဖတ်ရှုမှတ်သား ရပါသည်။ နောက်ဆုံး၌ စိတ်ဝင်စားပြီး မှတ်သားဖွယ်ရာအပြည့်ပါသော "ရှေးကျ၍ ခေတ်မီနေသော ရှမ်းအဆိုအမိန့်များ"ကို စုစည်းတင်ပြထားခြင်းဖြင့် အဆုံးသတ်ထားပါသည်။

၎င်း"ရှမ်းတိုင်းရင်းသားတို့၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ" ကျမ်းစာသည် ရှမ်းလူမျိုးတို့၏ မူလဘူတမှစ၍ မျက်မှောက်ခေတ်အထိ ရှမ်းအကြောင်းကို စုစည်းတင်ပြထားခြင်းဖြစ်ပေသည်။ ရှမ်းလူမျိုးတို့၏ အမည်၊ ရှမ်းလူမျိုးတို့၏ သမိုင်း၊ ရှမ်းလူမျိုးတို့၏ ယုံကြည်ကိုးကွယ်မှုနှင့် ရှမ်းလူမျိုးတို့၏ ဓလေ့ထုံးစံများကို အခန်း (၇) ခန်းဖြင့် ဖော်ပြထားလေသည်။



ပွဲတိုင်း မပါမပြီး မတီးမပြည့်သည့် ရှမ်းအိုးစည်ကြီး (ရှမ်းကြီး)





နန်းချောင်နန်းတော် (တာလီဒေသ ယူနန်ပြည်နယ်)



ရှေးခေတ် မိုးမိတ်ဟော်နန်း



မိုးနဲစော်ဘွား



ကျိုင်းတုံမြို့ပတ်လည် မြေကျုံး



















ဆင်စွယ်၊ ငွေထည်၊ သံထည် အသုံးအဆောင်များ




နှီးဝါးဖြင့် ယက်လုပ်ထားသော ရှမ်းလူမျိုးတို့၏ အသုံးအဆောင်များ။



သစ်စေး၊ အင်စေးဖြင့် သုတ်လိမ်းထားသော ရှမ်းအသုံးအဆောင်များ



ရှမ်းစုပေါင်းရှင်ပြုပွဲ ဝမ်ဝကျောင်း ကျေးသီးမြို့နယ်



ရှမ်းကိန္နရီ နှင့် တိုးနယားအက





ရှမ်းကြီး



ရှမ်းလူငယ်များ

နိဂုံး

ဤကမ္ဘာပေါ်တွင် လူမျိုးပေါင်းများစွာရှိလေသည်။ ထိုလူမျိုးပေါင်းများစွာအနက် ရှမ်းမျိုးသည်လည်း လူမျိုးကြီးတစ်မျိုးအဖြစ် ပါဝင်လေသည်။ ထိုင်းတရုတ်အနွယ်ဝင်ဖြစ်သည်ဟု သမိုင်းပညာရှင်များက ဆိုသည်။ လူဟူသော သတ္တဝါသည် တစ်ဦးတည်း၊ တစ်မျိုးတည်း နေထိုင်နိုင်သော သတ္တဝါမဟုတ်ပေ။ ဆိုင်ရာဆိုင်ရာ မိမိတို့၏ ပတ်ဝန်းကျင် အသိုင်းအဝိုင်းတို့နှင့် တွေ့ကြုံဆက်ဆံကြရလေသည်။ ထိုကဲ့သို့ ဆက်ဆံလာခဲ့သဖြင့် လူမျိုး၏ သမိုင်းကြောင်းများ ဖြစ်ပေါ်လာလေသည်။

ထိုသမိုင်းကြောင်းပေါ်တွင် အခြေအနေ အမျိုးမျိုးကြောင့် ပြောင်းလဲမှုများ အမျိုးမျိုး ဖြစ်ပေါ်လာခဲ့ရသည်။ ရှမ်းလူမျိုးတို့သည်လည်း သမိုင်းရေစီးကြောင်းပေါ်တွင် အမျိုးမျိုး တွေ့ကြုံလာခဲ့သည့် သူများပင် ဖြစ်ကြသည်။ သာတစ်ခါ နာတစ်လှည့် စသည်ဖြင့် အလှည့်အပြောင်း အမျိုးမျိုးကို ဖြတ်သန်းလာခဲ့ရသူများ ဖြစ်ကြသည်။ ထိုသမိုင်းလမ်းကြောင်းတစ်လျှောက်တွင် ဘဝငြိမ်းချမ်းရေးအတွက်လည်းကောင်း၊ တိုးတက်ပြောင်းလဲရေး အတွက်သော်လည်းကောင်း ပတ်ဝန်းကျင်ကို ရှောင်လွှဲ၍ မရနိုင်ဘဲ ဘဝတိုက်ပွဲကို ရင်ဆိုင်ခဲ့ကြရသည်။ မိမိပတ်ဝန်းကျင်ရှိ လူမျိုးများနှင့် တစ်ခါတစ်ရံ တိုက်ခိုက်ကြရသည်။ တစ်ခါတစ်ရံ အတူတကွ ပူးပေါင်းလက်တွဲကြရသည်။ တစ်ခါတစ်ရံ မိမိပိုင်နယ်ပယ်များ ဆုံးရှုံးခဲ့ရပြီး တစ်ခါတစ်ရံ သူတစ်ပါးပိုင်နယ်မြေများကို သိမ်းပိုက်နိုင်ခဲ့သည်လည်း ရှိခဲ့သည်။ မိမိအချင်းချင်းလည်း တိုက်ခိုက်ကြရသည်လည်း ရှိသည်။

ပြောင်းလဲခြင်းသည် အမြဲတမ်းပြောင်းလဲနေသဖြင့် ရှမ်းလူမျိုးတို့နေထိုင်ခဲ့သော အရပ်ဒေသ၊ ပိုင်ဆိုင်ခဲ့သောနယ်မြေများ၊ ယုံကြည်ကိုးကွယ်လာခဲ့သည့် ဘာသာရေးများသည်လည်း ခေတ်ရေစီးကြောင်းနှင့်

အတူ ပြောင်းလဲလာခဲ့ရလေသည်။ ခေတ်ရေစီးကြောင်းကို မည်သူမျှ လွန်ဆန်၍ မရနိုင်ပေ။ မည်သည့်လူမျိုးမှ လွန်ဆန်၍ မရနိုင်ပေ။ လူတိုင်းသည် စိုးရိမ်ကြောက်လန့်မှုကြောင့် အားကိုးရာ၊ ခိုကိုးရာကို ရှာဖွေလာခဲ့ကြခြင်းဖြစ်လေသည်။ ရှေးပဝေသဏီမှစ၍ လူမျိုးတိုင်းလူမျိုးတိုင်းသည် ဆိုင်ရာနတ်ကိုးကွယ်မှု ရှိခဲ့ကြသည်။ တော၊ တောင်၊ ရေ၊ မြေ၊ သစ်ပင် စသည်တို့ကို ကိုးကွယ်လာခဲ့ကြသည်။

ရှမ်းလူမျိုးများသည်လည်း မူလအစက နတ်ကိုးကွယ်သူများ၊ တော၊ တောင်၊ သစ်ပင်ကိုးကွယ်သူများ၊ သေဆုံးပြီးသော မိဘဘိုးဘွားကို ကိုးကွယ်သူများဖြစ်ကြပေမည်။ ပတ်ဝန်းကျင်၏ ပယောဂကြောင့်လည်း အယူဝါဒများ ပြောင်းလဲတတ်ကြသဖြင့် မဟာယာနဗုဒ္ဓဘာသာကို ယုံကြည်ကိုးကွယ်သော ပတ်ဝန်းကျင်သို့ ရောက်လာသော ရှမ်းများသည်လည်း အေဒီရာစုနှစ် အစောပိုင်းကာလတွင် တရုတ်၊ တိဗက်၊ မွန်ဂိုးလီးယားတို့ထံမှ မဟာယာနဗုဒ္ဓဘာသာကို ပြောင်းလဲကိုးကွယ် လာခဲ့ကြခြင်း ဖြစ်ပေသည်။

လောကတွင် အကြောင်းအကျိုးနှင့် မကင်းနိုင်ပေ။ ထိုသို့ မကင်းနိုင်သည်နှင့်အညီရှမ်းလူမျိုးများ တရုတ်ပြည်အတွင်းပိုင်းမှ အာရှအရှေ့တောင်ဘက်ကို ဆင်းသက်လာခြင်းဟူသောအကြောင်းကြောင့် တောင်ပိုင်းထေရဝါဒဗုဒ္ဓဘာသာကို ကိုးကွယ်ရခြင်း၏ အကျိုးဆက်ကို ခံစားနေကြရခြင်းဖြစ်ပေသည်။ ရှမ်းလူမျိုးများကို ထေရဝါဒဗုဒ္ဓဘာသာ ဖြစ်လာအောင် သမိုင်းဖြစ်ရပ်များက တွန်းအားပေး ဖန်တီးပေးခဲ့ခြင်းဖြစ်သည်ဟု ဆိုရပေမည်။ ရှမ်းတို့သည် မူလနေရာဟောင်းဖြစ်သော တရုတ်ပြည်ကို စွန့်ခွာလာခဲ့ကြရပြီး ထေရဝါဒဗုဒ္ဓဘာသာထွန်းကားမည့်နေရာသို့ ရောက်အောင် ကံကြမ္မာက တွန်းအားပေး ဖန်တီးပေးလာခြင်း ဖြစ်ပေသည်။ ထို့ကြောင့် ထေရဝါဒဗုဒ္ဓဘာသာ ထွန်းကာမည့် နေရာဒေသတို့တွင်

ရောက်ရှိကာ အခြေချ နေထိုင်လာခဲ့ကြရသည်။ အေဒီ ၁၃ ရာစုမှစ၍ ရှမ်းလူမျိုးများသည် ထေရဝါဒဗုဒ္ဓဘာသာကို လက်ခံယုံကြည် လာခဲ့ကြသည်။ မွန်ခမာတို့ထံမှလည်းကောင်း၊ မြန်မာတို့ထံမှလည်ကောင်း စစ်မှန်သော ထေရဝါဒဗုဒ္ဓဘာသာကို ရရှိခဲ့ခြင်းဖြစ်သည်။

ထေရဝါဒ ဗုဒ္ဓဘာသာဖြစ်သော ရှမ်းလူမျိုးများသည် ဘာသာတရားကို လွန်စွာရိုသေကိုင်းရှိုင်းကြလေသည်။ ပရိယတ္တိ ပဋိပတ္တိကျွမ်းကျင်သော ရှမ်းစာဆိုတော်ကြီးများလည်း များစွာပေါ်ထွက်လာခဲ့သည်။ ဘာသာရေးနှင့်ပတ်သက်၍ ရှမ်းလူမျိုးများသည် မိမိတို့၏ ရှမ်းဘာသာများကိုသာမက ဗုဒ္ဓဘာသာဝင်မြန်မာလူမျိုးများအတွက် ထင်ရှားကျော်ကြားသော မြန်မာကျမ်းပြု ရှမ်းဆရာတော်ကြီးများလည်း ရှိခဲ့သည်။

၎င်းတို့အနက် အချို့မှာ-

(၁) သက္ကရာဇ် ၅၃၆ ခုနှစ်တွင် မင်းပြုသောနရပတိစည်သူ မင်းလက်ထက် သီဟိုဠ်ကျွန်းမှ 'ဆပဒမထေရ်' ပုဂံပြည်သို့ ကြွလာရာတွင် လိုက်ပါလာသော အာဂန္တုကရဟန်းလေးပါးအနက် တစ်ပါးမှာ ကမ္ဘောဇတိုင်း၏ဘုရင့်သားတော်(ရှမ်းလူမျိုး) ဖြစ်ကြောင်း၊[၁]

(၂) သက္ကရာဇ် ၈၄၂ ခုနှစ်တွင် မင်းပြုသော ဒုတိယမင်းခေါင်လက်ထက်၌ ကျော်ဇောထင်ရှားသော"အရှင်မဟာရဋ္ဌသာရ" သည် (တိုင်း) ရှမ်းအနွယ်ဖြစ်ကြောင်း၊[၂]

(၃) ကျမ်းပြုအကျော် ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီးသည်လည်း ရှမ်းလူမျိုးဖြစ်ကြောင်းကို ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိတွင်-"၄င်းဆရာတော်ဘုရားကြီးကို ရွှေတောင်မြို့၊

---

၁။ ဓမိန္ဒ(ဦး) မိုးမိတ်ရာဇဝင်တော်ကြီး၊ နှာ၊ ၃၁။

၂။ ၎င်းစာ။

ကျီးသဲရွာ၊ သျှမ်းတန်းကလေးရပ်၌ သက္ကရာဇ် ၁၁၇၉ ခုနှစ် သီတင်းကျွတ်လပြည့်ကျော်ရှစ်ရက်၊ ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။ ခမည်းတော် မယ်တော်တို့၏ အမည်တို့ကို မသိရလေ။ ရှမ်းလူမျိုးတည်း"[၁] ဟု ဖော်ပြထားသည်။

(၄) မဃဒေဝလင်္ကာသစ် ကျမ်းပြုအကျော် မန်လည်ဆရာတော်သည်လည်း ရှမ်းလူမျိုးဖြစ်လေသည်။ သက္ကရာဇ် ၁၂၇၄ ခု နှစ်တွင် သီပေါစော်ဘွားကြီး၏ ရဟန်းခံပွဲသို့ ဆရာတော်ဘုရားကြီးကိုယ်တိုင် ကြွရောက်ချီးမြှောက်တော်မူခဲ့သည်။[၂] ထိုအချိန်က မန်လည်ဆရာတော်ဘုရားကြီးသည် သီပေါစော်ဘွားကြီးအား မိမိသည်ရှမ်းဘာသာဖြင့် ပိဋကတ်တော်များကို ပြန်ဆိုရန်ဆန္ဒရှိကြောင်း မိန့်ကြားခဲ့သည်ဟု ဆိုသည်။

(၅) မြန်မာပြည်တွင် လူသိများပြီး ထင်ရှားကျော်ကြားသော ရဟန်းစာဆိုတော်တစ်ပါးဖြစ်သည့် ထီးချိုင့်တည်တောဆရာတော်ဘုရားကြီး ဘဒ္ဒန္တဒေဝိန္ဒသည်လည်း ရှမ်းမျိုးနွယ်ဖြစ်သည်။

ယခုလက်ရှိ အခြေအနေအရ ကမ္ဘာပေါ်တွင် ထေရဝါဒဗုဒ္ဓဘာသာကို ကိုးကွယ်သော လူမျိုးတို့တွင် ရှမ်းလူမျိုးစုသည် လူဦးရေ အများဆုံးဖြစ်သည်ဟု ဆိုရပေသည်။ အဘယ်ကြောင့်ဆိုသော် ကမ္ဘာပေါ်၌ ဗုဒ္ဓဘာသာကိုးကွယ်သူ လူဦးရေသည် သန်း ၅၀၀ ကျော်ရှိလေသည်။ ထိုအထဲတွင် ထေရဝါဒဗုဒ္ဓဘာသာ ကိုးကွယ်သော နိုင်ငံများမှာ ထိုင်းနိုင်ငံ၊ လောနိုင်ငံ၊ မြန်မာနိုင်ငံ၊ ကမ္ဘောဒီးယားနိုင်ငံ၊ သီရိလင်္ကာနိုင်ငံတို့သာ ဖြစ်ကြသည်။

---

၁။ ကျီးသဲလေးထပ်ဆရာတော်၊ ဇိနတ္ထပကာသနီကျမ်း၊ နှာ၊ ၈၊ (မူဟောင်း)
၂။ သန့်စင်(ဦး)၊ ဒုတိယသာသနာပြုစာတမ်း၊ နှာ၊ ၄၂။

အာဆိုပါနိုင်ငံတို့တွင် လူဦးရေအများဆုံး နိုင်ငံမှာ ထိုင်းနိုင်ငံဖြစ်၍ ခရစ်နှစ် ၁၉၉၉ ခုတွင် လူဦးရေ (၆၂)သန်း ကျော်ရှိသည်ဟု သိရပါသည်။ လောနိုင်ငံသည်လည်း လူဦးရေ (၄) သန်းကျော်ရှိလေသည်။ ထိုနိုင်ငံနှစ်နိုင်ငံသည် ရှမ်းလူမျိုးများ၏ လွတ်လပ်သောနိုင်ငံ ဖြစ်ကြလေသည်။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံ အတွင်းရှိ ရှမ်းတိုင်းရင်းသား သုံးသန်းကျော်တို့သည်လည်းကောင်း၊ တရုတ်ပြည်အတွင်းရှိ ရှမ်းလူမျိုး သန်းပေါင်းများစွာသည်လည်းကောင်း ထေရဝါဒဗုဒ္ဓဘာသာကို ကိုးကွယ်သောသူများပင် ဖြစ်ကြလေသည်။ ရှမ်းလူမျိုးများသည် ဘာသာရေးကံကြမ္မာကောင်းလှသဖြင့် ဘုရားရှင်၏ စစ်မှန်သော တရားတော်ကို လိုက်နာကျင့်သုံးရသော ထေရဝါဒဗုဒ္ဓဘာသာဝင်များ ဖြစ်လာခဲ့ခြင်းဖြစ်သည်ဟု ဆိုရပေမည်။

ဤ "ရှမ်းတိုင်းရင်းသားတို့၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ" ကျမ်းစာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရှိ ရှမ်းတိုင်းရင်းသား၏ လူမှုရေး၊ ဘာသာရေး သမိုင်းလည်းဖြစ်ပေမည်။ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွက် အရေးပါသော သမိုင်းလည်းဖြစ်ပေမည်။ ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း မှီတင်းနေထိုင်ကြသော တိုင်းရင်းသားများအနက် ရှမ်းတိုင်းရင်းသားသည် မြန်မာလူမျိုးများနှင့်အတူ ထေရဝါဒဗုဒ္ဓဘာသာကို ယုံကြည်ကိုးကွယ်သော တိုင်းရင်းသားဖြစ်သည်။ ထေရဝါဒဗုဒ္ဓဘာသာကိုးကွယ်မှုနှင့် ပတ်သက်၍ မြန်မာလူမျိုးများသည် ရှမ်းလူမျိုးများအပေါ် ကျေးဇူးများစွာရှိသော လူမျိုးဖြစ်ပေသည်။ ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် ပြည်နယ်နှင့်တိုင်း ၁၄ ခုဖြင့် ဖွဲ့စည်းထားသော နိုင်ငံတော်ဖြစ်သဖြင့် ပြည်နယ်ခုနစ်ခုအနက် ရှမ်းပြည်နယ်သည် ဗုဒ္ဓဘာသာ အထွန်းကားဆုံးပြည်နယ်ဖြစ်သည်။ နယ်ချဲ့အင်္ဂလိပ်တို့ အုပ်စိုးစဉ်ကာလက ရှမ်းလူမျိုးများအား ခရစ်ယာန်ဘာသာဝင်ဖြစ်အောင် နည်း

အမျိုးမျိုးဖြင့် စည်းရုံးသိမ်းသွင်းသော်လည်း ရှမ်းလူမျိုးတို့သည် ထေရဝါဒ ဗုဒ္ဓဘာသာ၏ တရားတော်ကိုသာ အားထားရာအစစ်အမှန်အဖြစ် ခံယူကြသည်။ မဆိုစလောက်သော ရှမ်းလူမျိုးအနည်းငယ်သာလျှင် ခရစ်ယာန်ဘာသာသို့ ကူးပြောင်းကြသည်။ မြန်မာနှင့် ရှမ်းလူမျိုးတို့၏ ဘာသာယဉ်ကျေးမှုများသည်လည်း ထေရဝါဒဗုဒ္ဓဘာသာ အပေါ်တွင် အခြေခံခြင်း တူညီကြလေသည်။ ထို့ကြောင့် ရှမ်းတိုင်းရင်းသားများသည် မြန်မာတိုင်းရင်းသားများနှင့် လွန်စွာနီးကပ်သူဖြစ်ပေသည်။

ရှမ်းသမိုင်းတွင် မြန်မာလူမျိုးများနှင့် မကင်းနိုင်သကဲ့သို့ မြန်မာသမိုင်းတွင်လည်း ရှမ်းများပါဝင်ပတ်သက်နေမြဲဖြစ်သည်။ ထို့ကြောင့် တချို့သော ပုဂ္ဂိုလ်များက "ရှမ်းလည်းဗမာ၊ ဗမာလည်းရှမ်း" ဟုပင် ဆိုကြလေသည်။ သမိုင်းကြောင်းတစ်လျှောက်တွင် အကြောင်းအမျိုးမျိုးကြောင့် ဆက်စပ်ပတ်သက်လာခဲ့ကြသော ရှမ်းနှင့်မြန်မာတို့၏ နောက်ကြောင်း ရာဇဝင်သည် မည်သို့ပင်ရှိခဲ့သော်လည်း နောက်ဆုံးတွင် ပင်လုံစာချုပ်ဖြင့် ပြည်မတောင်တန်း ပူးပေါင်းရေးစာချုပ်ကို ခိုင်ခိုင်မာမာချုပ်ဆိုနိုင်ခဲ့ကြလေသည်။ အေးအတူပူအမျှ ဥမကွဲသိုက်မပျက်ဘဲ နယ်ချဲ့အင်္ဂလိပ်တို့ထံ၌ လွတ်လပ်ရေးကို အတူတကွ အရယူခဲ့ကြလေသည်။

နောက်ဆုံးနိဂုံးအာဖြင့် ဤ"ရှမ်းတိုင်းရင်းသားတို့၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ" ကျမ်းစာသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်သမိုင်းအတွက်-

အုတ်တစ်ခဲ သဲတစ်ပွင့်အဖြစ်ဖြင့် ခိုင်မာသော တိုင်းရင်းသားစည်းလုံးညီညွတ်ရေးကို အထောက်အကူပြုပါစေသား၊

ထေရဝါဒဗုဒ္ဓဘာသာ အလင်းရောင်သည်လည်း ပြည်ထောင်စုမြန်မာနိုင်ငံတော် အနှံ့ထွန်းလင်းနိုင်ပါစေသား၊

ထေရဝါဒဗုဒ္ဓဘာသာ ရောင်ဝါသည် ကမ္ဘာအနှံ့ ထွန်းလင်းနိုင်ပြီး ကမ္ဘာသူကမ္ဘာသားများအားလုံး ငြိမ်းချမ်း ကြပါစေသား . . ဟု ဆုတောင်းဆန္ဒပြု၍ ဤကျမ်းစာကို နိဂုံးကမ္ပတ် အဆုံးသတ်လိုက်ရပါသည်။ ။



## သံလွင်မြစ်နှင့် ရှမ်းပြည်နယ်မြေပုံ

တရုတ်ပြည်

တရုတ်ပြည်

ရှမ်းပြည်နယ်

လောနိုင်ငံ

ထိုင်းနိုင်ငံ

SCALE

200 0 200 400

Kilometers

နိဂုံးဂါထာ

(၁) နိဋ္ဌိတောဝတာယံ ဘောန္တော ၊ သကဘာသာဘိသင်္ခတော။
သုန္ဒရ ဒုလ္လဘော သန္တော ၊ တံ ပဿန္တု မနေကသော။
(ပထမ မကာရဝိပုလာ)

(၂) ပရတ္တော ပရတ္တော မယာ၊ တေန သမ္ဘာဒိတော ဒိတော။
ဘဝေဘဝေ ဘဝေ သန္တော၊ ပရတ္တသမ္ဘာဒကော. ဒယော။
(ပထမ တကာရဝိပုလာ)

(၁) ဘောန္တော-ပြည်ထောင်စုမြန်မာပြည်ဖွား အို. . . ရှင်လူအများတို့ သကဘာသာဘိ သင်္ခတော-တိုင်းရင်းမြန်မာ ကိုယ့်ဘာသာဖြင့် သေချာပြုပြင် ရေးသားစီရင် အပ်ပေသော၊ အယံ(ဂန္ထော)-ဤ 'ရှမ်းတိုင်းရင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ' ကျမ်းသည်၊ နိဋ္ဌိတောဝတ-သင်တို့၏ပါရမီ ကူညီပင့်မြှောက် အပြီးအစီးသို့ ရောက်ခဲ့ရလေပြီးတကား၊ အယံဂန္ထော-ရှမ်းလူမျိုးတို့၏ ရာဇဝင်သမိုင်း, ယုံကြည်ကိုင်းရှိုင်းမှုနှင့် ဓလေ့ထုံးစံယဉ်ကျေးမှုများ ပါဝင်သည့် ဤကျမ်းစာသည်၊ သကဘာသာဘိသင်္ခတော-ခေတ်နှင့်လျော်စွာ ကိုယ့်မြန်မာဘာသာဖြင့် လွန်စွာသပ်ရပ် ပြုပြင်စီရင်အပ်သောကြောင့်၊ သုန္ဒရောဝတ-ကြည့်သူခပင်း ဉာဏ်ပွင့်လင်းအောင် ရှင်းလင်းပေးရန် စွမ်းနိုင်ပြန်၍ ကောင်းလည်းကောင်းမွန်လှပေစွတကား၊ သကဘာသာဘိသင်္ခတော-တိုင်းရင်းမြန်မာ ကိုယ့်ဘာသာဖြင့် လွန်စွာရှင်းလင်း ပြုစီရင်ခြင်းကြောင့်၊ ဒုလ္လဘောဝတ-စာပေမှာပျော် များသူတော်နှင့် သင့်လျော်ပေလှ နှစ်ပြည့်ဝ၍ ရလည်းရခဲလှပေစွတကား၊ သန္တော-အရေးအသား ပြောစကားဟု နှစ်ပါးလုံးမှာ လိမ္မာလိုငြား ရဟန်းရှင်လူအများတို့သည်၊ တံ-မှတ်လွယ်ဆောင်လွယ်

အစိပ္ပါယ်ဖြင့် ပြည့်ကြွယ်စုံပြွမ်း ထို "ရှမ်းတိုင်းရင်းသားများ၏ ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ"ကျမ်းကို၊ ပသန္န-မဏိမုခ အာဒါသဝယ် မုခနိမိတ် မျက်နှာရိပ်သို့ မမှိတ်မသုန် ကြည့်ရှုလိုက်ကြပါကုန်လော့။

(၂) တေနမယာ-ဆရာကောင်းထံ ရှိကျိုးနွံလျက် နည်းခံကြိုးကုတ် ထိုသို့သဘောရှိသော အကျွန်ုပ်သည်၊ ပရတ္ထော-ရေးရာ ပြောရာဆင်တန်ဆာဖြင့် လွန်စွာကြီးပွားစေနိုင်သော၊ ပရတ္ထော-သိလွယ်ထင်ရှားသူတစ်ပါးတို့၏ အကျိုးစီးပွားကို၊ သမ္မာဒိတော-ကြည့်စရာ အထပ်ထပ်အောက်ခြေမှတ်ချက်ပါ ကြားညှပ်လျက် အရပ်ရပ်များလှ သုတထွေထွေ စုံစွာဖွေ၍ ပြီးစေအပ်ခဲ့လေပြီ၊ တေန-အများအကျိုး သယ်ပိုးဆောင်ရ ထိုပုညကြောင့်၊ အဟံ-'သုခမိန္ဒ'ဟု နာမသမုတ် အကျွန်ုပ်သည်၊ ဘဝေဘဝေ-ဖြစ်လေရာရာ သံသရာလှိုင်း ဘဝတိုင်းဘဝတိုင်း၌၊ ဥဒိတော-ကမ္ဘာတလွှား ဖောက်ထွင်းသွားအောင် ထင်ရှားကျော်စောသော၊ သန္တော-လူနတ်နှစ်ခြိုက် ညွတ်ဦးခိုက်လျက် ချီးမွမ်းပူဇော်ထိုက်သော၊ ဥဒယော-မေတ္တာ, ကရုဏာ, ဉာဏ်ပညာနှင့် ခမာစသား ကျိုးစီးပွားကို လျင်လျားလွယ်ကူ လောင်းသယမ္ဘူသို့ ပြီးစေနိုင်သောသူသည်၊ ဘဝေ- တစ်ဆင့်ထက်တစ်ဆင့် မြင့်ထက်မြင့်လျက် ထူးတင့်ကဲမို ဖြစ်ရပါလို၏။



အရှင်သုခမိန္ဒ (တန့်ယန်း)
ကျမ်းဘိ-၅၂ (၁၃၆၀-၆၁)
၁၃၆၁ ခု၊ တပေါင်းလဆန်း ၂ ရက်
၂၀၀၀ ပြည့်နှစ်၊ ဇူလိုင်လ၊ ၆ ရက်၊ သောကြာနေ့
နံနက် ၉ နာရီတွင် အဆုံးသတ်သည်။

မှီငြမ်းသည့် ကျမ်းများ-

၁။ ကွန္တယောထင်း(လုံးတစ်ဆင်)
ချောင်ဖယားမြစ်၏ အရှင်သခင်၊ (ထိုင်းဘာသာ)
ဘန်ကောက်၊ ၁၉၉၁။

၂။ ကုလား (ဦး)
မဟာရာဇဝင်တော်ကြီး၊ ပထမအုပ်၊ ရန်ကုန်၊ ၁၉၆၀၊
ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်။

၃။ ကုလား (ဦး)
မဟာရာဇဝင်တော်ကြီး၊ ဒုတိယအုပ်၊ ရန်ကုန်၊ ၁၉၆၀၊
ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်။

၄။ ကုလား (ဦး)
မဟာရာဇဝင်တော်ကြီး၊ တတိယအုပ် ။ ရန်ကုန်၊ ၁၉၆၀၊
ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်။

၅။ ကိုလေး (ဇေယျာမောင်) (ဦး)
မြတ်ဗုဒ္ဓဒေသနာ၊ ဆဋ္ဌမအကြိမ်၊ ရန်ကုန်၊ ၁၉၉၇ ၊
မဥ္ဇူပုံနှိပ်တိုက်။

၆။ ကုံးစင် (စန်း)
တရုတ်ပြည်ရှိ ရှမ်းလူမျိုးများ၊ တရုတ်ဘာသာ။

၇။ ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး
ဇိနတ္ထပကာသနီကျမ်း၊ ရန်ကုန်မြို့၊ ၁၃၂၀ ခု၊
သုဓမ္မဝတီပုံနှိပ်တိုက်။

၈။ ခေမိန္ဒ (အဂ္ဂမဟာပဏ္ဍိတ) (ဦး)
မိုးမိတ်ရာဇဝင်တော်ကြီး၊ တောင်ကြီး၊ ၁၉၄၈၊
ပသေဒရာဇ်ပုံနှိပ်တိုက်။

၉။ စံရီ (လယ်ဝန်)
သိန္နီသမိုင်း မှတ်တမ်း၊ ရှမ်းဘာသာ၊ လက်ရေးမူ။
၁၀။ စိန်ခမ်းလှိုင်း (ရှမ်းဘာသာရေးစာစောင်)
အမှတ် ၁၊ သာသနာနှစ် ၂၅၃၇၊ မန္တလေး၊ သုခဝတီပုံနှိပ်တိုက်။
၁၁။ စိန်ခမ်းလှိုင်း (ရှမ်းဘာသာရေးစာစောင်)
အမှတ် ၃၊ ၁၉၉၅၊ ရန်ကုန်။ ဇလပ်နီပုံနှိပ်တိုက်။
၁၂။ စိန်ထွန်း (ဦး)
ကမ္ဘာပတ်၍ ဘုရားရှာခြင်း၊ ရန်ကုန်။ ၁၉၉၈၊
ကောင်းစံအော့ဖ်ဆက်။
၁၃။ စိုင်းအောင်ထွန်း (ဦး)
ရှေးခေတ်တိုင်းလူမျိုးများ မူလနေထိုင် ရာအရပ်ဒေသမှ အာရှ
အရှေ့တောင်ဘက်သို့ ဆင်းသက်ပြန့်ပွားလာပုံ။ ၁၉၆၇ ခုနှစ်၊
ဇန်နဝါရီလ၊ ပြည်ထောင်စုမြန်မာနိုင်ငံ တက္ကသိုလ်များ သုတေ
သနကွန်ကရက်စာတမ်း။
၁၄။ တရုတ်မှတ်တမ်း
Chiu T'ang Shu, Chapter,179 on Nan Cho.
၁၅။ - - - - - - - - - - - -
တိုင်းရင်းသားလူမျိုးများ၏ နယ်ချဲ့ဆန့်ကျင်ရေးသမိုင်း၊ ၁၉၇၁၊
စာပေဗိမာန်ပုံနှိပ်တိုက်။
၁၆။ နန္ဒသာမိ - မိုင်းနောင် (စိုင်း)
အလယ်ခေတ် ရှမ်းသမိုင်း၊ (ရှမ်းဘာသာ) ၁၉၈၇။
၁၇။ - - - - - - - - - - - - - -
ပြည်ထောင်စုမြန်မာနိုင်ငံ တိုင်းရင်းသား ယဉ်ကျေးမှုရိုးရာ
ဓလေ့ထုံးစံများ(ရှမ်း)၊ ရန်ကုန်၊ ၁၉၆၈၊ စာပေဗိမာန် ပုံနှိပ်တိုက်။

၁၈။ မဟာဓမ္မသင်္ကြံ
သာသနာလင်္ကာရစာတမ်း၊ ရန်ကုန်၊ ၁၉၅၆၊ ဟံသာဝတီ
ပိဋကတ်ပုံနှိပ်တိုက်။
၁၉။ မောင်မောင်တင်(ဦး)
ကုန်းဘောင်ဆက် မဟာရာဇဝင်တော်ကြီး၊ ဒုတိယတွဲ၊
တတိယအကြိမ်၊ ရန်ကုန်၊ ၁၉၆၇ ၊ လယ်တီမဏ္ဍိုင်ပုံနှိပ်တိုက်။
၂၀။ မုန့် (မဟာ)
ဆိုင်တဲင်း ၊ အမှတ် ၄ ၊ (ရှမ်းဘာသာ)၊ ဘန်ကောက်၊ ၁၉၉၈။
၂၁။ မုန့် (မဟာ)
ရှမ်းစာပေသုတေသနစာတမ်း၊ရှမ်းဘာသာလက်ရေးမူ၊ ၁၉၉၇။
၂၂။ မြန်မာ့အဘိဓာန်
ရန်ကုန်၊ မြန်မာစာဦးစီးဌာနအဖွဲ့။
၂၃။ မြန်မာ့စွယ်စုံကျမ်း
အတွဲ (၁ ၊ ၄ ၊ ၇ ၊ ၈ ၊ ၁၁ ၊ ၁၂ ၊ ၁၄) ရန်ကုန်၊ ၁၉၇၀၊
စာပေဗိမာန်ပုံနှိပ်တိုက်။
၂၄။ မြန်မာ့စွယ်စုံကျမ်းနှစ်ချုပ်
(၁၉၉၂ ၊ ၁၉၉၃ ၊ ၁၉၉၄ ၊ ၁၉၇၈ ၊ ၁၉၉၇)
ရန်ကုန်၊ ၊ စာပေဗိမာန်ပုံနှိပ်တိုက်။
၂၅။ - - - - - - - - - - -
မြန်မာ-အာသံချစ်ကြည်ရေး ဗုဒ္ဓဘာသာမိတ်ဆက်အဖွဲ့၏
အစီအရင်ခံစာ ရန်ကုန်၊ ၁၉၄၈ ၊ သုဓမ္မဝတီပုံနှိပ်တိုက်။
၂၆။ ရာဇိန္ဒမဟာထေရ် (အရှင်)
သာသနဗဟုဿုတပ္ပကာသနီ၊ (ဒုတိယအကြိမ်)ရန်ကုန်၊ ၁၉၉၃၊
ကျော်ဝင်းဆွေပုံနှိပ်တိုက်။

၂၇။ ဒေါက်တာစိုင်းစံအိုက်
ရွှေရတု ရှမ်းပြည်နယ် မဂ္ဂဇင်း၊ ရန်ကုန်၊ ၁၉၉၇၊ ၊
တိုးတက်ရေးပုံနှိပ်တိုက်။
၂၈။ ဝိလာသ (ဘဒ္ဒန္တ) (မန်ဟိုင်း၊စယ်လန့်)
သင်္ဂါယနာတင် သမိုင်းဦး (ရှမ်းဘာသာ)
၂၉။ ဝိရဝုမ်း (မဟာဆိလား)
လောလူမျိုးတို့၏ ဩဇာအာဏာ၊ (လောဘာသာ)၊
ဝိန်းဂျန်း ၊ ၁၉၉၆ ။
၃၀။ သောဘိတ (ဦး)
ဖောင်တော်ဦးဘုရားသမိုင်း၊ ဒုတိယအကြိမ်။
ရန်ကုန်၊ ၁၉၅၇ ၊ သုဓမ္မဝတီပုံနှိပ်တိုက်။
၃၁။ သန့်စင် (ဦး)
ဒုတိယသာသနာပြုစာတမ်း၊ မန္တလေးမြို့၊
၁၉၂၇၊ သမဝါယမဟိတ သတင်းစာပုံနှိပ်တိုက်ကြီး။
၃၂။ သန်းထွန်း (ဦး)
ခေတ်ဟောင်းမြန်မာရာဇဝင်၊ ရန်ကုန်။
၃၃။ ပူစာရေးမိုင်းယု(ရှမ်းစာဆိုတော်)၏ဟောပြောချက်။
၃၄။ ဦးစိုင်းဖ(နမ္မတူ)၏ နှစ်သစ်ကူးဟောပြောချက်။
၃၅။ ပူလွယ်သန်း(ကျိုင်းတုံ-စဖ်နှစ်)၏ ပြောပြချက်။
၃၆။ ရှိန်(ခေး) ရှမ်းစာပေသုတေသနစာတမ်းလက်ရေးမူ။
၃၇။ - - - - - - - - -
"Assam, "Microsoft ® Encrta© Encyclopedia 2000. © 1993-1999 Microsoft Corporation. All-right reserved.
၃၈။ - - - - - - - - - - - -
Burma Foreign Depertment Proceddіng. No. Dec. 1886

၃၉။ Cochrane. W.W
The Shans. Vol. I, Rangoon, 1915,
Superintendent, Government Printing. Burma.

၄၀။ Cochrane. W.W & Leslie Milne. Mrs.
Shans At Home, London, 1910,
Hazell, Watson and Viney. LD.

၄၁။ Douglas & Hallett
Historical Sketch of the Shans.

၄၂။ Khur, Hsen..
The Origin of Tais and A Short History of Shan State. 1996,(Written in Shan)

၄၃။ Luang Suriyabongs, Dr. M.D.·
Buddhism in Thailand, 1954, Bangkok.

၄၄။ Luce, G.H..
The early Syam in Burma's History.

၄၅။ Luca Invernizzi Tettoni
A Guide to Chiang Mai and Northen Thailand, 1989, Thailand.

၄၆။ Mung (Maha)
Shan State Journal, Vol. 3, No.2.
March. 2001. (Printed in Shan)

၄၇။ Saimong Mangrai (Sao)
The Shan State and The British Annexation,
Cornell University. Ithaca. New York. August 1965.

၄၈။ Saimong Mangrai (Sao)
The Padaeng Chronicle and the Jengtung State

Chronicle Translated, Michigan Papers on South and Sotheast Asia, 1981.

၄၉။ Sasananda, Ph.D.
History of Buddhism in Assam, New Delhi, 1986, Bahri Publications Private Ltd.

၅၀။ Scott, George, (J)
Buddhism in the Shan State, Journal of The Royal Asiatic Society, 1911. cf. xxiv

၅၁။ Tern Moeng (Sao),
Shan-EngLish Dictionary, 1995, dp Dunboody Press, Kensington, Maryland, U.S.A..

၅၂။ - - - - - - - - - -
ThaiLand in Brief, Vol.III, Public Relations Department, Office of The Prime Minister, BangKok, Thailand, 1977

၅၃။ - - - - - - - - - -
Voices of The World, National Geographic Society, 1999.

၅၄။ William Clifton Dodd, D.D
The Tai Race, The Torch Press, Cedar Rapids IOWA, 1923.

၅၅။ Wyatt, David K.
Thailand, A Short History, 1982,Bangkok, Thailand

၅၆။ WWW.joshuaproject.net/Dong peole

# ရှမ်းတိုင်းရင်းသားများ၏
# ယုံကြည်ကိုးကွယ်မှုနှင့် ဓလေ့ထုံးစံများ



